## ပဥ္စမနှိပ်ခြင်း အမှာစာ

မိရိုးဖလာလွှန် ဗုဒ္ဓဘာသာစာအုပ်ကို ၁၉၇၅-ခု ဩဂုတ်လတွင် ပထမအကြိမ် ပုံနှိပ်ထုတ်ဝေခဲ့သည်။ ၁၉၇၈-ခု ဖေဖော်ဝါရီလတွင် ဒုတိယအကြိမ်၊ ၁၉၈၄/၁၉၉၁ ခု ဇန်နဝါရီလတွင် တတိယ စတုတ္ထအကြိမ် ပုံနှိပ်ထုတ်ဝေခဲ့သည်။ စတုတ္ထနှိပ်ခြင်း မိရိုးဖလာလွှန် ဗုဒ္ဓဘာသာစာအုပ်များ ပြင်ရှင်းထုတ်ဝေရာ နည်းသစ်စာအုပ်တိုက်တွင် ကုန်နေသည်မှာ ကာလအတန်ကြာသွားပြီ ဖြစ်ပါသည်။ စာအုပ်ဆိုင်များနှင့် တသီးပုဂ္ဂလ စာဖတ်သူများထံမှ အမှာစာများ ထပ်မံ ရောက်ရှိခဲ့ပါသည်။

နိုင်ငံတော် သံဃာမဟာနာယကအဖွဲ့ ညွှန်ကြားချက်အရ နိုင်ငံတစ်ဝန်းလုံးတွင် ဗုဒ္ဓယဉ်ကျေးမှု သင်တန်းများ ဖွင့်လှစ်၍ စာမေးပွဲများ နှစ်စဉ်ကျင်းပလျက် ရှိနေပါသည်။ ထိုသင်တန်းများကို တာဝန်ယူ သင်ပြကြသည့် ဆရာ၊ ဆရာမများသည် ထေရဝါဒ ဗုဒ္ဓဘာသာ ယဉ်ကျေးမှုများကို ပါဠိတော် အဋ္ဌကထာ ဋီကာတို့တွင် ပြဆိုချက်များနှင့် ရှင်းလင်းရေးသားထားသော မိရိုးဖလာလွှန် ဗုဒ္ဓဘာသာ စာအုပ်ကို အားကိုးအားထား ပြုကြပါသည်။

စာမေးပွဲ အောင်မြင်သူများအား မိရိုးဖလာလွှန် ဗုဒ္ဓဘာသာ စာအုပ်ကို ဆုအဖြစ် ချီးမြှင့်ပေးလေ့ ရှိကြပါသည်။ ငယ်စဉ်က ဘုန်းတော်ကြီးကျောင်းများမှ ဗုဒ္ဓယဉ်ကျေးမှု အခြေခံများကို လေ့လာခွင့် မရခဲ့ကြသော ခေတ်လူငယ် လူလတ်၊ လူကြီးများလည်း မိရိုးဖလာလွှန် ဗုဒ္ဓဘာသာ စာအုပ်ကို အထူးနှစ်ခြိုက်စွာ ဝယ်ယူလေ့လာလျက် ရှိကြပါ

သည်။ မိမိတို့မြို့နယ် စာအုပ်ဆိုင်များတွင် ဝယ်မရသောအခါ ပင်ရင်း နည်းသစ်စာအုပ်တိုက်သို့ မှာကြားကြပါသည်။

ထို အမှာစာများအရ မိရိုးဖလာလွန် ဗုဒ္ဓဘာသာ ပဌမ နှိပ်ခြင်းကို ပုံနှိပ်ထုတ်ဝေရန် စီစဉ်ခဲ့သော်လည်း အခြေအနေ အကြောင်းအမျိုးမျိုးကြောင့် နှောင့်နှေး ကြန့်ကြာခဲ့သဖြင့် ယခု ၁၉၉၂-ခုနှစ်ဦးတွင်မှ အောင်မြင်စွာ ပုံနှိပ်ဖြန့်ချိနိုင်ခြင်း ဖြစ်ပါသည်။

ဤမိရိုးဖလာလွန် ဗုဒ္ဓဘာသာစာအုပ်သည် ဗုဂံ အနော်ရထာနှင့် ရှင်အရဟံတို့ မျိုးစေ့ချပေးခဲ့၍ ဘိုးဘေးဘီဘင် အစဉ်အဆက်တို့ လိုက်နာကျင့်သုံးခဲ့သည့် ထေရဝါဒ ဗုဒ္ဓယဉ်ကျေးမှုများကို ရှင်းလင်း ရေးသားထားသော စာအုပ်ဖြစ်ရာ ထေရဝါဒ ဗုဒ္ဓဘာသာမှာ ပိုနေ၍ ဖျက်စရာ၊ မှားနေ၍ ပြင်စရာ၊ လိုနေ၍ ဖြည့်စရာမရှိသကဲ့သို့ ထိုထေရဝါဒ ဗုဒ္ဓယဉ်ကျေးမှုကို အခြေခံ၍ ရှင်းလင်း ရေးသားထားသော ဤမိရိုးဖလာလွန် ဗုဒ္ဓဘာသာ စာအုပ်မှာလည်း ဖျက်စရာ၊ ပြင်စရာ၊ ဖြည့်စရာ တစ်စုံတစ်ရာ မရှိဟု ယူဆပါသဖြင့် ပြင်ဆင်ဖြည့်စွက်ခြင်း မပြုဘဲ စတုတ္ထအကြိမ် ရိုက်အတိုင်း ထပ်မံပုံနှိပ် ထုတ်ဝေလိုက်ပါသည်။

ပြည်ထောင်စု မြန်မာနိုင်ငံ တိုင်းရင်းသားအားလုံး ဗုဒ္ဓဘာသာ မြန်မာ့ယဉ်ကျေးမှုအမွေအနှစ်များကို အမြဲထိန်းသိမ်းနိုင်ကြပြီး လူ့နတ် နိဗ္ဗာန် သုံးတန်သော ချမ်းသာကို ခံစားနိုင်ကြပါစေသတည်း။

သောင်းလွင်

၄-၃-၉၂

# မာတိကာ

အကြောင်းအရာ — စာမျက်နှာ

## အခန်း (၁)

### ဘာသာရေး အခြေခံ

## အခန်း (၂)

## ဘုရားရတနာ

## မာတိကာ



## အခန်း (၄)

## တရားရတနာ

## အခန်း (၄)

### သံဃာရတနာ



## အခန်း (၅)

### ဩကာသကန်တော့ခန်း

## အခန်း (၆)

## ဩကာသဆုတောင်းခန်း

မာတိကာ

## အခန်း (၇)

### သီလခန်း



## အခန်း (၈)

### ဘုရားရှိခိုးခြင်း

## အခန်း (၉)

## ဆွမ်း ရေချမ်း ဆီမီးကပ်လှူခြင်း

## အခန်း (၁၀)

### ပရိတ်ရွတ်ဖတ်ခြင်း



## အခန်း (၁၁)

### မေတ္တာပို့ခြင်း

## အခန်း (၁၂)

## အမျှဝေခြင်း

## မာတိကာ



## အခန်း (၁၃)

## ဘာဝနာခန်း (ပုတီးစိပ်)

## မာတိကာ



## အခန်း (၁၄)

## ဒါနခန်း

## မာတိကာ

# နိဒါန်း

## ဤစာအုပ် အဘယ့်ကြောင့် ရေးရသလဲ

စာရေးသူတွင် သမီး ၃-ယောက် သား တစ်ယောက် ရှိ၏၊ အကြီးဆုံးမှာ ၁၂-နှစ်ခွဲယ်ရှိ၍ အငယ်ဆုံးမှာ ၆-နှစ်ခွဲယ် ရှိ၏။ သူတို့၏ အဘွား သင်ပေးထားသဖြင့် ကလေးများသည် ဩကာသ၊ ငါးပါးသီလတောင်းနှင့် ဂုဏ်တော်များကို ပါဠိလို ဆိုတတ်နေ၏။ ထိုရာတွင် ပါဠိဘာသာဖြင့် ရေးသားထားသော သရဏဂုံနှင့် ငါးပါးသီလ ဂုဏ်တော်များကို သူတို့ အဓိပ္ပာယ်မသိ။ ဘုရား တရား သံဃာကို သာမန်မသိ။ အဘယ့်ကြောင့် ရှိခိုးနေမှန်း မသိ။ အဘွားဖြစ်သူ သင်ပေးသည့် အတိုင်း ကျက်မှတ်ထား၏။ လူကြီးများက ဘုရားရှိခိုးဟု ဆိုသောအခါ အစဉ်အတိုင်း အဓိပ္ပာယ်မသိဘဲ ဆင်ခြင်ပြီးတစ်ခု ဆက်ဆိုသွား၏။ စာရေးသူလည်း ငယ်စဉ်က ဤအတိုင်း အဓိပ္ပာယ်မသိဘဲ ဆိုခဲ့ဖူး၏။ နောင်အခါ ပါဠိဘာသာနှင့် ပိဋကတ်တို့ကို သင်ယူတတ်မြောက်လာမှ ကိုယ်တိုင် ငယ်စဉ်က ဆိုခဲ့သော စာများ၏ အဓိပ္ပာယ်ကို သိ၏။ စာရေးသူကဲ့သို့ ပါဠိသဒ္ဒါကို မတတ်မြောက်သူများ သူတို့ဆိုနေသည့် ပါဠိဘာသာဖြင့် ရေးသားထားသော ဘာသာရေး ကျင့်ဝတ်များ၏ အဓိပ္ပာယ်ကို သိကြမည်လောဟု သံသယဖြစ်မိ၏။ ထို့ကြောင့် အဓိပ္ပာယ်မသိဘဲ အလွတ်ကျက် ရွတ်ဆိုနေသော ပါဠိဘာသာဖြင့် ရေးသားထားသည့် ကျင့်ဝတ်တို့ကို လူတိုင်း နားလည်အောင် အသိပညာ ဗုဒ္ဓဘာသာစာအုပ်ကို ရေးမည်ဟု ဆုံးဖြတ်ခဲ့၏။ ထိုရာတွင် မိမိကိုယ်တိုင်က ပညာအမျိုးမျိုးကို လေ့လာနေရသဖြင့် မရေးဖြစ်ခဲ့။ ယခု စာရေးသူ၏ သား

သမီးများလည်း ပါဠိစာသားတို့ကို အဓိပ္ပာယ်မသိဘဲ ဆိုနေကြ၏။ အချို့ ပါဠိ စာသားများပင် မှန်မကန်ဖြစ်နေ၏။ ထို့ကြောင့် ကလေးများအား အခြေခံဘာသာ ကျင့်ဝတ်ဆိုင်ရာတို့ကို တစ်နေ့ နည်းနည်းချင်း ဘုရားရှိခိုးပြီးတိုင်း ရှင်းပြရန် စိတ်ကူးပေါ်လာ၏။

စာရေးသူ၏ သားသမီးများမှ တစ်ဆင့် အခြားကလေးငယ်တို့၏ အဝကိုလည်း စဉ်းစားမိလာ၏။ စာရေးသူမှာ ပါဠိဘာသာနှင့် ပိဋကတ်စာပေများ တတ်ကျွမ်းသောကြောင့် သားသမီးများကို ဘာသာရေး အခြေခံများ ရှင်းပြရန် စိတ်ကူးရ၏။ စိတ်ကူးမိ၏။ ထိုသို့ ပါဠိနှင့် ပိဋကတ် မတတ်သော မိဘများအဖို့ သူတို့ငယ်စဉ်က ရရှိခဲ့သည့် ပါဠိစာပေများကို သူတို့၏ သားသမီးများအား အလွတ် ရွတ်စေရုံမှတစ်ပါး အချ ရှင်းပြနိုင်ကြမည် မဟုတ်ပေ။ ထို့ကြောင့် စာရေးသူ၏ သားသမီးများအား ဘာသာရေး အခြေခံများ ရှင်းပြရန် လိုသကဲ့သို့ မြန်မာတစ်ပြည်လုံးရှိ မိဘများ၏ သားသမီးများကိုလည်း ရှင်းပြရန် လိုအပ်လျက် ရှိကြောင်း ထင်မြင်လာပေသည်။ ထိုအခါကျမှ ငယ်စဉ်က ဆုံးဖြတ်ထားခဲ့သော ဘာသာရေးဆိုင်ရာ ရှင်းလင်းချက်စာအုပ် ရေးရန်ကို သတိပြန်ရလာ၏။ စာရေးသူ၏ သားသမီးများနှင့်အတူ တစ်ပြည်လုံးရှိ မိဘများ၏ သားသမီးများကို တစ်ပြိုင်တည်း အခြေခံဘာသာရေး သိမှတ်ဖွယ်များကို ရှင်းပြနိုင်ရန်အတွက် ဤစာအုပ်ငယ်ကို ရေးသားရခြင်း ဖြစ်ပါသည်။

**မိရိုးဖလာလူနှင့် ဗုဒ္ဓဘာသာဆိုတာ ဘာလဲ**

မိရိုးဖလာလူနှင့် ဗုဒ္ဓဘာသာကို ပိပိပြင်ပြင် သိရှိနိုင်ရန် မိရိုးဖလာ ဗုဒ္ဓဘာသာကို သိထားသင့်သည်။ မြန်မာတို့သည်

အနော်ရထာမင်း လက်ထက်မှစ၍ တစ်ပြည်လုံး ထေရဝါဒ ဗုဒ္ဓဘာသာကို ကျင့်သုံးခဲ့သည်။ ထိုသို့ ဘိုးဘွား ဘီဘင်မှ အစဉ် ဆင်းသက်လာခဲ့၍ အကြောင်းအကျိုး စိစစ်ဝေဖန်ခြင်းမပြုဘဲ လက်ခံကျင့်သုံးနေသော ဗုဒ္ဓဘာသာကို မိရိုးဖလာ ဗုဒ္ဓဘာသာဟု ခေါ်သည်။ မိရိုးဖလာ ဗုဒ္ဓဘာသာသည် မှန်ကန်သော ဗုဒ္ဓဘာသာပင် ဖြစ်ပါသည်။ ထိုသို့ မှန်ကန်သဖြင့် ကျိုးကြောင်း စိစစ်ရာ မလိုတော့သောကြောင့် လူကြီးများကလည်း စိစစ်မပြုကြ၊ လူငယ်များ ကလည်း မေးမြန်း စိစစ်လေ့မရှိကြဘဲ အစဉ်အလာအတိုင်း လက်ခံကျင့်သုံးခဲ့ကြသည်။

အခြားဘာသာဝင် တစ်ဦးဦး သို့မဟုတ် ဘာသာရေးကို လုံးဝ မကိုးကွယ်သော ရုပ်ဝါဒီတစ်ဦးဦး၊ ဗုဒ္ဓဘာသာဝင်ဖြစ်သော်လည်း အကျိုးအကြောင်း ဝေဖန် ဆန်းစစ်ပြီးမှ လက်ခံလိုသော ပိဋကဝါဒီတစ်ဦးဦးက ဘာသာရေးဆိုင်ရာ ကျင့်ဝတ်များအပေါ် အကျိုးအကြောင်း ဝေဖန် ဆန်းစစ်မေးမြန်းလာသောအခါ မိရိုးဖလာ ဗုဒ္ဓဝါဒီသည် ရှင်းလင်းဖြေဆိုနိုင်စွမ်း မရှိတော့ပေ။ ကိုယ်မြင်းကိုယ်စီး အထီးမှန်းအမမှန်းမသိ ဖြစ်သည်။ အဟံဘာနေ၊ ကူလိပိသောဘာဂဝါ၊ သဗ္ဗေသတ္တာ အဝေရာဟောန္တု၊ စသည့် ပါဠိတွေကို ချောချောမောမော ဆိုတတ်သည်။ ထိုပါဠိတွေက ဘာအဓိပ္ပာယ်ကို ဆောင်မှန်း မသိသည့်အများပြီး အဓိပ္ပာယ်သိသူတိုင်းလည်း ဘာ့ကြောင့် သီလတောင်းရသည်၊ ဘာ့ကြောင့် ဘုရားရှိခိုးရသည်၊ ဘာ့ကြောင့် မေတ္တာပို့ရသည်၊ ထိုသို့ သီလတောင်း၊ ကန်တော့ပွား၊ မေတ္တာပို့သဖြင့် ဘာအကျိုးတွေကို ရမည်ဆိုသည်ဖြင့် ခြေခြေမြစ်မြစ်သိသူက နည်းလှသည်။ ဤဗုဒ္ဓ

ဘာသာမျိုးကို မိရိုးဖလာ ဗုဒ္ဓဘာသာ ဟုခေါ်ပါသည်၊ ကုလာ ဓာရဓော် မျိုးရိုးစဉ်လာ ဗုဒ္ဓဘာသာဟု ခေါ်ပါသည်။ ကံ ကံ၏အကျိုးကို ယုံကြည်မှု အဆက်ဆက်ဖြင့် မိရိုးဖလာ မျိုးရိုးစဉ်လာအရ ပြုအပ်သော ကုသိုလ် ကောင်းမှုသည် အကျိုးပေး မထက်သန်လှပါ။

မိဘတွေ ဘုရားရှိခိုးသည်ကိုမြင်၍ ကြား၍ ဘုရားရှိခိုးခြင်းမျိုး၊ သူတစ်ပါး ဆွမ်းလောင်းသည်ကို မြင်၍ ဆွမ်းလောင်းခြင်းမျိုး၊ သဗ္ဗေ သတ္တာ အဝေရာဟောန္တု သူတစ်ပါးဆို၍ လိုက်ဆိုခြင်းမျိုး မဟုတ်ဘဲ ဘုရားရှင်၌ ရှိခိုးပူဇော်ထိုက်သော ဂုဏ်တော်များ ရှိ၍ ထိုဂုဏ်တော် များကို အောက်မေ့ ရှိခိုးပူဇော်ခြင်း၊ သံဃာတော်တို့၌ ( ရှည်းလေးပါး လှူဒါန်းထိုက် ရှိခိုးထိုက်သော ဂုဏ်များရှိမှန်းသိ၍ ထိုဂုဏ်များကို မှန်းဆ လှူဒါန်းရှိခိုးခြင်း၊ မေတ္တာ၏ အကျိုးအာနိသင်များကို သိရှိ၍ သတ္တဝါတို့အပေါ်၌ ချမ်းသာစေလိုသော မေတ္တာစိတ်ကို ပို့လွှတ်ပွားများခြင်းမျိုးသည် မိရိုးဖလာ ဗုဒ္ဓဘာသာတို့ ကျင့်ရိုးကျင့်စဉ်ကို လွန်မြောက်သွားသောကြောင့် မိရိုးဖလာလွန် ဗုဒ္ဓဘာသာဖြစ်၏။ အသိဉာဏ်ပညာနှင့်ယှဉ်သော ဉာဏသမ္ပယုတ် ဗုဒ္ဓဘာသာဖြစ်၏။ အသိဉာဏ်နှင့်ယှဉ်၍ ပြုလုပ်အပ်သော ကုသိုလ်ကောင်းမှုများသည်သာ အဆင့်မြင့်သော တိဟိတ် ကုသိုလ်ဖြစ်၍ အထက်တန်းကျသော အကျိုးကို ပေးနိုင်၏။

ကျွန်ုပ်သည် မိရိုးဖလာ ဘာသာအဆင့်ကို လွန်မြောက်၍ အသိဉာဏ်နှင့်ယှဉ်သော ဉာဏသမ္ပယုတ် ဗုဒ္ဓဘာသာ၊ တိဟိတ်ဗုဒ္ဓဘာသာဖြစ်အောင် ဗုဒ္ဓဘာသာ မြန်မာအများစု ပြုလုပ်နေကြသည့် ကုသိုလ်ရေး လုပ်ငန်းများကို အကျိုး

အကြောင်း စိစစ်ဝေဖန်ပြသော ကျမ်းဖြစ်၏။ ထို့ကြောင့် ဤကျမ်း၏ အမည်ကို မိုးဗေလာလွှန် ဗုဒ္ဓဘာသာဟု မှည့်ခေါ်လိုက်ခြင်း ဖြစ်ပါသည်။

## ဤစာအုပ် ဘယ်လိုရေးသလဲ

ဤစာအုပ်ကို ကလေးငယ်များအတွက် ရည်ရွယ်၍ ရေးသည်။ ကလေးတိုင်းသည် စကား ပြောတတ်ကြ၏။ သို့ရာတွင် ကလေးတိုင်း စာဖတ်တတ်ဦးမည် မဟုတ်ပေ။ ကလေးငယ်များအဖို့ စာပေရေးဟန် ဝါကျ ခန့်ခန့်ညားညား ရေးသည်ထက် စကားပြောဟန်ဖြင့် ရေးခြင်းက ကလေးများ အဖို့ လွယ်ကူမည်။ ညီအစ်ကို မောင်နှမ တစ်စုတွင် စာဖတ်တတ်သူတစ်ယောက် ရှိပါက ထိုသူ ဖတ်ပြခြင်းဖြင့် သူကိုယ်တိုင်က ကျန်လူများကို ရှင်းပြ ပြောဆိုနေသကဲ့သို့ ဖြစ်မည်။ နားထောင်နေသူတို့အဖို့လည်း ပို၍ လွယ်ကူစွာ နားလည်နိုင်မည်။ ထို့ကြောင့် ခန့်ညားသော စာပေဟန်ဖြင့် မရေးဘဲ နားလည်ရန် လွယ်ကူသော စကားပြောဟန်ဖြင့် ရေးသားသည်။

ကလေးငယ်များ စိတ်ဝင်စားလာစေရန်နှင့် အဓိပ္ပာယ် နားလည်မှု ပိုမိုရှင်းလင်းစေရန် အမေးအဖြေ ပုံစံဖြင့် ရေးသားသည်။ ဤစာအုပ်ပါ အမေးအဖြေ တို့ကို တစ်ခါတည်း ဖတ်သွားခြင်း မပြုဘဲ ပထမ စာဖတ်တတ်သူက ဤစာအုပ်ပါ ပုစ္ဆာကိုမေး၍ ကျန်သူများက မိမိသိသလောက် ဖြေကြည့် ကြရမည်။ ထိုသို့ ဖြေကြည့်ပြီးမှ ဤစာအုပ်ပါ အဖြေများကို ဆက်လက် နားထောင် မှတ်သားရမည်။ ဤသို့

ကလေးငယ်များကို ကိုယ်တိုင် ဖြေစေခြင်းဖြင့် စိတ်ဝင်စား သာစေရန်အတွက် အမေးအဖြေပုံစံဖြင့် ရေးထားပါသည်။

ဤစာအုပ်ကို ကလေး သူငယ်များ အတွက် အဓိက ထား၍ ရေးသည်။ ထို့ကြောင့် ပညာရှင်သုံး ကျမ်းဂန်ကြီး များမှာကဲ့သို့ ဘယ်ပါဠိတော်၊ ဘယ်အဋ္ဌကထာ၊ စာမျက် နှာ ဘယ်လောက်တွင် ဘယ်လို ဆိုထားသောကြောင့် ဘာ ဖြစ်ရမည်၊ ဘာလုပ်ရမည်ဟု ကျမ်းကိုး ကျမ်းညွှန်းများကို မရေးထားပါ။ အချို့ ပြဿနာပေါ်နိုင်သည့် နေရာများ တွင်သာ ကျမ်းကိုး ညွှန်ပြထားပါသည်။ အကိုးအကား မပြထားသော်လည်း ဤစာအုပ်ပါ အကြောင်းအရာ အား လုံးမှာ နိကာယ်ငါးရပ် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာလာ အဓိပ္ပာယ်များကို မြန်မာစကားဖြင့် ထုတ်နုတ် ရေးသား ထားခြင်း ဖြစ်သည်ဟု မှတ်ယူကြရန် ဖြစ်ပါသည်။

## ဤစာအုပ်မှာ ဘာတွေရေးထားသလဲ

ဤစာအုပ်တွင် စာရေးသူက စာဖတ်ပရိသတ်အား သိ စေချင်သော အကြောင်းအရာ ဗဟုသုတတို့ကို ရှာဖွေရ ဆောင်း၍ တင်ပြထားသည် မဟုတ်ပါ။ မြန်မာနိုင်ငံ ဗုဒ္ဓ ဘာသာ အများစု နေ့စဉ် ပြုလုပ်နေသည့် ဘာသာရေး ကျင့်စဉ်များဖြစ်သော ကန်တော့ခန်း၊ သီလယူခန်း၊ ဘုရား ရှိခိုး၊ ပရိတ်ရွတ်၊ ဆွမ်း၊ ရေ၊ ပန်း၊ ဆီမီး ကပ်လှူခြင်း၊ မေတ္တာပို့၊ အမျှဝေ၊ ပုတီးစိပ်၊ ဘာဝနာပွား စသည့် ကျင့် စဉ်များနှင့် ပတ်သက်၍ သိသင့် သိထိုက်သည်တို့ကို ဖော်ပြ ရေးသား ခြင်းသာ ဖြစ်ပါသည်၊ မိမိရွတ်ဆိုသမျှ စာ

ကို သိရန် မိမိလုပ်ဆောင်သမျှ ဘာသာရေး ကျင့်ဝတ်နှင့် ပတ်သက်ကို သိရန် မိမိလုပ်ဆောင်သမျှ ဘာသာအကျိုးအတွက် လုပ်ဆောင်ရမည့်များကို ဘာ့ကြောင့် ဘာသာအကျိုးအတွက် လုပ်ဆောင်ရကြောင်းကို သိရှိမှု ရည်ရွယ်ပါသည်။

ဘာသာ အချုပ်အားဖြင့် ရေးမြန်မာတို့ စိမ်ထားခဲ့သော ဘာသာရေး လုပ်ဆောင်ချက်များမှာ မည်သည့် ရည်ရွယ်ချက်များ ရှိသည်ကို ရှင်းလင်း ပြခြင်းဖြင့် ရေး မြန်မာတို့၏ အတွင်းအဖြင့် ကြီးမားပုံကို ဂုဏ်ပြုရေးသားချက်များ ဖြစ်ပါသည်။

ကလေး လူငယ်များအတွက် အဓိက ရေးသားသည် ဆိုသော်လည်း ဗုဒ္ဓဘာသာဝင် လူရွယ်လူလတ်များလည်း ဤအကြောင်းကို ဖတ်ရန်လိုပါသည်။ ထို့ကြောင့် ဒီပွဲပညာ ထွန်းသည့် ခေတ်တွင် နိုင်ငံခြားပြန်တော်ကြီးခေတ် လူငယ်များ မေးမြန်းလေ့ရှိသည့် နိုင်ငံကြီးတွေ လူငယ်များ ထို မေးခွန်းများကို ဘာသာရေး အညွှန်း၌ ဖြေထားပါသည်။ ထိုသို့သော မေးခွန်းများကို အညီ၌ ဖြေထားပါသည်။ ကလေး၏ အဆင့်ဖြင့်သော အကြောင်းအရာများကို ကလေးများ အဓိပ္ပာယ်ရှင်းလင်း သဘောပေါက်စေ၍ ရင့်ကျက်စွာ ဖတ်မှု ကြားဖူးခြင်းဖြင့် နောင် စဉ်းစားဉာဏ် ရင့်ကျက်သော အခါ သဘောပေါက်လာကြပါလိမ့်မည်။

ဤ စာအုပ်ပါ အချို့သော အခန်းများ၊ အချို့သော အပိုင်းများမှာ စာအုပ်ကြီးတစ်အုပ် သီးသန့် ရေးလောက်အောင် ကျယ်ပြန့်ပါသည်။ ၎င်းတို့ကို ကလေးသူငယ် နားလည်စေရန် တိုတိုကျဉ်းကျဉ်းနှင့် လိုရင်းရောက်အောင် ကြိုးစား၍ ရေးထားပါသည်။ ထိုအခန်းများကို အကျယ်သိလိုပါက ထိုပိုင်းကတ်များတွင် ဆက်လက်ရှာဖွေ ဖတ်ရှုကြရန် ဖြစ်ပါသည်။ ကလေးငယ်များအတွက် လိုအပ်သလောက်သာ ပိုင်းရေးသား၍ မစုံမလင် ဖြစ်သည်ဟု မှတ်ယူကြစေလိုပါသည်။

## ဤစာအုပ် ဘယ်လို ဖတ်ရမလဲ

ဤစာအုပ်ကို လူကြီး၊ လူရွယ်များ ဖတ်ပါက အစအဆုံး တစ်ထိုင်တည်း ဖတ်သွားနိုင်ပါသည်။ သို့ရာတွင် ဤစာအုပ်ကို ဘာသာရေး အခြေခံမရှိသေးသော ကလေးသူငယ်များ အတွက် အထူးရည်ရွယ်၍ ရေးသားပါသည်။ ကလေးသူငယ်များသည် ဘာသာရေး ဆိုင်ရာ အကြောင်းအရာ များကို ဆက်တိုက် ဖတ်လိုကြသည် မဟုတ်ပါ။

ဤစာရေးသူ၏ မူလရည်ရွယ်ချက်မှာ ကလေးများ ဘုရားရှိခိုးပြီးပါက ဘာသာရေးဆိုင်ရာ သိစရာများကို အချိန်အဆ ဖြင့် ဆယ်မိနစ်ခန့် ပြောကြားရန် ဖြစ်ပါသည်။ ပြောကြားရန် ဆိုသော်လည်း ဘုန်းတော်ကြီးများ တရားဟောသကဲ့သို့ ဆက်တိုက် ပြောရန်မဟုတ်ဘဲ မိမိပြောလိုသည့် အကြောင်းအရာတစ်ခုကို ဖြေချင်သလို ဖြေနိုင်ရန် မေးမည်။ သူတို့ကို ဖြေခိုင်းမည်။ ပြီးမှ မိမိဖြေဆိုလိုရာကို ဖြေပြမည်ဟု ရည်ရွယ်ထားပါသည်။

ယခု ကိုယ်တိုင် ပြောကြားခြင်း မဟုတ်ဘဲ စာအုပ်ကို ဖတ်စေရာ၌လည်း မူလရည်ရွယ်ချက်အတိုင်း ဖြစ်စေရန်အတွက် ဤစာအုပ်ကို ဘုရားစင်တွင်ထားပါ။ သို့မဟုတ် စာအုပ်စင်တွင် ထားလျှင်လည်း ကလေးများ ဘုရားရှိခိုးတော့မည် ဆိုလျှင် ဤစာအုပ်ကို ဘုရားရှေ့သို့ ယူဆောင်၍ ချထားပါ။ ဘုရားရှိခိုးပြီးသောအခါ ဆယ်မိနစ်ခန့် ဤစာအုပ်ပါ သခမ်း အဖြေများကို နေ့စဉ် ရွတ်ဖတ်ရန် ဖြစ်ပါသည်။ ကလေးများတွင် အကြီးဆုံး ဖြစ်သူက ဖြစ်စေ၊ ကလေး အားလုံး စာတတ်သူများ ဖြစ်လျှင် တစ်နေ့ တစ်ယောက် အလှည့်ကျဖြစ်စေ ဖတ်နိုင်ပါသည်။

ဖတ်သောအခါ အမေး အဖြေစာအုပ်ကို ဖတ်သကဲ့သို့ မဟုတ်ဘဲ ကလေးတစ်ယောက်က ကျန်ကလေးများကို ဤစာအုပ်ပါ မေးခွန်းတစ်ခုကို ဖတ်၍ မေးရမည်။ ကျန်ကလေးများက မိမိ ထင်မြင်သည့်အတိုင်း၊ ကြားဖူးသည့်အတိုင်း သိသလောက် ဖြေရမည်။ ကျန်ကလေးများ ဖြေပြီးမှ ယင်းမေးခွန်းကို မေးသူက ဤစာအုပ်ပါ အဖြေများကို ဖတ်ပြရမည်။ ထို့နောက် အခြား ပုစ္ဆာတစ်ခုကို ဆက်မေး၍ ဤနည်းအတိုင်း ဖြေရမည်။ ၁၀-မိနစ်ခန့် မေးဖြေပြီးလျှင် ရောက်သော နေရာကို စက္ကူတစ်ရွက်ဖြင့် မှတ်၍ အခြေခံ ဘာသာရေး မေး ဖြေမှုကို အပြီးသတ်ရမည်။ နေ့စဉ် မှန်မှန် ဘုရားရှိခိုးပြီးတိုင်း ဤစာအုပ်ကို ၁၀-မိနစ်ခန့် ဖတ်သွားပါက ဘာသာရေးအခြေခံ ခိုင်မာ တောင့်တင်းသွားမည် ဖြစ်ပါသည်။ မိမိ ပြုလုပ်နေသည့် ဘာသာရေး လုပ်ငန်းများ၏ အဓိပ္ပာယ်ကို မိမိ သိရှိနိုင်မည် ဖြစ်ပါသည်။

## စာရေးသူ၏ ရည်ရွယ်ချက်

မြန်မာလူမျိုးတို့သည် အင်္ဂလိပ်တို့၏ လက်အောက်ခံ ကိုလိုနီ ဘဝကို မရောက်ခင်က ဘုန်းတော်ကြီး ကျောင်းများတွင် ပညာသင်ကြ၏။ ဘုန်းတော်ကြီးကျောင်း ပညာရေး ဆိုသည်မှာ အခြေခံ အရေး, အဖတ်, အတွက်နှင့် ဗုဒ္ဓဘာသာအပေါ် အခြေခံသော မြန်မာ့ယဉ်ကျေးမှုများကို သင်ပြခြင်း ဖြစ်၏။ ဘုန်းကြီးကျောင်း ပညာရေးတွင် သိပ္ပံနှင့် စက်မှုပညာရပ်များကို မသင်ပေးသဖြင့် တိုးတက်သော ကမ္ဘာကြီးနှင့် ရင်ပေါင်တန်း မလိုက်နိုင်ခဲ့သော်လည်း နက်နဲသိမ်မွေ့သော ဗုဒ္ဓဘာသာပေါ်တွင် အခြေခံ၍ တည်ဆောက် ထားသော

မြန်မာ့ယဉ်ကျေးမှု အဆင့်အတန်းသည် ကမ္ဘာနှင့် ရင်ပေါင် တန်းနိုင်ခဲ့ပေသည်။ ဇာတ် နိပါတ်တော်များတွင် ဘုရားလောင်းတို့၏ ကျင့်စဉ်များကို ဖတ်ရှုအားကျ ကျင့်ကြံကြသဖြင့် မြန်မာလူမျိုးတို့သည် သနားကြင်နာ တတ်သည်။ ကိုယ်ချင်းစာတတ်သည်။ ဝိုင်းပင်းကူညီတတ်သည်။ ခင်မင်ဖော်ရွေကြသည်။ ပေးကမ်းလှူဒါန်းလေ့ရှိသည်။ စိတ်သဘောထား မြင့်မြတ်သည်ဟု ကမ္ဘာက အသိအမှတ် ပြုကြရသည်။

သို့ရာတွင် အင်္ဂလိပ်တို့၏ အုပ်ချုပ်မှု အောက်တွင် နှစ်ပေါင်း ၁၀၀ နီးပါး နေခဲ့ရသဖြင့် မြန်မာတို့၏ အမျိုးသား ဇာတိမာန်၊ မူလမြန်မာ့စိတ်ထားနှင့် မူလမြန်မာ့ယဉ်ကျေးမှု များသည် မှေးမှိန်ခဲ့ရသည်။ ယနေ့ မြန်မာလူငယ်များ၏ သန္တာန်တွင် မြန်မာ့ယဉ်ကျေးမှုထက် ကမ္ဘာ့ယဉ်ကျေးမှုက လွှမ်းမိုးနေသည်။

မူလယဉ်ကျေးမှု အဆင့် မမြင့်သော လူမျိုးများသည် တိုင်းတစ်ပါးသား ယဉ်ကျေးမှုများကို တိုက်ရိုက်ဖြစ်စေ၊ ပုံစံ ပြောင်း၍ဖြစ်စေ အမျိုးသား ယဉ်ကျေးမှုအဖြစ် လက်ခံကြရ သည်။ မူလအမျိုးသား ယဉ်ကျေးမှု အခိုင်အမာရှိသော လူ မျိုးသည် မိမိ အမျိုးသားယဉ်ကျေးမှု အခြေခံအုတ်မြစ်ပေါ် တွင် တိုင်းတပါး ယဉ်ကျေးမှုများဖြင့် မွမ်းမံ၍ တိုးချဲ့ကြရ သည်။ မြန်မာတို့မှာ ဗုဒ္ဓဘာသာကို အခြေခံသော မူလ ယဉ်ကျေးမှု အခိုင်အမာရှိပြီးဖြစ်၍ တိုင်းတစ်ပါး ယဉ်ကျေးမှု ကို တိုက်ရိုက်ယူ လက်ခံရန် အကြောင်းမရှိပေ။

မြန်မာ့ယဉ်ကျေးမှုနှင့် မြန်မာ့ လူ့နေမှုစနစ်သည် ဗုဒ္ဓယဉ် ကျေးမှု အပေါ်တွင် အခြေခံ တည်ဆောက်ထားခဲ့သော်လည်း ယနေ့ မြန်မာ့လူ့ဘောင်၏ လူနေမှုစနစ်အရ မြန်မာလူငယ်

များသည် ဘုန်းတော်ကြီးများနှင့် ကင်းကွာနေသဖြင့် မြန်မာ နိုင်ငံ ဘာသာ စာရိတ္တများ ခေါင်းပါးလျက် ရှိလေသည်။ မြန်မာ့ရိုးရာ ယဉ်ကျေးမှုများနှင့် မွန်မြတ်သော မြန်မာ့စိတ် ဓာတ်များ နည်းပါးလျက် ရှိလေသည်။

ယနေ့ မြန်မာ လူငယ်များသည် ဗုဒ္ဓဘာသာ ခေါင်းဆောင် ရဟန်း သံဃာတော်များနှင့် အဆက်အစပ် အထိအတွေ့ နည်းနေသဖြင့် အခြေခံ ဗုဒ္ဓယဉ်ကျေးမှုများနှင့် ထို ဗုဒ္ဓဘာသာအပေါ်တွင် အခြေခံ၍ တည်ဆောက်ထားသော မြန်မာ့ယဉ်ကျေးမှုများကို မြတ်နိုးမှု ကာကွယ် ထိန်းသိမ်းလိုမှု နည်းပါးနေသည်။

ရှေးခေတ် ဘုန်းတော်ကြီးကျောင်း ပညာရေးသည် ဘာသာစာရိတ္တ ကောင်းမွန်ရေးကို အဓိကထားသင်၍ စိတ်နှလုံး နူးညံ့ပျော့ပျောင်း သိမ်မွေ့ယဉ်ကျေးသည်။ သို့ရာတွင် သိပ္ပံပညာ သင်ကြားရေး အားနည်းခဲ့သဖြင့် တိုးတက်နေသော ကမ္ဘာ၏ နောက်တွင် ကျန်ခဲ့ကာ နောက်ဆုံး ကျွန်ဖြစ်ရသည်။ ယခုခေတ် စာသင်ကျောင်းများတွင် သိပ္ပံပညာရပ် မျိုးစုံကို သင်ကြားလျက်ရှိသည်။ ထို့ကြောင့် ရုပ်ပိုင်းဆိုင်ရာ တိုးတက်သည်။ လူနေမှု အဆင့်အတန်း မြင့်မားသည်။ တိုးတက်နေသော နိုင်ငံကြီးများ အဆင့် မမီသေးသော်လည်း အမီလိုက်လျက် ရှိသည်။

ထိုသို့ စိတ်ပိုင်းဆိုင်ရာ လေ့ကျင့်မှု နည်းနေသည့် အတွက် ယခုခေတ် ကလေးသူငယ်တို့၏စိတ်သည် ကြမ်းတမ်းမာကြောနေသည်။ အမျိုးသားရေးစိတ်ဓာတ် ခေါင်းပါးနေသည်။

လူ့ဘဝသည် ရုပ်လောကတိုးတက်၍ အထက်တန်းကျကျ စားနိုင်၊ သောက်နိုင်၊ နေနိုင်၊ ထိုင်နိုင်၊ သွားနိုင်၊ လာနိုင်ရုံမျှဖြင့် ပြီးပြည့်စုံသည် မဟုတ်သေး။ လူအချင်းချင်း ကိုယ်ချင်းစာတရား မေတ္တာတရား ထားနိုင်ရန်လည်း လိုအပ်ပါသည်။ အမျိုးသားရေးအတွက်၊ သတ္တဝါအားလုံး အကျိုးအတွက် ကျင့်ကြံအားထုတ်တော်မူသော ဘုရားလောင်းကို အတုယူ၍ အမျိုးသား ကြီးပွားရေး၊ လူ့ဘောင်လောက သာယာဝပြောရေး၊ အများကောင်းစားရေးအတွက် အများနှင့် ညီညီညွတ်ညွတ် ပူးပေါင်းဆောင်ရွက်လိုစိတ် ရှိရန်လည်း လိုအပ်ပါသည်။

စား၀တ်နေရေး တည်းဟူသော ရုပ်လောက တိုးတက်မြင့်မားလာရေးအတွက် သိပ္ပံပညာရပ်များ လိုအပ်သကဲ့သို့ ကိုယ်ချင်းစာတရား၊ မေတ္တာတရား၊ အများအကျိုးဆောင်ရွက်လိုသော စိတ်ထားများ ထွန်းကားလာရေးအတွက် စိတ်ဓာတ် ရင့်ကျက်ခိုင်မာရေးအတွက် လေ့ကျင့်ပေးရန် လိုအပ်ပါသည်။ ထိုသို့ လေ့ကျင့်ပျိုးထောင်ရာ၌ ရှေးခေတ် မြန်မာဘိုးဘေး အစဉ်အဆက်တို့သည် ဗုဒ္ဓဘာသာ တရားအပေါ် အခြေခံ၍ မြန်မာ့လူ့ဘောင်၊ မြန်မာ့ယဉ်ကျေးမှုကို တည်ထောင်ခဲ့ကြသဖြင့် ယခု ကျွန်အဖြစ်မှ လွတ်မြောက်၍ မြန်မာ့လူ့ဘောင်အသစ်ကို ပြန်လည် တည်ဆောက်ကြရာ၌ အခြေခံရမည့် ဗုဒ္ဓဘာသာသည် အစဉ်အလာ မိရိုးဖလာ ဗုဒ္ဓဘာသာမျိုး မဟုတ်ဘဲ အသိဉာဏ်နှင့်ယှဉ်သော မိရိုးဖလာ ဗုဒ္ဓဘာသာများသာ ဖြစ်သင့်သည်ဟု ယုံကြည်ပါသဖြင့် ဤစာအုပ်ကို ရေးသားလိုက်ပါသည်။

ဗုဒ္ဓဘာသာ ကျင့်ဝတ်များကို အကျိုးအကြောင်းနှင့်တကွ [illegible]အတိုင်းသိ၍ အမှန်အတိုင်း ကျင့်ကြံ အားထုတ်ကာ [illegible]လွန်ချမ်းသာနှင့် တမလွန်ချမ်းသာ နှစ်မျိုးကို ခံစားနိုင်ကြပါစေသတည်း။

သောင်းလွင်

ရန်ကုန် ၁၂-၈-၇၅

# (၁)

## ဘာသာရေး အခြေခံ

မေး။ ။သင်တို့ ဘယ်ဘာသာကို ကိုးကွယ်သလဲ။

ဖြေ။ ။ဗုဒ္ဓဘာသာကို ကိုးကွယ်ပါတယ်။

မေး။ ။ဗုဒ္ဓဘာသာဆိုတာ ဘာလဲ။

ဖြေ။ ။ဗုဒ္ဓဆိုတာက တရား အားလုံးကို ဆရာမရှိဘဲ ကိုယ်ပိုင်ဉာဏ်နဲ့ သိတဲ့ဘုရား။ ဘာသာဆိုတာက အဲဒီဘုရားရှင် သွန်သင်ပြသ ဟောကြားခဲ့တဲ့ တရားတော်။

အဲဒီလို ဗုဒ္ဓဘာသာဆိုတဲ့ စကားနှစ်လုံးကို ပေါင်းလိုက်တော့ ဗုဒ္ဓမြတ်စွာ ဟောကြားခဲ့တဲ့ တရားတော်တွေလို့ အဓိပ္ပာယ်ရတယ်။ အဲဒီဗုဒ္ဓမြတ်စွာ ဟောကြားခဲ့တဲ့ တရားတော်အတိုင်း ကျင့်ကြံနေထိုင်တဲ့လူတွေကို ဗုဒ္ဓဘာသာ (ဗုဒ္ဓဘာသာဝင်) တွေလို့ ခေါ်တယ်။

မေး။ ။ဗုဒ္ဓဘာသာ ကိုးကွယ်မှု အစဦးဆုံး ဘယ်ပုဂ္ဂိုလ်က ဘယ်နိုင်ငံမှာ ဘယ်အချိန်တုန်းက စတင် တည်ထောင်ခဲ့သလဲ။

ဖြေ။ ။ဗုဒ္ဓဘာသာ ကိုးကွယ်မှုကို ဂေါတမဘုရားရှင်က အိန္ဒိယနိုင်ငံမှာ လွန်ခဲ့တဲ့ နှစ်ပေါင်း ၂၅၀၀ ကျော်တုန်းက စတင် တည်ထောင်ခဲ့တယ်။

မေး။ ။ဂေါတမဘုရားရှင် မပွင့်မီက အိန္ဒိယမှာ ဘယ်ဘာသာကို ကိုးကွယ်နေကြသလဲ။

ဖြေ။ ။အဲဒီအချိန်တုန်းက အိန္ဒိယမှာ ဗြဟ္မဏဝါဒလို့ခေါ်တဲ့ ဟိန္ဒူဘာသာကို အများဆုံး ကိုးကွယ်နေကြတယ်။

ဟိန္ဒူဘာသာရဲ့ အစောဆုံး စာပေကတော့ ရိဂ်ဝေဒဖြစ်တယ်။ အဲဒီ ရိဂ်ဝေဒထဲမှာ အိန္ဒိယပြည်ထဲကို ရှေးဦးစွာဝင်ရောက်လာကြတဲ့ အာရယန်လူမျိုးတွေရဲ့ တေးဂီတတွေပါတယ်။ အာရယန်တွေဟာ နေ့၊ လ၊ မီး၊ လေ၊ စတဲ့ သဘာဝအင်အားတွေကို သက်ရှိအဖြစ် ပြောင်းပြီး နေနတ်၊ လေနတ်၊ မီးနတ်၊ မြစ်စောင့်နတ်၊ တောင်စောင့်နတ်တွေအဖြစ်နဲ့ ကိုးကွယ် ပူဇော်နေကြတယ်။ ဂဝေ-ဘီစီလောက်မှာ ဥပနိသျှဒ်ခေါ်တဲ့ ကျမ်းတွေ ပေါ်လာတယ်။ အဲဒီကျမ်းတွေထဲမှာ....

၁။ ဝတ်ပြုကိုးကွယ် ပူဇော်နည်း၊

၂။ အတ္တကို ငြိကြယ်စေဖို့ ခြိုးခြံ ကျင့်ကြံ အားထုတ်နည်း၊

၃။ သံသရာမှ လွတ်မြောက်ရန် ကမ္မဋ္ဌာန်းတရား အားထုတ်နည်းတွေကို ဖော်ပြကြတယ်။

ဟိန္ဒူဝါဒအရ အတ္တဟာ ထာဝရဖြစ်ပြီး ကမ္ဘာဝ ဆက်ကာ ဆက်ကာ သံသရာ ကျင်လည်နေတယ်၊ အဲဒီလိုကျင်လည်ရာမှာ ကောင်းမှု မကောင်းမှုအရ ကောင်းတဲ့ဘဝ၊ ဆိုးတဲ့ဘဝမှာ ကျင်လည်ရတယ်။ အဆုံးအစမရှိ ကျင်လည်နေရတဲ့ သံသရာမှ လွတ်မြောက်ဖို့ နည်းလမ်းတစ်ခုဟာ ရှိရမယ်လို့ ယုံကြည်ကြတယ်။ အဲဒီ လွတ်မြောက်ရေးလမ်းကို ရှာကြံရာက အဘိဓမ္မာဆရာကြီးတွေ အမြောက်အမြား ပေါ်ထွက်

လာကြတယ်။ တချို့က အဲဒီဂိုဏ်းဆရာကြီးတွေကို ကိုးကွယ်ပြီး တချို့ကတော့ မီးနတ်၊ နေနတ်၊ လေနတ် စတဲ့ သဘာဝနတ်တွေကို ကိုးကွယ်နေကြတယ်။

မေး။ ။ဒီလိုဆိုရင် ဗုဒ္ဓဘာသာဟာ သူ့အရင် ပေါ်နေတဲ့ ဟိန္ဒူဘာသာ၊ နတ်ကိုးကွယ်မှု ဘာသာတွေက ဆင်းသက်လာသလား။

ဖြေ။ ။မဟုတ်ဘူး။ ဗုဒ္ဓဘာသာဟာ ဟိန္ဒူဘာသာက ဆင်းသက်လာတာ မဟုတ်တဲ့အပြင် အဲဒီဟိန္ဒူနဲ့ နတ်ကိုးကွယ်မှု ဘာသာရေးတွေကို လုံးဝဆန့်ကျင် တော်လှန်တဲ့ ဘာသာဖြစ်တယ်။ (ဒါပေမယ့် ကမ္ဘာကို ပြန့်နေတဲ့ ဗုဒ္ဓဘာသာကတော့ ဟိန္ဒူဝါဒနဲ့ နတ်ကိုးကွယ်မှုဝါဒတွေ အနည်းအကျဉ်း ရောနှော ပါဝင်နေတယ်လို့ ကြိုတင် မှတ်ထားနှင့်ပါ။)

မေး။ ။ဗုဒ္ဓဘာသာနဲ့ ဟိန္ဒူဘာသာဟာ ဘယ်လိုကွဲပြားသလဲ။

ဖြေ။ ။ဟိန္ဒူဘာသာ အဆိုအရ အထက်ကောင်းကင်တစ်နေရာမှာ မအိုမသေဘဲ ထာဝရ အသက်ရှင်နေနိုင်တဲ့ ဗြဟ္မာကြီးတစ်ဦးရှိတယ်။ အဲဒီဗြဟ္မာကြီးက ဒီကမ္ဘာလောကကြီးနဲ့ သက်ရှိသက်မဲ့ သတ္တဝါတွေကို ဖန်ဆင်းထားတယ်။ သူ ဖန်ဆင်းထားတာဖြစ်လို့ လောကကြီး တစ်ခုလုံးကို သူအစိုးရတယ်။ ပိုင်ဆိုင်တယ်။ ဒီသက်ရှိသတ္တဝါတွေရဲ့ ချမ်းသာမှု၊ ဆင်းရဲမှု၊ ကောင်းမှုဆိုးမှုတွေ အားလုံးဟာ ဖန်ဆင်းရှင်နဲ့သာ ဆိုင်တယ်။

သူ ဖန်ဆင်းထားတဲ့ သတ္တဝါတွေရဲ့ ကိုယ်ခန္ဓာထဲမှာ ဆိုးလ်၊ အတ္တ၊ ဝိညာဉ်လို့ ခေါ်တဲ့ အသက်ရှိတယ်။

အဲဒီ အတ္တဝိညာဉ်ဟာလဲ ထာဝရတည်မြဲတယ်၊ ရုပ်ဝတ္ထု ခန္ဓာကိုယ်ကြီးဟာ ဟောင်းနွမ်း ပျက်စီးသွားတဲ့ အခါ ဝိညာဉ်ကလေးက အဲဒီကိုယ်ခန္ဓာကြီးထဲကထွက်ပြီး အခြား အသစ်တဲ့ ခန္ဓာကိုယ်ထဲမှာ ဝင်စားသွားဖြစ်တယ်။ အဲဒီ နာမ် ဝိညာဉ်ကလေးဟာ မူလဖန်ဆင်းရှင်ဖြစ်တဲ့ ဗြဟ္မာကြီးနဲ့ ပြန် ပေါင်းမိနိုင်ဖို့အတွက် ဖန်ဆင်းရှင် ဗြဟ္မာကြီးကို မျှော်မှန်းပြီး ယဇ်ပူဇော်ပသ၊ သမ္မာ၊ ဝတ်ပြုကိုးကွယ်မှု အမျိုးမျိုးတွေပြုလုပ်ရတယ်။ အခါမတန် ပင်ပန်းပြင်းထန်တဲ့ အကျင့်တွေကိုလဲ ကျင့်ကြံ အားထုတ်ကြရတယ်။ ဖန်ဆင်းရှင် ဗြဟ္မာကြီးမှာ ဖန်ဆင်းခံ သတ္တဝါတွေရဲ့ ဝိညာဉ်တွေပါ အစဉ်မြဲတယ်လို့ ယူဆတဲ့ အတွက် ထာဝရဝါဒ၊ အတ္တဝါဒလို့ ခေါ်တယ်။

ဗုဒ္ဓဘာသာမှာတော့ ဂေါတမဗုဒ္ဓဟာ ဖန်ဆင်းရှင်လဲ မဟုတ်ဘူး။ သတ္တဝါတွေကို ဖန်ဆင်းနိုင်တဲ့ တန်ခိုးတွေ့ပါဝင် လဲ မရှိဘူး။ သတ္တဝါတွေကို ချမ်းသာအောင် ဆင်းရဲအောင် လဲ မလုပ်နိုင်ဘူး။ ပုဂ္ဂိုလ်သတ္တဝါ တစ်ဦး တစ်ယောက်ရဲ့ ကောင်းမှု ဆိုးမှုဟာ ဘုရားသခင်နဲ့ ဘယ်လိုမှ မပတ်သက် ဘူး။ အကောင်းနဲ့အဆိုး၊ ချမ်းသာနဲ့ ဆင်းရဲဟာ တရားတော် အတိုင်းသာ ဖြစ်ရတယ်။ ကောင်းတဲ့တရား၊ ချမ်းသာစေတယ် တဲ့ တရားတွေကို ကြံစည် ပြောဆို လုပ်ကိုင်တဲ့ လူတွေဟာ လူကောင်း၊ လူချမ်းသာဖြစ်ပြီး မကောင်းတဲ့ ဆင်းရဲစေတက် တဲ့ တရားတွေကို ကြံစည်ပြောဆို လုပ်ကိုင်တဲ့လူတွေဟာ လူဆိုး လူဆင်းရဲတွေ ဖြစ်မယ်။ ပုဂ္ဂိုလ် သတ္တဝါတိုင်းဟာ မိမိ ရဲ့ဘဝကို ချမ်းသာအောင်၊ ဆင်းရဲအောင်၊ ကောင်းအောင် ဆိုးအောင် ဖန်တီးနေတဲ့ ဗိသုကာတွေ ဖြစ်တယ်။ တစ်ဦး

တစ်ယောက်ရဲ့ အကောင်းနဲ့အဆိုး၊ ချမ်းသာနဲ့ ဆင်းရဲကို ဘုရားရှင်လဲ မတတ်နိုင်ဘူး။ တခြား ပုဂ္ဂိုလ် တစ်ဦး တစ်ယောက်ကလဲ မတတ်နိုင်ဘူး။ 'ဘယ်သူမပြု မိမိမှု' ဆိုတဲ့ အယူအဆဟာ ဗုဒ္ဓဘာသာရဲ့ အခြေခံပင်ရင်း အယူအဆဖြစ်တယ်။

သက်ရှိသတ္တဝါတွေရဲ့ အသက်ဝိညာဉ်ဓာတ် ရုပ်ခန္ဓာကိုယ်တွေပါ ဘယ်ဟာမှ တည်မြဲတာမရှိဘူး။ သက်ရှိသက်မဲ့ မြင်မြင်သမျှ အားလုံးဟာ ပျက်စီးကုန်ရမယ်။ ဒါကြောင့် ဗုဒ္ဓက သူ့ရဲ့ အယူဝါဒကို အနတ္တဝါဒလို့ ထုတ်ဖော်ပြောကြားတယ်။ အားလုံးတည်မြဲပါတယ်၊ အနှစ်သာရရှိပါတယ်လို့ ယုံကြည်နေချိန်မှာ ဗုဒ္ဓက မတည်မြဲဘူး အနှစ်သာရမရှိဘူးလို့ ပြောကြားလိုက်တာဟာ အင်မတန် ကြီးမားတဲ့ မဟာ တော်လှန်ရေးကြီး ဖြစ်တယ်။

မေး။ ။ဗုဒ္ဓဂေါတမဟာ လူတွေရဲ့ ကောင်းကျိုး ဆိုးကျိုးတွေ မဖန်တီးနိုင်ရင် သူ့ကို ဘာ့ကြောင့် ကိုးကွယ်ရသလဲ။

ဖြေ။ ။ဂေါတမ ဘုရားရှင်ဟာ လူတွေရဲ့ ကောင်းကျိုးဆိုးကျိုးကို သူ့ရဲ့ တန်ခိုးတော်နဲ့ မဖန်တီး မပြုလုပ်နိုင်ပါဘူး။ ဂေါတမဗုဒ္ဓဟာ တို့ကို မ,စလိမ့်မယ်၊ ကယ်တင်လိမ့်မယ် ဆိုတဲ့ ယုံကြည်ချက်နဲ့ လူတွေက ကိုးကွယ်နေတာ မဟုတ်ပါဘူး။ ဘုရားရှင်ဟာ ဒီပြင်လူတွေ မတွေ့ မမြင်သေးတဲ့ တရားတွေကို အမှားနဲ့အမှန် ခွဲခြားသိမြင်ခဲ့တယ်။ မကောင်းကျိုးကို ပေးတတ်တဲ့ အကုသိုလ်အမှားတရားနဲ့ ကောင်းကျိုးကို ပေးတတ်တဲ့ ကုသိုလ် အမှန်တရားတွေကို ခွဲခြားပြီး ဟောကြားခဲ့တယ်။ ဒီလို ကြံစည်ပြောဆို လုပ်ဆောင်မှုဟာ ကောင်းတဲ့ ဘဝကို ရောက်စေနိုင်တဲ့ သုဂတိလမ်းကောင်း၊ ဒီလို ကြံစည်

ပြုသို လုပ်ဆောင်မှုဟာ မကောင်းတဲ့ဘဝ ရောက်စေနိုင်
တဲ့ ဒုစရိုက် လမ်းဆိုး ဖြစ်တယ်လို့ လမ်းကောင်းနဲ့ လမ်းဆိုး၊
လမ်းမှန်နဲ့ လမ်းမှားကို ကွဲကွဲပြားပြား ပြတ်ပြတ်သားသား
ညွှန်ကြားခဲ့တယ်။ အဲဒီလို ကောင်းဆိုးလမ်းများကို ညွှန်
ကြားခဲ့တဲ့ လမ်းညွှန် ပုဂ္ဂိုလ်မြတ်ကြီး တစ်ပါးအနေနဲ့ ကိုး
ကွယ် ဆည်းကပ် ဝတ်ပြုပူဇော်ကြခြင်းသာ ဖြစ်တယ်။ ယခု
ဘဝအတွက် သိသင့် သိထိုက်တဲ့ အသိပညာ အတတ်ပညာ
တွေကို သွန်သင်ပြသတဲ့ ဆရာ ဆရာမတွေရဲ့ ဂုဏ်ကျေးဇူး
ကို လေးစားမြတ်နိုး ရှိခိုးပူဇော်တဲ့ သဘောသာဖြစ်တယ်။
ဗုဒ္ဓဘာသာ ကိုးကွယ်မှုဟာ အခြား ဘာသာ တွေမှာလို
ကြောက်ရွံ့တဲ့သဘော၊ ကိုယ်လိုချင်တဲ့အကျိုးကို ရအောင်
... စေလိုတဲ့သဘော လုံးဝ မပါဘူးဆိုတာကို အထူးသတိ
ထားရမယ်။

မေး။ ။ဗုဒ္ဓဝါဒမှာ အနတ္တဆိုတော့ လူတွေဟာ သေ
ပြီးရင် ဘာမှမဖြစ်ဘဲ ဘဝပြတ်သွားသလား။

ဖြေ။ ။လူဟာ သေပြီးတဲ့နောက် ဘာမှ ပြန်မဖြစ်ဘဲ
ဘဝ ပြတ်မသွားပါဘူး။ နောက် ဘဝတစ်ခုမှာ ပြန်ဖြစ်ပါ
တယ်။ ဗုဒ္ဓမြတ်စွာဟာ ပျက်စီးခြင်းမရှိ ထာဝစဉ် တည်မြဲနေ
တဲ့ အတ္တဝိညာဉ် ရှိတယ်ဆိုတဲ့ တည်မြဲဝါဒ သဿတအယူကို
ဘက်မှာ တိုက်ခိုက်ရသလို တစ်ဖက်မှာလဲ 'နောင်ဘဝ
ဆိုတာ မရှိဘူး၊ သေပြီးရင်လဲ ဘာမှမဖြစ်ဘူး' လို့ ယူဆတဲ့
ပြတ်စဲဝါဒ ဥစ္ဆေဒ အယူကိုလဲ တော်လှန် ဆန့်ကျင်ခဲ့တယ်။

မေး။ ။သေပြီးတဲ့နောက် ဘာမှမဖြစ်ဘူးဆိုတဲ့ ပြတ်စဲ
ဝါဒ ဥစ္ဆေဒဝါဒမှာ ဘယ်လို အပြစ်ရှိသလဲ။

ဖြေ။ ။ဘုရားရှင် လက်ထက်မှာ ဖြစ်ခဲ့တဲ့ ဥစ္ဆေဒ အယူကို ကြေညာနေတဲ့ သူတွေကတော့ တိတ္ထိဆရာကြီးတွေပဲ ဖြစ်တယ်။ သူတို့အဆိုက - ဆတ္တဝါတွေဟာ ဒီဘဝကို ဘယ် ဘဝကမှ ကူးပြောင်းလာတာ မဟုတ်ဘူး။ အခုဘဝ သေဆုံး သွားပြီးရင်လဲ ဘယ်ဘဝမှာမှ မဖြစ်တော့ဘူး။ ဘဝကူး တယ်ဆိုတာ မရှိလို့ နောက်ဘဝ ကောင်းရာ ကောင်း ကြောင်းအတွက် ကုသိုလ်ကောင်းမှုတွေလဲ လုပ်စရာမလိုဘူး။ မကောင်းမှု အကုသိုလ်တွေ လုပ်လို့လဲ ဘာအပြစ်မှ မခံရဘူး။ ဒီလို နောင်ဘဝ မရှိတဲ့အတွက် နောင်ဘဝ ကောင်းစားရေး အတွက် ကုသိုလ်ကောင်းမှုလဲ လုပ်ရာမလိုဘူး။ အကုသိုလ် မကောင်းမှုတွေကိုလဲ ရှောင်ကြဉ်နေစရာ မလိုဘူး၊ ဒါကြောင့် ဒီဘဝမှာ ကောင်းမယ်ထင်ရင် ကိုယ် အကျိုးရှိမယ်ဆိုရင် ဘာမဆို လုပ်နိုင်တယ်လို့ ဆိုရာရောက်တယ်။ စာနာမှ ယိုင်း ပင်းကူညီမှု လုံးဝမရှိတဲ့ လူမျိုးတို့ရဲ့ အတွေးအခေါ် အပြ အမူသာ ဖြစ်တဲ့အတွက် ဘာသာတရားအားလုံးနဲ့ ဆန့်ကျင် ပြီး စာနာမှု ယိုင်းပင်းမှုတွေနဲ့ ယှဉ်ကျေးနေတဲ့ လူ့အဖွဲ့ အစည်းတွေက လက်မခံလိုကြတာ ဖြစ်တယ်။

မေး။ ။အနတ္တဝါဒဖြစ်တဲ့ ဗုဒ္ဓဘာသာကို စတင် တည် ထောင်သွားတဲ့ ဗုဒ္ဓအကြောင်း အကျဉ်းချုပ် ပြောပြပါ။

ဖြေ။ ။ဗုဒ္ဓမြတ်စွာဟာ အိန္ဒိယနိုင်ငံ ကပိလဝတ် နေ ပြည်တော် ဘုရင်သုဒ္ဓေါဒနနဲ့ မိဖုရားကြီး မာယာတို့ရဲ့ တစ်ဦးတည်းသော သားတော် ဖြစ်တယ်။ ၁၆-နှစ်အရွယ်မှာ ဒေဝဒဟပြည်သူ ယသော်ဓရာ မင်းသမီးနဲ့ အိမ်ထောင်ပြုပြီး ထီးနန်းစည်းစိမ်ကို ခံစားတယ်။ တစ်နေ့ ဥယျာဉ်ကစား ထွက်တုန်းမှာ သူအို၊ သူနာ၊ သူသေ၊ နိမိတ် ၃-ပါးကို မြင်

တော့ အိုနာသေရေး ဒုက္ခဘေးတွေကို ဆင်ခြင်သုံးသပ်မိပြီး သိသံဝေဂရတယ်။ ထို့နောက် ရဟန်းအသွင် နိမိတ်ကို မြင်တဲ့အခါ အိုနာသေမှု ဒုက္ခမှ ကင်းလွတ်ရာ ဌာနတစ်ခုရှိ တယ်။ ဒီဌာနကို ရောက်ဖို့အတွက် လောကီအာရုံခံစားမှုတွေ စွန့်လွှတ်ပြီး ရဟန်း၊အသွင်နဲ့ အမှန်တရားကို ရှာဖွေရမယ်လို့ သိရှိလာတယ်။ အဲဒီအချိန်မှာ သားတော်ရာဟုလာ ဖွားမြင် တော်မူကြောင်း သတင်းရတယ်။ သံယောဇဉ် အမျှင် မကြီး၊ သွားခင် သောကကွက်မှ တော်တော့မယ်လို့ အဲဒီနေ့မှာပဲ ထက်ထဲတော် ခမောင်ဆာန်ကိုခေါ်ပြီး ကဏ္ဍကမြင်းနဲ့ ဥရုဝေဠ တောကို ပို့နိုင်းတယ်။ ဥရုဝေဠတောမှာ ၆-နှစ်တိုင်တိုင် ဂု ဘာမနဲ့တို့ ကျင့်နိုင်ခဲ့တဲ့ ဒုက္ကရစရိယာ အကျင့်ကို ကျင့်တော် မူတယ်။ မဟာသက္ကရာဇ် ၁၀၃ ခု၊ ကဆုန်လပြည့်နေ့မှာ ညောဓလေးပါး အမှန်တရားကို ထိုးထွင်းသိမြင်ပြီး ဘုရား အဖြစ်ကို ရတော်မူတယ်။

သိသင့် သိထိုက်တဲ့ အားလုံးကို ထိုးထွင်းသိမြင်တဲ့ အချိန် စပြီး ဘုရားရှင်ဟာ သူရဲ့ မူလငယ်နာမည် သိဒ္ဓတ္ထကို ဖျောက်ပြီး ဗုဒ္ဓလို့ နာမည်သစ် မှည့်တော်မူတယ်။

ဘုရား ဖြစ်တော်မူပြီးတဲ့နောက် ၄၅-ဝါ (၄၅-နှစ်) ကာလပတ်လုံး သူကိုယ်တိုင် ခဲခဲယဉ်းယဉ်း ပင်ပင်ပန်းပန်း ကြိုးစား ရှာဖွေထားရတဲ့ တရားစစ် တရားမှန်တွေကို မနား နေ ဟောကြားတော်မူပြီး သက်တော် ၈၀-မှာ ပရိနိဗ္ဗာန် စံတော်မူခဲ့တယ်။

မေး။ ။ဗုဒ္ဓဟာ ပရိနိဗ္ဗာန် စံသွားပြီး ဖြစ်ပါလျက် ဗုဒ္ဓ ဘာသာ ကိုးကွယ်မှုဟာ ဘာဖြစ်လို့ ယခုတိုင် ဆက်လက် တည်တံ့နေသလဲ။

ဖြေ။ ။ဗုဒ္ဓဟာ ပရိနိဗ္ဗာန် စံသွားပေမယ့် ဗုဒ္ဓကိုယ်စာ
ကိုးကွယ်စရာ ဓာတ်တော် မွေတော်တွေ ကျန်ခဲ့တယ်။ သာ
တော်ထင်ရှားရှိစဉ်က ဟောခဲ့တဲ့ တရားတော်တွေကို အစ
မပြတ် သင်အံဆောင်ရွက် တစ်ဆင့် ဟောပြောပေးဖို့ သံဃာ
ဂိုဏ်းတစ်ခုကို တည်ထောင်ခဲ့တယ်။ အဲသည် သံဃာတော
တွေရဲ့ ကျင့်ဝတ်အဖြစ် ဝိနည်း သိက္ခာပုဒ်တွေလဲ ပညတ်
တယ်။ လူ့ယဉ်ကျေးမှုတွေကို လူသားအဆက်ဆက် သယ
ဆောင်ထိန်းသိမ်းခဲ့သလို ဗုဒ္ဓယဉ်ကျေးမှု အမွေအနှစ်တ
ကိုလဲ ဘုရားသားတော်လို့ ခေါ်နိုင်တဲ့ သံဃာတော်တွေ
ဆက်လက် ထိန်းသိမ်းခဲ့ပါတယ်။ ဒီသံဃာတော်တွေရဲ့ ကျေ
ဇူးကြောင့် ဗုဒ္ဓသာသနာဟာ ယနေ့တိုင် ဆက်လက်တည်တံ့
နေတာ ဖြစ်ပါတယ်။ ဒါကြောင့် ရိုးရိုးလူတွေက သံဃာ
တော်တွေကို ရိုသေလေးစား ကိုးကွယ်နေကြရတာဖြစ်တယ်
မေး။ ။ဗုဒ္ဓသာသနာဟာ အိန္ဒိယပြည်နဲ့ ကမ္ဘာကို ဘယ
လို ပျံ့နှံ့သွားသလဲ။

ဖြေ။ ။မြတ်စွာဘုရား သက်တော်ထင်ရှား ရှိစဉ်က
ဘုရားရှင်နဲ့ သံဃာတော်တွေဟာ ဂင်္ဂါမြစ်ဝှမ်း တစ်လိုက်
အင်္ဂတိုင်း၊ မဂဓတိုင်း၊ ကောသလတိုင်း စတဲ့ တိုင်းကြီ
တစ်ဆယ့်ခြောက်တိုင်း အတွင်းမှာသာ ဗုဒ္ဓ သာသနာက
ဖြန့်ဖြူးနိုင်ခဲ့တယ်။ ဘုရားရှင် ပရိနိဗ္ဗာန် စံပြီးတဲ့နောက် ရှ
မဟာကဿပစတဲ့ ရဟန္တာ မထေရ်မြတ်ကြီးတွေက ဘုရား
ရှင် ဟောကြားခဲ့တဲ့ တရားတော်တွေကို ဝိနယ တစ်ရ
သုတ္တန်တစ်ရပ်၊ အဘိဓမ္မာတစ်ရပ်၊ သုံးစုခွဲပြီး စုပေါင်းရွတ်ဆ
ပွဲ၊ သံဂါယနာတင်ပွဲကြီး ကျင်းပတယ်။ ဘုရားရှင် ပရိနိဗ္ဗာန
စံပြီး မကြာမီ ရာဇဂြိုဟ်ပြည်မှာ ပထမသံဂါယနာ၊ နောက်

နှစ်ပေါင်း ၁၀၀-အကြာ ဝေသာလီပြည်မှာ ဒုတိယ သံဂါယနာ တင်ခဲ့တယ်။ ဘုရားရှင် ပရိနိဗ္ဗာန်စံပြီး နှစ်ပေါင်း ၃၀၀-အကြာ ပါဋလိပုတ်ပြည်မှာ တတိယအကြိမ် စုပေါင်းရွတ်ဆိုတဲ့ သံဂါယနာတင်ပွဲကြီးကို ကျင်းပခဲ့တယ်။ အဲဒီ တတိယ သံဂါယနာတင်ပွဲကြီးကို ချီးမြှောက်ထောက်ပံ့တဲ့ အာသောက မင်းတရားကြီးဟာ အိန္ဒိယပြည် တစ်ပြည်လုံးကို ကျယ်ကျယ် လုံးဝ၊ အုပ်စိုးနိုင်တဲ့အတွက် ဗုဒ္ဓဘာသာ အိန္ဒိယပြည် တစ်ပြည်လုံးကို ပျံ့နှံ့သွားခဲ့တယ်။ အဲဒီ သံဂါယနာ တင်ပြီး အပြီးမှာ သာသနာတော် ပြန့်ပွားရေး အရှည် တည်တံ့ရေး အတွက် သာသနာတော် မရောက်သေးတဲ့ ကိုးတိုင်း ကိုးဌာနကို သာသနာပြုပုဂ္ဂိုလ်များ စေလွှတ် သာသနာပြုခဲ့တယ်။ အဲဒီ ကိုးတိုင်းကိုးဌာနထဲမှာ သီဟိုဠ်နဲ့ မြန်မာနိုင်ငံဟာ ၁၀-ရာစု နောက်ပိုင်း အိန္ဒိယမှာ သာသနာ ကွယ်သွားတဲ့အခါ ဗုဒ္ဓဘာသာ ပင်ရင်း ခေါင်းဆောင်နိုင်ငံတွေ ဖြစ်လာတယ်။ အိန္ဒိယမှာ နှစ်ပေါင်း ၁၅၀၀-လောက် ဗုဒ္ဓဘာသာ ထွန်းကားပြီး ၁၂-ရာစု ခေတ်ဦးလောက် ရောက်တော့ ဗုဒ္ဓသာသနာဟာ ပင်ရင်း အိန္ဒိယမှာ လုံးဝကွယ်သွားခဲ့တယ်။

မေး။ ဗုဒ္ဓဘာသာမှာ အခြေခံဂိုဏ်းကြီး ဘယ်နှစ်မျိုး ရှိသလဲ။ အဲဒီဂိုဏ်းတွေရဲ့ အဓိက ခြားနားချက်က ဘာလဲ။

ဖြေ။ ဗုဒ္ဓဘာသာဟာ ထေရဝါဒ ဗုဒ္ဓဘာသာနဲ့ မဟာယာန ဗုဒ္ဓဘာသာဆိုပြီး ဂိုဏ်းကြီးနှစ်ခုရှိတယ်။ ဘုရားရှင် ပရိနိဗ္ဗာန်စံပြီး မကြာခင်ပြုလုပ်တဲ့ ပထမ သံဂါယနာ သံဃာ့ အစည်းအဝေးကြီးမှာ သံဃာတော် အားလုံးဟာ မကွဲမပြား တစ်စည်းတစ်လုံးတည်းပဲ ဖြစ်တယ်။ နှစ်ပေါင်း

၁၀၀-ခုကြာ ဝေသာလီမှာ လုပ်တဲ့ ဒုတိယ သံဂါယနာ အစည်းအဝေးကြီးနောက်တော့ သံဃာတွေ နှစ်စု ကွဲသွားတယ်။ အဲဒီ မူလသံဃာဂိုဏ်းကြီးနှစ်ခုဟာလဲ ဂိုဏ်းခွဲ တည်ထောင်ကြတာ နှစ်ပေါင်း ၁၀၀-အတွင်း (၁၈) ဂိုဏ်းတိတိ ရှိလာတယ်။ အခြေခံ ဂိုဏ်းကြီးတွေကတော့ ထေရဝါဒနဲ့ မဟာယာနဂိုဏ်းကြီး နှစ်ခုပါပဲ။

အဲဒီဂိုဏ်းနှစ်ခုရဲ့ အဓိကခြားနားချက်ကတော့

ထေရဝါဒဂိုဏ်းက ရှင်မဟာကဿပတို့ မထေရ်ကြီးတွေရဲ့ ပထမ သံဂါယနာတင် ပိဋကတ်တွေကို အတိအကျ ထိန်းသိမ်း စောင့်ရှောက်တဲ့ အစဉ်အလာ ရိုးရာဂိုဏ်း ဖြစ်တယ်။

မဟာယာန ဗုဒ္ဓဘာသာကတော့ ပိဋကတ်တော်တွေထဲက ဖြတ်သင့်တာဖြတ်ပြီး ထည့်သင့်တာတွေထည့်ပြီး ဗုဒ္ဓဘာသာကို ခေတ်မီအောင် ပြင်ဆင်တဲ့ဂိုဏ်း ဖြစ်ပါတယ်။ မဟာယာနရဲ့ အမြင့်မြတ်ဆုံး ရည်ရွယ်ချက်က မိမိကိုယ်တိုင် သံသရာမှ လွတ်မြောက်စေတဲ့ အရဟတ္တသော မဟုတ်ဘူး။ သတ္တဝါများကို သံသရာမှ လွတ်မြောက်စေမယ့် ပရဟိတ ကျင့်စဉ် ဖြစ်တယ်။ နိဗ္ဗာန်ကို မျက်မှောက်ပြုပြီးတဲ့ ဘုရား ရဟန္တာတွေဟာ အတုယူစံထားထိုက်တဲ့သူတွေ မဟုတ်ဘူး။ ရအံ့ဆဲဆဲ ဖြစ်တဲ့ နိဗ္ဗာန်ကိုစွန့်လွှတ်ပြီး သတ္တဝါတွေကို သံသရာမှ လွတ်မြောက်အောင် ကယ်တင်ဖို့ ကြိုးစားနေတဲ့ ဗောဓိသတ္တဝါ ဘုရားလောင်းတွေကသာ အတုယူ စံထားထိုက်သူတွေ ဖြစ်တယ်လို့ ယုံကြည်တယ်။

ထေရဝါဒ ဗုဒ္ဓဘာသာကတော့ ပွင့်ပြီးတဲ့ ဘုရားမှန်ကို ကိုးကွယ်ဆည်းကပ်တာ ဘုရားရှင် ဟောခဲ့တဲ့အတိုင်း ကျင့်

ကြည့်အားထုတ်ခြင်းဖြင့် သံသရာလွတ်မြောက် နိဗ္ဗာန် ရောက်အောင် အားထုတ်ရမယ်လို့ ခံယူတယ်။

မဟာယာနက ပွင့်ဖို့ကျင့်နေတဲ့ ဗောဓိသတ္တ ဘုရားလောင်းကို အရေးထားပြီး ထေရဝါဒက ပွင့်ပြီးတဲ့ ဗုဒ္ဓဘုရားရှင်ကို အရေးထားတယ်။ ထေရဝါဒ ဗုဒ္ဓဘာသာဟာ မိမိရဲ့ လွတ်မြောက်မှု တစ်ခုတည်းအတွက် အရေးထားတဲ့အတွက် ဟီနယာန အနိမ့်စားလမ်းစဉ် ဖြစ်တယ်။ သူတို့ရဲ့ မဟာယာနကတော့ ကိုယ်တိုင် လွတ်မြောက်မှုသာမက အခြားသူတွေရဲ့ လွတ်မြောက်ရေးအတွက် အပင်ပန်း အဆင်းရဲခံ ကျင့်နေတာ ဖြစ်လို့ မဟာယာန မြင့်မြတ်တဲ့လမ်းစဉ်လို့ မဟာယာနဂိုဏ်းဝင်တွေက နာမည်တပ်ပေးခြင်း ဖြစ်တယ်။

မဟာယာန ဗုဒ္ဓဘာသာဟာ တရုတ်၊ ဂျပန်နဲ့ ကိုးရီးယားနိုင်ငံတွေမှာ ထွန်းကားလို့ မြောက်ပိုင်း ဗုဒ္ဓဘာသာလို့လဲ ခေါ်ကြတယ်။ ထေရဝါဒ ဗုဒ္ဓဘာသာကတော့ သီဟိုဠ်၊ မြန်မာ၊ ထိုင်း၊ ကမ္ဘောဒီးယား၊ လာအိုနိုင်ငံတွေမှာ ထွန်းကားလို့ တောင်ပိုင်းဗုဒ္ဓဘာသာလို့ ခေါ်ကြတယ်။

မေး။ ။မြန်မာနိုင်ငံကို ဗုဒ္ဓဘာသာ ဘယ်တုန်းက ရောက်လာသလဲ။

ဖြေ။ ။ဗုဒ္ဓသည် ဘုရားဖြစ်ပြီးလို့ (၄၉)ရက် သံဃ လင်းလွန်းပင်ရင်းမှာ စံနေတော်မူစဉ် မြန်မာပြည်သား တဖုဿနဲ့ ဘလ္လိက ကုန်သည်ညီနောင်တို့ဟာ ဘုရားရှင်ထံ ရောက်သွားကြတယ်၊ မုန့်ကြက်ချစ် လှူဒါန်းတော်မူလို့ ဘုရားရှင်က ဆံတော် (၈) ဆူ ချီးမြှင့်လိုက်တယ်။ အဲဒီအချိန်မှာ သံဃာ မရှိသေးဘူး။ ဘုရားနဲ့ တရားကို ကိုးကွယ် ဆည်းကပ်သူတွေထဲမှာ အဓေဝသုံးပုဂ္ဂိုလ်တွေအဖြစ်နဲ့ ပိဋကတ်မှာ မှတ်တမ်း

တင်ခံရတဲ့ ပုဂ္ဂိုလ်တွေပဲ။ တပုဿနဲ့ ဘလ္လိကတို့ဟာ မြန်မာပြည် ပြန်လာပြီး ဥက္ကလာပမင်းကြီးနဲ့ တိုင်ပင်ကာ ရွှေတိဂုံစေတီတော်ကို တည်ထားကိုးကွယ်ကြတယ်။ ဂေါတမဘုရားရှင်ရဲ့ ဆံတော်ပါတဲ့ စေတီထဲမှာတော့ သက်တမ်းအကြီးဆုံးစေတီပဲ။

ရဟန္တာ ဂဝံပတိထေရ် ပင့်လျှောက်ချက်အရ ဘုရားရှင် ဝါတော်(၈)ဝါအရမှာ ရဟန္တာနှစ်ထောင်နှင့်အတူ သုဝဏ္ဏဘူမိ သထုံကို ဘုရားရှင် ကြွလာပြီး တရားဟောတယ်။

စူဠပုဏ္ဏ၊ မဟာပုဏ္ဏ ကုန်သည်ညီနောင်တို့က လက်ားလား သစ်ကို အဖိုးတန်သိန်းထိုက်တန်တဲ့ စန္ဒကူးနံ့ကျောင်းတော်ကြီးကို မင်းဘူးမြို့ လယ်ကိုင်း ကျောင်းတော်ရာမှာ ဆောက်လုပ် လှူဒါန်းတယ်။ ကျောင်းအလှူ ရေစက်ချပွဲကို ဘုရားရှင်ကိုယ်တိုင် ဝါတော် (၂၀) ကျော်မှာ ကြွရောက်လာပြီး တရားဟောကြားတယ်၊ သစ္စဗန္ဓရသေ့ကြီး တောင်းပန်လို့ မင်းဘူးမှာ ခြေတော်ရာ ချထားခဲ့တယ်။

သာသနာသက္ကရာဇ် ၁၀၁-ခုနှစ်မှာ သရေခေတ္တရာပြည်ရဲ့ ဒွတ္တဘောင်မင်းကြီးလက်ထက် ရဟန္တာ ၇၀၀ ကို နေ့စဉ် ပစ္စည်းလေးပါး ထောက်ပံ့တယ်။ ဓာတ်တော် ၆-ဆူကို ဌာပနာပြီး “ညီညီ၊ ညည်း၊ စည်းစည်း၊ ပေါပေါ၊ ပျော့ပျော့မြဲသိတင်း” ဆိုသည့် ဘုရားစေတီတွေနဲ့ လက်ရုံးတော် ဓာတ်ကို ဌာပနာတဲ့ မြင်ပားဒု စေတီတွေဟာ ယနေ့တိုင်ရှိနေတဲ့ ဗုဒ္ဓဘာသာ အထိမ်းအမှတ်တွေ ဖြစ်တယ်။

ဒါပေမယ့် အဆက်မပြတ်တည်ရှိပြီး အခိုင်အမာ ထွန်းလင်းနေတဲ့ ဗုဒ္ဓဘာသာကတော့ သာသနာ သက္ကရာဇ် ၂၃၇ ခုနှစ်မှာ တတိယ သံဂါယနာတင်ပြီး အသောကမင်းကြီး

၉-တိုင်း ၉-ဌာန သာသနာပြု လွှတ်တဲ့အခါမှာ ရှင်သောဏနဲ့ ရှင်ဥတ္တရတို့ ဦးဆောင်တဲ့ သာသနာပြု အဖွဲ့ဟာ မြန်မာနိုင်ငံ ရှေးက သုဝဏ္ဏဘူမိလို့ ခေါ်တဲ့ သထုံမြို့ကို ရောက်လာပြီး သာသနာပြုခဲ့ကြတယ်။

ဘုရားရှင် ပရိနိဗ္ဗာန်စံပြီးလို့ နှစ်ပေါင်း (၄၅၀) နှစ်အကြာ သီဟိုဠ်ကျွန်းမှာ ပိဋကသုံးပုံကို ပေရွက်တွေပေါ်မှာ ရေးပြီး စတုတ္ထသံဂါယနာ တင်တော်မူခဲ့ကြတယ်။ အဲဒီပိဋကသုံးပုံ ပေစာတွေကို သထုံရဟန်းတော်တွေက ကူးယူလာကြလို့ အောက်မြန်မာနိုင်ငံမှာ ထေရဝါဒ ဗုဒ္ဓဘာသာ နိုင်ခိုင်မာမာ တွင်းကားနေတယ်။ မြန်မာသက္ကရာဇ် (၄၁၉) ၁၁-ရာစု အေဒီမှာ အနော်ရထာမင်းစောက သထုံ မနူဟာမင်းထံက ပိဋကတ်အစုံ (၁၀) နဲ့ ပိဋကတ်ဆောင် ရဟန်းသံဃာတော်တွေကို ပင့်ဆောင်ပြီး တစ်နိုင်ငံလုံးမှာ ဗုဒ္ဓသာသနာတော် ပြန့်ပွားရေးကို ဆောင်ရွက်ခဲ့တဲ့ အတွက် မြန်မာနိုင်ငံဟာ ထိပ်တန်းထေရဝါဒ ဗုဒ္ဓဘာသာ နိုင်ငံကြီး ဖြစ်လာခဲ့တယ်။ အနော်ရထာဟာ အကျယ်ဆုံး မြန်မာနိုင်ငံတော်ကြီးကို တည်ထောင်နိုင်ခဲ့သလို ထေရဝါဒဗုဒ္ဓသာသနာကိုလဲ တစ်နိုင်ငံလုံး ပြန့်အောင် ဖြန့်နိုင်ခဲ့တယ်၊ နိုင်ငံတစ်ဝန်းလုံးမှာ ကြီးမားခိုင်ခံ့တဲ့ စေတီပုထိုးတွေကို တည်ပြီး သန့်စင်မှန်ကန်တဲ့ ထေရဝါဒ ဗုဒ္ဓဘာသာ အုတ်မြစ်ကို အခိုင်အမာ ချထားခဲ့တယ်။

မေး။ ။အနော်ရထာမင်းစော မတိုင်ခင်က မြန်မာလူမျိုးတွေဟာ ဘယ်ဘာသာကို ကိုးကွယ်နေကြသလဲ။

ဖြေ။ ။အနော်ရထာမင်းစော ထေရဝါဒဗုဒ္ဓသာသနာကို မဖြန့်မီ မြန်မာလူမျိုးတွေဟာ...

(၁) ကမ္ဘာ့အစောဆုံး ကိုးကွယ်မှုဖြစ်တဲ့ နတ်နဂါးတွေကို ကိုးကွယ်နေကြတယ်။
(၂) အိန္ဒိယပြည် ဟိန္ဒူကုန်သည်တွေဆီက တစ်ဆင့် ရရှိတဲ့ ဟိန္ဒူနတ်တွေ ဘုရားတွေနဲ့ ဟိန္ဒူဗြာဟ္မဏဝါဒတွေကို ကိုးကွယ်နေကြတယ်။
(၃) မြောက်ပိုင်း ဗုဒ္ဓဘာသာလို့ခေါ်တဲ့ မဟာယာနဂိုဏ်းရဲ့ ဂိုဏ်းခွဲတစ်ခုဖြစ်တဲ့ တန္တရယာန တိဗက်ဗုဒ္ဓဘာသာ ကိုလဲ ကိုးကွယ်နေကြတယ်။
(၄) မဟာဂိရိ၊ မြင်းဖြူရှင် စတဲ့ မြန်မာပြည်ဖြစ် နတ်တွေ ကိုလဲ ကိုးကွယ်နေကြတယ်။

မေး။ ။အနော်ရထာမင်းစော ထေရဝါဒ ဗုဒ္ဓဘာသာ ကို မြှင့်တင်ပြီးတဲ့နောက်မှာ မြန်မာလူမျိုးတွေဟာ အထက် ပါ ကိုးကွယ်မှု အယောင်းတွေကို လုံးဝ စွန့်လွှတ်ခဲ့ကြပါ သလား။

ဖြေ။ ။အသယ်ရောက်လာတဲ့ ထေရဝါဒ ဗုဒ္ဓဘာသာဟာ ကိုးကွယ်မှု အယောင်းတွေထက် အဆက်အကဲက သာလွန်ပြီး ဟောကြားတဲ့ တရားတော်တွေဟာ ပိဋကတ် အနိုင်အမာ ရှိတယ်။ ရဟန်းတော်တွေရဲ့ နေထိုင်ကျင့်ကြံမှုတွေဟာ ဝိနည်း တော်နဲ့အညီ ဖြစ်တယ်။ ဒါကြောင့်လဲ မင်းနှင့်တကွ ပြည်သူ လူထုက ထေရဝါဒ ဗုဒ္ဓဘာသာကို အဝတ်ကဲ အား တက် လိုက်လိုက်လှဲလှဲ ကြိုဆိုလက်ခံပြီး လေးလေးစားစား ကြည်ညိုကိုးကွယ်ကြတယ်။

ဒါပေမယ့် ဘိုးဘေး အစဉ်အဆက်က ကိုးကွယ်သည်းကပ် လာတဲ့ မိုးရာ နတ်ကိုးကွယ်မှု၊ ဟိန္ဒူဗြာဟ္မဏ အယူတွေကို အလွယ်တကူ မစွန့်လွှတ်နိုင်ကြပါဘူး။ ဒါကြောင့် ထေရဝါဒ

[illegible]ဘာသာ အသစ်ဟာ အဟောင်းဖြစ်တဲ့ နတ်ကိုးကွယ်မှုနဲ့ [illegible]ဗြာဟ္မဏ ကိုးကွယ်မှု မဟာယာနကိုးကွယ်မှုတွေနဲ့ ယှဉ်တွဲ [illegible]သုံးလာခဲ့တာဟာ ယနေ့တိုင် ဖြစ်ပါတယ်။

မေး။ ။နတ်ဟိန္ဒူနဲ့ မဟာယာန ဗုဒ္ဓဘာသာတွေ ရော [illegible]နေရင် မြန်မာဗုဒ္ဓဘာသာကို ထေရဝါဒတောင်ပိုင်း ဗုဒ္ဓဘာသာလို့ ခေါ်ဆိုနိုင်ပါ့မလား။

ဖြေ။ ။ခေါ်ဆိုနိုင်ပါတယ်။ မြန်မာနိုင်ငံဟာ ထေရဝါဒ [illegible] ဗုဒ္ဓဘာသာ နိုင်ငံဖြစ်တယ်လို့ မြန်မာလူမျိုးတွေကလဲ [illegible]ထားတယ်။ ကမ္ဘာကလဲ အသိအမှတ်ပြုတယ်၊ ရဟန်းတော် [illegible]တွေဟာ ထေရဝါဒ ဝိနည်းတော်အတိုင်း ကျင့်သုံးနေထိုင်ပြီး [illegible]ထေရဝါဒ ပိဋကတ်တွေကိုသာ သင်အံဟောကြားတဲ့အတွက် [illegible]ကြောင့် ဖြစ်တယ်။ ဒါပေမယ့် ကမ္ဘာက ဘယ်လိုပဲ အသိ [illegible]အမှတ်ပြုပြု မြန်မာဗုဒ္ဓဘာသာ ယဉ်ကျေးမှုထဲမှာ နတ်ဟိန္ဒူ [illegible] မဟာယာန ယဉ်ကျေးမှုတွေ ရောနှောနေတယ်ဆိုတာကိုလဲ အသိအမှတ် ပြုရမှာပဲ။ ဟိန္ဒူဗြာဟ္မဏ အယူဝါဒနဲ့ မဟာ [illegible]ယာန ဗုဒ္ဓဘာသာတွေကို လက်ခံကျင့်သုံးခဲ့တာ နှစ်ပေါင်း [illegible]ကြာညောင်းလာတဲ့ အတွက် ထေရဝါဒ ဗုဒ္ဓဘာသာ အယူ [illegible]ပဲ မှတ်ထင်နေကြပါတယ်။ ဒီလိုအမှုကို မသိကြတော့ [illegible]လဲ မြန်မာ့ယဉ်ကျေးမှုဟာ ထေရဝါဒ ဗုဒ္ဓဘာသာ ယဉ် [illegible]ကျေးမှုစစ်စစ် ဖြစ်တယ်လို့ ယုံကြည် မှတ်ယူနေကြခြင်း ဖြစ် [illegible]ပါတယ်။

မေး။ ။နတ်ကိုးကွယ်မှုကတော့ ထင်ရှားပါတယ်။ ဟိန္ဒူ ဗြာဟ္မဏနဲ့ မဟာယာန ကိုးကွယ်မှုတွေက ဘယ်ဟာတွေ ပါလဲ။

ဖြေ။ ။ထင်ရှားတဲ့ ဟိန္ဒူမြသပ္ပာ အယူဝါဒတွေက တော့ ဘုရားကိုးဆူ ပူဇော်တဲ့အခါ ငြိမ်ကြီးကိုးလုံး ငြိမ် နတ်ကြီး ကိုးပါးတို့ မြန်မာနိုင်ငံ စေတီပုထိုးတွေရဲ့ အရပ် (၈)မျက်နှာမှာ ဂြိုဟ်တိုင် (၈)တိုင်ထားတာတို့၊ ရက်ရာဇာ၊ ပြဿဒါး၊ နဂါးလှည့် စတဲ့ ဗေဒင် အဓေယာဆိုင်ရာတွေဟာ ဟိန္ဒူမြသပ္ပာ အယူဝါဒတွေဖြစ်ပြီး ရေမွှေးပုလင်း၊ သေည် တို့ရဲ့ ရှင်ဥပဂုတ်ရုပ်တု၊ ရှင်သီဝလိရုပ်တုများ ထည့်ကိုးကွယ်မှု၊ အင်းအိုင်၊ ခါးလှည့်၊ လက်ဖွဲ့နဲ့ မှော်အတတ် ပညာတွေဟာ မဟာယာနတန္တရယာနရဲ့ အယူအစာတွေ ဖြစ်တယ်။ ဒီအယူ အဆာတွေနဲ့ ပတ်သက်ပြီး နောက်မှ ထပ်ရှင်းပါဦးမယ်။

မေး။ ။အနော်ရထာမင်းစော နတ်ကိုးကွယ်မှုတွေ ဘယ် လို နှိမ်နင်းခဲ့ပါသလဲ။

ဖြေ။ ။အနော်ရထာမင်းစောဟာ အသွန် သန့်စင်တဲ့ ထေရဝါဒ ဗုဒ္ဓဘာသာကို နိုင်ငံအနှံ့ ပြန့်ပွားပေးမယ် လူတွေ ဟာ ကိုးကွယ်မှု အဟောင်းဖြစ်တဲ့ နတ်တွေကိုလဲ စွဲမြဲကိုးကွယ် နေကြတဲ့အတွက် အနော်ရထာမင်းစောဟာ ပုဂံနေပြည်တော် မှာရှိတဲ့ နတ်ကွန်းတွေကို ဖျက်၊ နတ်ရုပ်တွေကို ပီဘာနီး နတ်ကွန်းကြီးထဲ ထည့်ပြီး သော့ပိတ်ထားစေတယ်။ အဲဒီလို ပီဘာနီး နတ်ကွန်းကြီးကိုလဲ နတ်ရုပ်တွေ ထည့်လှောင်ထားလို့ နတ်လှောင်ကျောင်းလို့ ခေါ်တွင်ကြတယ်။

ဘုရင်ကိုယ်တိုင်က နတ်ကိုးကွယ်မှုကို နှိမ်နင်းနေပေမယ့် နတ်ကွန်း၊ နတ်ရုပ် မရှိပေမယ့် နတ်တွေကို တိတ်တဆိတ်ပူဇော် ပသ နေကြတယ်။ ဒါကို ဘုရင်အနော်ရထာသိလို့ လူတွေ ရဲ့ နတ်ကိုးကွယ်လိုတဲ့ ဆန္ဒလဲ ပြည့်ဝစေ၊ နတ်ပူဇော်ဖို့ လာ ရင်းနဲ့ ဘုရားကိုလဲ နှိုးနှိုး ပူဇော်ဖြစ်ကြစေတော့ ဆိုတဲ့ ရည်

...နဲ့ ရွှေစည်းခုံသူများတည်ထုံးအခါ ဂေါတီဘား တစ် ...မှာ မြန်မာနတ် (၃၇)မင်း ရုပ်လုံးဖုံတွေကို ထုလုပ် ...ထားတယ်။ သုရသတီ၊ မဟာပိန္နဲ စတဲ့ ဟိန္ဒူနတ်တွေကို ... လုံး၀ အစ, ဖျောက်ပစ်လိုက်ကြတယ်။ ဒီလိုနဲ့ ထေရ ... ဗုဒ္ဓဘာသာ မရောက်ခင်က ထွန်းကားနေတဲ့ နတ်ကိုး ...မှာ ထေရ၀ါဒ ဗုဒ္ဓဘာသာနှင့်အတူ ယှဉ်ပြိုင် ထွန်းကား ... ဒီနေ့အထိပဲ ဖြစ်ပါတယ်။

မေး။ မြန်မာနိုင်ငံမှာ တောင်ပိုင်း ထေရ၀ါဒဘာသာ ...လို မြောက်ပိုင်း မဟာယာနအနွယ် အရည်းကြီး ...တွေဟာ ဘယ်လိုကျင့်ကြံ နေထိုင်ကြပါသလဲ။

ဖြေ။ အရည်းကြီး ရဟန်းတွေဟာ ဧ၀ါ ၀တ်ရုံ သင်္ကန်း ...ကို မ၀တ်ကြဘူး။ ဒီနေ့ ရသေ့ တွေ၀တ်တဲ့ အညိုမှိုင်းမှိုင်း ... သင်္ကန်းတွေ ၀တ်ဆင်ကြတယ်။ ဆံပင်တွေကို ...လေးသစ်ကျော်အထိ အရှည်ထားကြတယ်၊ မုတ်ဆိတ်မွေး ...ထားကြတယ်။ ရဟန်းနဲ့ မတူဘဲ ရသေ့ နဲ့ ပိုတူနေ ...။ သူတို့မှာ ပိဋကတ်စာပေ အခိုင်အမာ မရှိဘူး။ သူတို့ ...ကိုယ်တိုင်လဲ နတ်ကိုးကွယ်တယ်။ လူတွေကိုလဲ နတ်ကိုးကွယ်မှု ... ဆောင်ရွက်ပေးတယ်။ ထန်းရည် အရက်တွေလဲ ...သောက်တယ်။ [illegible] ထိုးတယ်။ ဆေးကုတယ်။ အင်းအိုင် ... လက်ဖွဲ့၊ မန္တန်တွေကို စီရင်ပေးတယ်။ ဗေဒင်ဟော ...[illegible]လုပ်ငန်းတွေကို လုပ်ကြတယ်။ မင်္ဂလာဆောင်တော့ ... သတို့သမီးကို မင်္ဂလာမဆောင်မီ တစ်ည အရည်းကြီး ... လွှတ်ပေးရတယ်။ ဒါကို ပန်းဦးလွှတ်တယ်လို့ ခေါ် ... အရည်းကြီးဂိုဏ်း ရဟန်းတွေရဲ့ အင်အားဟာလဲ မနည်း

လှဘူး။ ဂိုဏ်းချုပ် အရည်းကြီး (၃၀)နဲ့ နောက်လိုက် အရည်းကြီး ခြောက်သောင်းကျော် ရှိတယ်။ ဒီအရေအတွက် ကို ကြည့်ရင် ပုဂံနေပြည်တော်မှာ အရည်းကြီး သာသနာ ဘယ်လောက် ထွန်းကားခဲ့တယ် ဆိုတာ ခန့်မှန်းနိုင်တယ်။

မေး။ ။အရည်းကြီးတွေကို အနော်ရထာ မင်းစော ဘယ်လို နှိမ်နှင်းခဲ့သလဲ။

ဖြေ။ ။သန့်စင် မှန်မြတ်တဲ့ ထေရဝါဒ ဗုဒ္ဓသာသနာ ပုဂံကို ရောက်လာတဲ့အခါမှာ အနော်ရထာမင်း စောဟာ အရည်းကြီး ရဟန်းတွေကို လူဝတ်လဲပေးတယ်။ ဆင်ချေး ကျုံး၊ မြင်းချေးကျုံး စတဲ့ အလုပ်တွေကို လုပ်စေတယ်။ အချို့ အရည်းကြီး လူထွက်တွေကတော့ ဆေးဆရာ၊ ဗေဒင် ဆရာ၊ ပယောဂဆရာ၊ မျက်လှည့်ဆရာအဖြစ်နဲ့ အသက်မွေး ကြတယ်။ အရည်းကြီး ရဟန်းတွေဟာ အသွင်အားဖြင့် လုံးဝ ပျောက်သွားပေမယ့် သူတို့ရဲ့ လုပ်ငန်း အမွေအနှစ်တွေက တော့ ယနေ့တိုင် မြန်မာ့ယဉ်ကျေးမှုအဖြစ် ဆက်လက် တည် ရှိနေတယ်၊ ဒီပညာရပ်တွေကို ဒီနေ့အထိ ဆက်လက် သယ် ဆောင် ဖြန့်ဖြူးခဲ့သူတွေကတော့ အရည်းကြီး လူထွက်ဆရာ တွေပဲ ဖြစ်တယ်။

မေး။ ။ထေရဝါဒ ရဟန်းတော်တွေက ဘာဖြစ်လို့ အင်းအိုင်ခါးလှည့် လက်ဖွဲ့၊ [illegible] မှော် ပယောဂနဲ့ ဗေဒ ပညာတွေကို ဆက်ခံ ဖြန့်ဖြူးကြ သလဲ။

ဖြေ။ ။လူတွေဟာ အသိဉာဏ် မထိုးထက်သေးတော့ အထက်ပါ ပညာရပ်တွေမှာ စွဲလမ်း ယုံကြည်ကြတယ်။ ဒီ တို့ရဲ့ [illegible] အကျိုးအတွက် သာ ရှင်းကာပဲ မေးမြန်းကြတယ်။ ညွှန်ကြားတဲ့အတိုင်း လိုက်လု

…ယ်။ လူတွေရဲ့ ယုံကြည်မှုကို အခွင့်ကောင်းယူပြီး ဆရာ … ဆရာညာတွေလဲ ပေါများလာတယ်။ မိမိတို့ကို ဖွည်း …း ထောက်ပံ့ လှူဒါန်းနေတဲ့ ဒကာ ဒကာမတွေရဲ့ …ကျိုးအတွက် ဓိပညာတွေကို တချို့ အနည်းငယ်မျှသော …ဒရဟန်းတော်တွေက ဆက်လေ့လာကြတယ်။ ဒကာ …မတွေကို ဟောပြောကြတယ်။ နတ်ကိုးကွယ်မှုကို လုံးဝ …င်လို့ မရတဲ့အခါမှာ ဘုရားဖူးပြီးရင်တော့ နတ်တွေ …ဆော်ရင် ပွဲဇော်ကြပါစေဆိုပြီး စေတီတောမှာ နတ်ရုပ် … ထားပေးသလိုပါပဲ။ အင်းဂျိုင် မန္တန် ပယောဂတွေကို …မယုံကြည်ဖို့ ပိတ်ပင်လို့မရတော့ လူလိမ် လူညာတွေ …လဲလုပ်စေတော့။ ဓိပညာတွေနဲ့ ပတ်သက်ပြီး သာသနာနဲ့ …ယ်မှုလဲ ဖြစ်စေတော့ဆိုတဲ့ သဘောနဲ့ ထေရဝါဒ ရဟန်း …ာ်များကလဲ ဓိပညာတွေကို အဆင်သင့် သင်ယူခဲ့ သင်ကြား …ပေးခဲ့ကြတာပါပဲ။ ဘာသာရေး ရှုထောင့်နဲ့ ဝိနည်း …ခတ် ရှုထောင့်အရ မလျှော်ပေမယ့် သာသနာပြုရှုထောင့်၊ …ရေး ယဉ်ကျေးမှုရှုထောင့်က ကြည့်ပြီး လုပ်ဆောင်ကြခြင်း …ပါတယ်။

မေး။ ။နတ်နဲ့ဗေဒင် မန္တန်တွေကို ဘာကြောင့် လူတွေ …မ်းယုံကြည်ကြသလဲ။

ဖြေ။ ။ဗုဒ္ဓဘာသာဝင်တွေ ကိုးကွယ်တဲ့ ဘုရားဟာ …ားဘာသာတွေရဲ့ ဘုရားတွေလို ကယ်တင်မှု မစမှုမရှိဘူး။ …အရာကိုသာ ညွှန်ပြတော်မူနိုင်တယ်။ ကောင်းတာလုပ်ရင် …ကောင်းတဲ့အကျိုး ရတယ်။ မကောင်းတာလုပ်ရင် မကောင်းတဲ့ …ကျိုးရမယ်လို့ ဗုဒ္ဓက ဟောတယ်။

လူတွေဟာ မရသေးတဲ့ ရာထူးဂုဏ်သိန် စည်းစိမ်ကို ရချင်တယ်။ ရပြီးသား ရာထူးစည်းစိမ်တွေ ဆုံးရှုံးပျောက်ပျက်သွားမှာ စိုးရိမ်တယ်။ ကြောက်တယ်။ ဒီလိုချင်တဲ့ စိတ်နဲ့ ကြောက်စိတ်ကို နတ်တွေ ဗေဒင်အင်းအိုင် မန္တန်တွေကသာ လက်ငင်း ဒိဋ္ဌကူညီမစနိုင်တယ်လို့ ယုံကြည်ကြတယ်။ အဲဒီလို လောဘလောဘဆာ လောကီ ကောင်းကျိုးတွေရဖို့အတွက် နတ်၊ ဗေဒင်၊ အင်းအိုင် မန္တန်တွေကို ယုံကြည် အားကိုးနေကြခြင်း ဖြစ်တယ်။

မေး။ ။ဒီနေ့ မြန်မာတွေ ဟောပြော ယုံကြည်နေကြတဲ့ ဗေဒင်ဟာ ဟိန္ဒူဗြာဟ္မဏတွေရဲ့ ဗေဒင်(၄)ပုံနဲ့ တူပါသလား။

ဖြေ။ ။မတူပါဘူး၊ ဝေဒကျမ်း(၄)မျိုးရှိတဲ့ အနက် နောက်ဆုံးမှပေါ်လာတဲ့ အာထဗ္ဗဏဝေဒ ကျမ်းတစ်ကျမ်းနဲ့သာ တူပါတယ်။ အာထဗ္ဗဏဝေဒကျမ်းမှာ စုန်းအတွေ ကဝေ မှော် ပယောဂအတတ်၊ ဝိဇ္ဇာ ဓော်ရီ အပသီတွေနဲ့ အင်းအိုင် ခါးလှည့် လက်ဖွဲ့အတတ်၊ မြေလျှိုးမိုးပျံတဲ့ ဂန္ဓာရီ အတတ်တွေ ပါပါတယ်။ ဒီနောက်ဆုံး အာထဗ္ဗဏဝေဒကြောင့် ဘာသာရေးသက်သက်ဖြစ်ပြီး မှန်မြတ်တဲ့ အခြား ဝေဒသုံးကျမ်းရဲ့ ဂုဏ်သိက္ခာပါ ကျဆင်းခဲ့ရတယ်။ ဒါကြောင့် အချို့ ဗြာဟ္မဏ ဆရာကြီးတွေက နောက်ဆုံး အာထဗ္ဗဏဝေဒကို မလေ့လာကြဘူး၊ ပိဋကမှာ သုံးပုံသာရှိသလို ဗေဒင်ဟာလဲ သုံးကျမ်းပဲလို့ အသိအမှတ်ပြုကြတယ်။ ရှေးဦး ဗေဒင်သုံးကျမ်းဟာလဲ ဟိန္ဒူဗြာဟ္မဏ ဘာသာရေးဆိုင်ရာ ဝတ်ပြုကိုးကွယ်မှု ပူဇော်ပသမှုတွေကိုပြတဲ့ ကျမ်းတွေ ဖြစ်ပါတယ်။

မြန်မာပြည်မှာ ဟောနေတဲ့ ဗေဒင်မျိုး မဟုတ်ပါ

ဗေဒင်၊ မန္တာန်တွေဟာ တကယ် မှန်ကန်ပါ

မှာ၊ တာရှိသလို မှန်တာလဲ ရှိပါတယ်။ သိဒ္ဓတ္ထ
ဘာဟာ ဘုရားစင်စစ် ဖြစ်မယ်လို့ ဗေဒင်ပညာနဲ့ဟော
ပုဏ္ဏားအချို့ဟာ ဘုရားရှင်ရဲ့ လက္ခဏာတော်ကို
ဘုရားပဲလို့ အတတ်သိပြီး ပဲဝေကြတာလဲ ရှိပါ
အခြားမန္တာန်ဗေဒင်နဲ့ ပတ်သက်ပြီး ဟောထားတဲ့ ပိဋ
တွေ ဇာတ်ဝတ္ထုတွေလဲ ရှိပါတယ်။ ခမြသျှီးမိုး၊ ဂျ
ဂန္ဓာရီအတတ်နဲ့ လှဲမှားမှာစိုးလို့ ရဟန်းတွေ တန်ခိုး
မပြရဘူးလို့ ဘုရားရှင် ပညတ်ခဲ့တယ်။
ပေမယ့် လူတွေရဲ့ အသိဉာဏ်ခေါင်းပါးမှု၊ ယုံလွယ်
ရာထူးရာထူးဂုဏ်သိန်၊ လာဘ်လာဘ ရလိုမှုတွေကို အခွင့်
ယူပြီး ဗေဒင်မန္တာန် အတတ်တွေကို တကယ်တတ်
အောင် မသင်ဘဲ လိမ်ညာ ဖြီးဖြန်း စားသောက်နေ
များကြတဲ့အတွက် သိပ္ပံခေတ် လူငယ်တွေက ဗေဒင်
တွေကို အယုံအကြည် နည်းပါးလာခြင်း ဖြစ်တယ်။
မြန်မာနိုင်ငံ ဗုဒ္ဓဘာသာဟာ ထေရဝါဒဘာ
တယ်လို့ ဆိုနိုင်ပါသလား။
ဒီမေးခွန်းရဲ့ အဖြေတိကျမှုအတွက် မြန်မာနိုင်ငံ
သာနဲ့ မြန်မာတွေရဲ့ ဗုဒ္ဓဘာသာ ယဉ်ကျေးမှုနှစ်ခုကို
ဖြေဆိုပေးရမယ်။ မြန်မာနိုင်ငံ ဗုဒ္ဓသာသနာကတော့
ထေရဝါဒ ဗုဒ္ဓသာသနာ အစစ်ဖြစ်တယ်။ သံဃာ
ထေရဝါဒဂိုဏ်းဝင် သံဃာတွေသာ ဖြစ်တယ်။

ကြီးသောကြောင့် ယဉ်ကျေးမှု ပုံစံအတော ထေရဝါဒ ယဉ်ကျေးမှု မှာ သာ နှိုင်းခဲ့ပြီးတဲ့ တိဗက်တန္တရယာန ဟိန္ဒူ ဗြာဟ္မဏဝါဒ၊ ကမ္ဘာဦး နတ်ကိုးကွယ်မှုနဲ့ မြန်မာလူမျိုး ရိုးရာ ပြီး ဗုဒ္ဓဘာသာ ယဉ်ကျေးမှုတွေကို ရောမွှေထားတဲ့ ညွန့်ပေါင်း ယဉ်ကျေးမှုသာ ဖြစ်တယ်။

ဘာသာယဉ်ကျေးမှု တစ်ခုဟာ ဒေသ ကာလ အလိုက် ပြောင်းလဲသွားရတာ မူလ အခြေခံရှိနှင့်ပြီးတဲ့ ယဉ်ကျေးမှု အဟောင်းတွေနဲ့ ပူးပေါင်း ရောယှက်သွားရတာဟာ မ တသပါ။ အခြား ယဉ်ကျေးမှုဆိုင်ရာ တွေဟာ ဘယ်လိုရော ယှက်နေစေ ဘာသာရေး တရားဆိုင်ရာ ကျင့်ကြံမှုတွေက တော့ ထေရဝါဒ ပိဋကတ်တော်တွေပေါ်မှာ လုံးဝအခြေခံ ထားတဲ့အတွက် မြန်မာနိုင်ငံ ဗုဒ္ဓဘာသာဟာ ထေရဝါဒ ဗုဒ္ဓဘာသာ စစ်တယ်လို့ ဆိုနိုင်ပါတယ်။

မေး။ ဗုဒ္ဓဘုရားရှင် ဟောတော်မူခဲ့တဲ့ တရားအနှစ်ချုပ်က ဘာလဲ။

ဖြေ။ ဗုဒ္ဓဘုရားရှင်ရဲ့ တရားတော် အနှစ်ချုပ်ကတော့ တွေသစ္စာလို့ခေါ်တဲ့ အမှန်တရား လေးပါးပါပဲ။ သက်ရှိသက် ပြည့်ဖြစ်သမျှ အားလုံးဟာ အမြဲမရှိဘူး။ အစဉ်တစိုက် ပြောင်း လဲနေတဲ့ ပျက်စီးနေတဲ့ အနိစ္စတရားတွေသာ ဖြစ်တယ် မပြောင်းလဲ မပျက်စီးဘဲ တည်မြဲနေအောင်၊ ကိုယ့်အ အတိုင်း ဖြစ်အောင် လုပ်လို့မရတဲ့ အစိုးမရတဲ့ အနတ္တတရ တွေသာ ဖြစ်တယ်။ ခိုင်မြဲမှု အစိုးမရမှုကြောင့် ချစ် သူနဲ့ ကွေကွင်းရမှု၊ လိုချင်တာ မရမှုတွေ။ မချစ်တဲ့သူ ပေါင်းဖော်ရမှု၊ မလိုအပ်တဲ့ ဘေးဒုက္ခ အန္တရာယ်တွေနဲ့ အ ပြွတ် တွေကြုံမှု ဒုက္ခတွေ ဖြစ်တယ်။ ဒါကြောင့် ဘုရားရှင်

ဖြစ်ခြင်းသမျှ သင်္ခါရအားလုံးဟာ ဒုက္ခသစ္စာ ဆင်းရဲမှု အမှန်တရား တစ်ပါး ဖြစ်တယ်လို့ ဟောတယ်။

ဆင်းရဲမှုတွေဟာ လိုချင်တပ်မက် စွဲလမ်းမှုဆိုတဲ့ လောဘတရားကြောင့်သာ ဖြစ်တယ်။ ဆင်းရဲကြောင်း လောဘဟာ သမုဒယသစ္စာလို့ ခေါ်တဲ့ ဒုတိယ အမှန်တရားတစ်ခု ဖြစ်တယ်။

အဲဒီ လိုချင်တပ်မက်တဲ့ လောဘအကြောင်းတရား မရှိရင် ဆင်းရဲမှုဟာလဲ မရှိတော့ဘူး။ အဲဒီ ဆင်းရဲအားလုံး ချုပ်ငြိမ်းရာ နိဗ္ဗာန်ဆိုတဲ့ နိရောဓသစ္စာ တတိယ အမှန်တရားဟာလဲ အထင်အရှား ရှိတယ်။

ဒီဒုက္ခအားလုံး ချုပ်ငြိမ်းရာ နိဗ္ဗာန်ကို ရစေရောက်စေနိုင်တဲ့ ကျင့်စဉ် ရှစ်ပါး အမှန်တရား မဂ္ဂသစ္စာဟာလဲ ရှိတယ်။

ဆင်းရဲတာကို ရှုမုန်းရင် ဆင်းရဲမှုကို ဖြစ်စေတဲ့ လိုချင်မှု လောဘကို ပယ်ရမယ်။ လိုချင်မှု မရှိတော့ရင် ဆင်းရဲမှုမရှိတဲ့ အေးမြချမ်းသာတဲ့ နိဗ္ဗာန်ကို ရောက်နိုင်တယ်။ အဲဒီနိဗ္ဗာန် ရောက်အောင် ကျင့်ကြံနည်း မဂ္ဂင်တရား ရှစ်ပါးကိုလဲ ဘုရားရှင်က ပြသဟောကြားခဲ့တယ်။ ဘုရားရှင်ဟောခဲ့သမျှ ပိဋကသုံးပုံ နိကာယ် ငါးရပ်ကို အကျဉ်းချုပ်လိုက်တော့ ဒီအမှန်တရား ၄-ပါးပဲရှိတယ်။ ဒါကြောင့် စတုသစ္စဝိနိမုတ္တော ဓမ္မော နာမ နတ္ထိ၊ အမှန်တရားလေးပါးက လွတ်တဲ့တရားရယ်လို့ မရှိဘူးလို့ ဟောတယ်။

ဗုဒ္ဓဘာသာတွေ နေ့စဉ်လုပ်နေတဲ့ ဒါန၊ သီလ၊ ဘာဝနာ ဘာသာရေးကိစ္စ မှန်သမျှဟာ ဒီအမှန်တရားလေးပါးကို သိဖို့ပဲ ဖြစ်တယ်။

မေး။ ။ဘယ်လို ကျင့်ကြံနေထိုင်သူကို ဗုဒ္ဓဘာသာလို့ ခေါ်သလဲ။

ဖြေ။ ။ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးကို ယုံကြည်လေးမြတ် ကိုးကွယ်ဆည်းကပ်၍ ကံ ကံ၏ အကျိုးကို ယုံကြည်ပြီး ငါးပါးသီလ မြဲသူကို ဗုဒ္ဓဘာသာလို့ ခေါ်တယ်။

မေး။ ။ဗုဒ္ဓဘာသာဆိုတဲ့ ဝေါဟာရဟာ ပိဋကတ်တော် ဝေါဟာရ ဖြစ်ပါသလား။

ဖြေ။ ။ဗုဒ္ဓဘာသာဆိုတဲ့ ဝေါဟာရဟာ ပိဋကတ်မှာ မရှိပါဘူး။ မြန်မာတွေ တီထွင် မှည့်ခေါ်ထားတဲ့ အမည် ဖြစ်ပါတယ်။ ဗုဒ္ဓဘာသာဆိုတဲ့ ဝေါဟာရဟာ ပုဂံ၊ ပင်းယ၊ အင်းဝခေတ်တွင်းမှာ မရှိသေးပါဘူး။ ကုန်းဘောင်ခေတ် (၁၈) ရာစုခေတ်မှာမှ ထွက်ပေါ်လာတဲ့ ဝေါဟာရတစ်ခု ဖြစ်ပါတယ်။

မေး။ ။ရတနာသုံးပါး ကိုးကွယ်ဆည်းကပ်သူကို ပိဋကတ်ထဲမှာ ဘယ်လို ခေါ်ထားပါသလဲ။

ဖြေ။ ။ရတနာသုံးပါး ဆည်းကပ်သူကို သမ္မာဒိဋ္ဌိ အမြင်မှန်ရှိသူလို့လဲ ခေါ်တယ်၊ ဥပါသက=ရတနာသုံးပါး ဆည်းကပ် ကိုးကွယ်သူလို့လဲ ခေါ်တယ်။ ဥပါသကာဆိုတဲ့ အမည်ကို အများဆုံး သုံးကြတယ်။

မြန်မာလူမျိုးတွေက ဗုဒ္ဓဘာသာဝင်တိုင်းကို ဥပါသကာလို့ အနက်အတိုင်း မခေါ်ကြဘူး။ ဝတ်ဖြူစင်ကြယ်ဝတ်ပြီး ရတနာသုံးပါး ဝေယျာဝစ္စအတွက် ပိုက်ဆံနဲ့ ပစ္စည်း ဝတ္ထု လှူဒါန်းသည့် အလှူခံသူတွေကိုသာ ဥပါသကာလို့ ခေါ်တယ်။ ဥပါသကဆိုတဲ့ ပါဠိကို ဥပါသကာလို့ မြန်မာမှု ပြောင်းလဲ ခေါ်ထားခြင်း ဖြစ်တယ်။

မေး။ ။ဘုရား၊ တရား၊ သံဃာကို ဘာဖြစ်လို့ ရတနာမြတ်သုံးပါးလို့ ခေါ်သလဲ။

ဖြေ။ ။ရတနာဆိုတာ ပါဠိစကားလုံးဖြစ်တယ်၊ နှစ်သက် ကြည်နူးမှုကို ဖြစ်စေတဲ့အရာလို့ အဓိပ္ပာယ် ရတယ်။ ဒါကြောင့် လူတွေ အင်မတန် လိုချင်တပ်မက်တဲ့ ရွှေ၊ ငွေ၊ စိန်၊ ကျောက်တွေကို ရတနာလို့ ခေါ်တယ်၊ သားသမီးတွေကိုလဲ သားရတနာ သမီးရတနာလို့ ခေါ်တယ်။ ဘုရား၊ တရား၊ သံဃာ သုံးပါးဟာလဲ ကိုးကွယ် ဆည်းကပ်သူတွေကို နှစ်သိမ့်ကြည်နူးမှုကို ဖြစ်စေတဲ့အတွက် ရတနာသုံးပါးလို့ ခေါ်တယ်။

ရတနာ အားလုံးထဲမှာ ဘုရား၊ တရား၊ သံဃာ သုံးပါးဟာ အမြတ်ဆုံး အကောင်းဆုံးဖြစ်တဲ့အတွက် ရွှေ၊ ငွေ၊ စိန်၊ ကျောက်စတဲ့ သာမန်ရတနာတွေနဲ့မတူ ကွဲပြားအောင်ဆိုပြီး ရတနာမြတ်သုံးပါးလို့ ခေါ်ကြတယ်။

...o...

# (၂)

## ဘုရားရတနာ

မေး။ ။ဘုရားဆိုတာ ဘာလဲ။

ဖြေ။ ။လွန်ခဲ့တဲ့ နှစ်ပေါင်း ၂၅၀၀-ကျော်တုန်းက အိန္ဒိယနိုင်ငံ ကပိလဝတ် နေပြည်တော် ဘုရင် သုဒ္ဓေါဒန မိဖုရားကြီး မာယာတို့ရဲ့သား ၂၉-နှစ် အရွယ်မှာ ထီးနန်း ကို စွန့်ပြီး တောထွက်၊ ခြောက်နှစ်တိုင် လူသာမန်တို့ ကျင့်နိုင် ခဲသော အကျင့်ကို အားထုတ်ကျင့်ကြံခဲ့သဖြင့် သစ္စာ လေး ပါးကို ဆရာမပါဘဲ ကိုယ်ပိုင်ဉာဏ်ဖြင့် ထိုးထွင်း သိမြင်ခဲ့ ပုဂ္ဂိုလ်ထူးဟာ ဘုရားပဲ။

မေး။ ။ဘာဖြစ်လို့ ဘုရားလို့ ခေါ်ရသလဲ။

ဖြေ။ ။ပူဇော်အထူးကို ခံထိုက်လို့ ဘုရားလို့ ခေါ် တယ်။ ဘုရားဆိုတဲ့အမည်ဟာ ပူဇာနဲ့ အရဟဆိုတဲ့ ပါ စကားနှစ်လုံးကို ပေါင်းစပ်ပြီး ပုဂံခေတ် မြန်မာများ တီထွ ထားတဲ့ ပါဠိသက် ဝေါဟာရတစ်ခု ဖြစ်တယ်။ ပူ အရဟ က= ပူရဟာ= ပုရှာ= ဖုရှာ=ဖုရား= ဘုရား-ဆို အသံထွက် အဆင့်ဆင့်နဲ့ စာလုံးပေါင်း အမျိုးမျိုး ပြောင် လာတဲ့ နာမည်ဖြစ်တယ်။



မေး။ ။တချို့က ဘုရားရှင်ကို ဘာ့ကြောင့် ဗုဒ္ဓလို့ ခေါ်သလဲ။

ဖြေ။ ။ဘုရား ဆိုတာက မြန်မာတွေခေါ်တဲ့ အမည် ဖြစ်တယ်။ ဗုဒ္ဓဆိုတာ ပိဋကတ်တော်ထဲမှာပါတဲ့ အမည်ဖြစ် တယ်။ တရားအားလုံးကို ကိုယ်တိုင်လဲ သိပြီးသူ၊ အခြား လူနတ်ဗြဟ္မာတွေကိုလဲ သိအောင် ဟောနိုင်သူလို့ အဓိပ္ပာယ် ရတယ်။

ဗုဒ္ဓဆိုတဲ့အမည်ဟာ ကမ္ဘာသိတဲ့ သုံးတဲ့ နာမည် ဖြစ်တယ်၊ ဗုဒ္ဓဆိုတဲ့ ဝေါဟာရဟာ ဗုဒ္ဓဘာသာ ဘုရားတစ်ဆူတည်းက ိုတဲ့အမည်ဖြစ်တယ်။ ဘုရားဆိုတဲ့ မြန်မာဝေါဟာရကတော့ ဟိန္ဒူ၊ မဟာမေဒင်၊ ခရစ်ယာန်၊ ဗုဒ္ဓဘာသာ ဘုရား လေး မျိုးနဲ့ဆိုင်တဲ့ သာမညအမည် ဖြစ်တယ်။

ပိဋကတ်မှာ တိုက်ရိုက်လာတဲ့ အမည်လဲဖြစ်၊ အခြား ဘာ သာတွေနဲ့ မဆိုင်တဲ့ သီးခြားနာမည်လဲဖြစ်လို့ ဘုရားကို ဗုဒ္ဓ လို့ ခေါ်ကြခြင်း ဖြစ်တယ်။

မေး။ ။သက်တော်ထင်ရှား ရှိသူကိုမှ ဘုရား- ဗုဒ္ဓလို့ ခေါ်တယ်ဆိုရင် ဘုရားရှင် ပရိနိဗ္ဗာန် စံဝင်သွားပြီးဖြစ်တဲ့ အတွက် ဗုဒ္ဓဘာသာမှာ ဘုရား မရှိတော့ဘူး မဟုတ်ပါ လား။

ဖြေ။ ။ဘုရားရှင်ဟာ သင်္ခါရတွေရဲ့ မမြဲတဲ့ အနိစ္စ သဘော၊ အစိုးမရ မပိုင်ဆိုင်တဲ့ အနတ္တ သဘောအရ ပရိ နိဗ္ဗာန် စံဝင်သွားတာ မှန်ပါတယ်။ ဒါကြောင့် ဗုဒ္ဓဘာသာ မှာ သက်တော်ထင်ရှား ဘုရားမရှိတာ မှန်ပါတယ်။ ဘုရား သခင်ဟာ သက်တော်ထင်ရှားရှိစဉ် လေးဆယ့်ငါးနှစ်လုံးလုံး နေ့၊ ည၊ မအား ဟောကြား ကယ်တင်ရရှိနဲ့ အားရ တင်း

ထိမ်တော် မပူသေးတဲ့အတွက် ပရိနိဗ္ဗာန်စံပြီးတဲ့နောက် လူ, နတ်, ဗြဟ္မာတွေ ပူဇော်ကိုးကွယ်ဖို့ သူ့ရဲ့ကိုယ်စား (၁) ဓာတုစေတီ၊ (၂) ဓမ္မစေတီ၊ (၃) ဥဒ္ဒိဿစေတီ၊ (၄) ပရိဘောဂစေတီဆိုပြီး ပူဇော်စရာ (၄) မျိုး စေတီလေးမျိုးကို ထားခဲ့ပါတယ်။ ဒီစေတီလေးမျိုးစလုံးပဲ ဖြစ်ဖြစ်၊ (၄)မျိုးထဲက တစ်မျိုးပဲဖြစ်ဖြစ် ရှိနေသေးရင် သက်တော်ထင်ရှား ဘုရားရှိတယ်လို့ ဆိုနိုင်ပါတယ်။ ထေရဝါဒ ဗုဒ္ဓဘာသာ နိုင်ငံတွေမှာ ဒီ စေတီ (၄)မျိုး အထင်အရှား ရှိနေတဲ့အတွက် ဘုရားပရိနိဗ္ဗာန်စံဝင်သွားပေမယ့် ဘုရားမရှိဘူးလို့ မပြောနိုင်ပါဘူး။ ဒီစေတီအမျိုးမျိုး ရှိနေသရွေ့ သက်တော်ထင်ရှား ဘုရားရှိနေတယ်လို့ပဲ ဆိုရပါမယ်။

မေး။ ။စေတီဆိုတာ ဘာလဲ။

ဖြေ။ ။စေတီဆိုတဲ့ ဝေါဟာရက စေတိယဆိုတဲ့ ပါဠိစကားလုံးကို မြန်မာမှုပြုထားတဲ့ ပါဠိသက်ဝေါဟာရ ဖြစ်တယ်။ မူရင်းပါဠိ စေတိယရဲ့ အဓိပ္ပာယ်ကတော့ ပူဇော်စရာ ပစ္စည်း၊ ပူဇော်ပသရာ နေရာလို့ အဓိပ္ပာယ်ရတယ်။ ဘုရားရှင် လက်ထက်တော်မှာ ဘယ်စေတီမှာ ဘာတရား ဟောတယ် ဆိုတာဟာ အဲဒီခေတ်က လူတွေ ပူဇော်ပသနေကြတဲ့ နတ်ကွန်းတွေကို စေတီလို့ ခေါ်ထားတာ ဖြစ်တယ်။ အဲဒီ အချိန်အခါမှာ ဘုရားရှင်ရဲ့ ကိုယ်စား အုတ်ကျောက် သဲတွေနဲ့ တည်ထား ကိုးကွယ်တဲ့ စေတီ ဆိုတာ မရှိသေးဘူး။ ဗုဒ္ဓသက်တော်ထင်ရှား ရှိတော်မူစဉ်မှာ ရံဖန်ရံခါ မိမိ ရှေ့တော်မှောက်တွင် ပရိနိဗ္ဗာန် ပြုတော်မူတဲ့ သာဝကတွေရဲ့ ဓာတ်တော်တွေကို စေတီ တည်ထားစေတော်မူတယ်။ ဘုရားရှင် ပရိနိဗ္ဗာန်စံပြီးတဲ့ အခါမှာတော့-



ဘုရားရှင်ရဲ့ စေတီ (၄)မျိုးနဲ့ ရှေးခေတ် ကိုးကွယ်ခံပစ္စည်း၊ နတ်၊ ဗြဟ္မာတွေနဲ့ နတ်ကွန်းတွေကို စေတီလို့ ခေါ်ခဲ့ကြတယ်။

ဒါပေမယ့် ဝေါဟာရ တစ်ခုဟာ ကာလ ဒေသ အခြေအနေအလိုက် အဓိပ္ပာယ် ပြောင်းလဲတတ်တဲ့ သဘောအရ မြန်မာလူမျိုးတွေဟာ အုတ်၊ ကျောက်၊ သဲ၊ အင်္ဂတေတွေနဲ့ အထက်ကို ချွန်ချွန်တည်ထားတဲ့ အဆောက်အအုံ စေတီတွေကိုမှ စေတီလို့ ခေါ်တယ်။ ကျန်စေတီ (၃)မျိုးကို စေတီလို့ မခေါ်ကြတော့ဘူး။ မြန်မာပြည်မှာတော့ နတ်ကွန်း၊ မျှာရုံတွေကိုလဲ စေတီလို့ မခေါ်ကြတော့ပါဘူး။

မေး။ ။စေတီနဲ့ ဘုရားဟာ အတူတူပဲလား၊ မတူဘူးလား။

ဖြေ။ ။မြန်မာ ဗုဒ္ဓဘာသာတွေ အနေနဲ့တော့ စေတီနဲ့ ဘုရားဟာ မတူပါဘူး။ ရွှေမောဓော၊ ရွှေတိဂုံ၊ ဆူးလေ၊ ဗိုလ်တထောင် စတဲ့ စေတီတွေကို စေတီလို့လဲ ခေါ်တယ်၊ ဘုရားလို့လဲခေါ်တယ်။ ဒါပေမယ့် မဟာမြတ်မုနိ၊ ခြောက်ထပ်ကြီး၊ ငါးထပ်ကြီး စတဲ့ ရုပ်ပွား ဆင်းတုတော်တွေကိုတော့ ဘုရားလို့သာ ခေါ်တယ်၊ စေတီလို့ မခေါ်ကြဘူး။ ဒါကြောင့် ရွှေတိဂုံဘုရား၊ ရွှေတိဂုံစေတီလို့ နှစ်မျိုးသုံးပေမယ့် မဟာမြတ်မုနိဘုရားလို့သာသုံးပြီး မဟာမြတ်မုနိစေတီလို့တော့ မသုံးကြဘူး။ အမှန်မှာတော့ ရုပ်ပွားဆင်းတုတော်တွေဟာ ဥဒ္ဒိဿစေတီခေါ် စေတီတစ်မျိုး ဖြစ်ပါတယ်။ မူလကျမ်းဂန်အလို အတူတူပဲ။ မြန်မာလူမျိုးတွေ အခေါ်မှာတော့ မတူပါဘူး။

မေး။ ။စေတီ (၄) မျိုး ထဲမှာ ဓာတုစေတီ ဆိုတာ ဘာလဲ။

ဖြေ။ ။မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူလို့ မီးသင်္ဂြိုဟ်တဲ့အခါ ကြွင်းကျန်ရစ်တဲ့ ဓာတ်တော်တွေကို ဓာတုစေတီလို့ ခေါ်တယ်။ ဘုရားရှင်ရဲ့ အရိုးတော်မှ ဖြစ်လာတဲ့ အတွက် သာရီရိက စေတီလို့ ခေါ်တယ်။ မြန်မာတွေကတော့ စေတီ ဆိုတဲ့ ဝေါဟာရ မပါဘဲ ဓာတ်တော်လို့ ခေါ်ကြတယ်။ အနာဂတ် လူသားတွေ ကိုးကွယ်ဆည်းကပ်ဖို့ ဘုရားရှင်ရဲ့ အမွေပစ္စည်းအဖြစ် ထားခဲ့တာဖြစ်လို့ မွေတော်လို့လဲ ခေါ်ကြတယ်။ ဓာတ်တော်တွေကို စေတီပုထိုးထဲမှာ ဌာပနာပြီး ပူဇော်ကြတဲ့အတွက် စေတီကို ပူဇော်မှုဟာ ဓာတ်တော်ကို ပူဇော်ရာရောက်တယ်။ ဓာတ်တော်ကို သီးသန့် ပူဇော်မှုကတော့ အတော်နည်းတယ်။

မေး။ ။ဓမ္မစေတီဆိုတာ ဘာလဲ။

ဖြေ။ ။မြတ်စွာဘုရား လေးဆယ့်ငါးဝါအတွင်း ဟောထားခဲ့တဲ့ နိကာယ်ငါးရပ် ပိဋကတ်သုံးပုံကို ဓမ္မစေတီလို့ ခေါ်တယ်။ ပဋိစ္စသမုပ္ပါဒ် ပဋ္ဌာန်း စသည်ကို ရွှေ ငွေ ပရပိုက်မှာ ရေးပြီး ဌာပနာတဲ့ စေတီကိုလဲ ဓမ္မစေတီလို့ ခေါ်တယ်။

မြန်မာနိုင်ငံမှာ ရှေးက ပိဋကတ်တော်တွေကို သီးသန့် ပူဇော်ကန်တော့တာ မရှိဘူး။ ပိဋကတ် ပေစာထုပ်တွေ၊ စာအုပ်တွေ ဝယ်လှူတာကိုပဲ ဓမ္မစေတီ ပူဇော်တယ်လို့ ခေါ်ကြတယ်။ ယခု မျက်မှောက်ခေတ်မှာ ဓမ္မစေတီ-ဓမ္မရတနာကို လက်တွေ့ကျကျ ပူဇော်လိုသူသည် ပရိယတ္တိ ဗဟုသုတနှင့် ပြည့်စုံသူကို ပူဇော်ရမည်ဟု ဗုဒ္ဓကိုယ်တော်တိုင် ဟောတော်



မူချက်အရ ပိဋက သုံးပုံဆောင် ပုဂ္ဂိုလ်တွေကို တစ်ဦးချင်း အနေနဲ့ လည်းကောင်း၊ အသင်းအဖွဲ့ အနေနဲ့ လည်းကောင်း ပူဇော်ကန်တော့နေကြပြီ။ ၎င်းပူဇော်ကန်တော့မှုကို ဓမ္မစေတီ ပူဇော်တယ်လို့ ခေါ်ကြရမယ်။

မေး။ ။ဥဒ္ဒိဿစေတီဆိုတာ ဘာလဲ။

ဖြေ။ ။ဥဒ္ဒိဿစေတီဆိုတဲ့ ပါဠိစကားက ရည်ညွှန်းမှန်းထားခြင်းလို့ အဓိပ္ပာယ်ရတယ်။ လွန်ခဲ့တဲ့ နှစ်ပေါင်း ၂၅၀၀-ကျော်တုန်းက သက်တော်ထင်ရှား မြတ်စွာဘုရား ရှိတာကို စိတ်က မှန်းဆပြီး ရှိခိုးပူဇော်ခြင်း ဖြစ်တယ်။ စိတ်အာရုံထဲမှာ မှန်းဆလို့ ပေါ်လာတဲ့ ဘုရားရှင်အာရုံကို ဥဒ္ဒိဿစေတီလို့ ခေါ်တယ်။ ဘုရားပုံတော်၊ ပန်းချီကား၊ ဘုရားကားတွေနဲ့ ရုပ်ပွားဆင်းတုတော်ပုံတွေဟာလဲ ဥဒ္ဒိဿစေတီတွေ ဖြစ်ပါတယ်။ ဓာတ်တော် မွေတော်တွေ မဌာပနာဘဲ တည်ထားတဲ့ သိမ်ပုံစေတီ၊ အုတ်စေတီ စသည်တွေဟာလဲ ဘုရားရှင်ကို ရည်မှန်း ပြုလုပ်ထားတာဖြစ်လို့ ဥဒ္ဒိဿစေတီတွေ ဖြစ်ပါတယ်။

မေး။ ။ပရိဘောဂစေတီဆိုတာ ဘာလဲ။

ဖြေ။ ။မြတ်စွာဘုရားသခင် အသုံးပြုခဲ့တဲ့ သင်္ကန်း သပိတ် ပရိက္ခရာတွေနဲ့ မဟာဗောဓိပင်ကို ပရိဘောဂစေတီလို့ ခေါ်တယ်။ မြန်မာနိုင်ငံမှာ ပရိဘောဂစေတီ အကြိုက် ကိုးကွယ်ဖို့ ဂေါတမမြတ်စွာဘုရားရဲ့ အသုံးအဆောင်ပစ္စည်း တစ်ခုမှ ရှိတယ်လို့ မကြားမိဘူး။ ရွှေတိဂုံဘုရားထဲမှာ ကကုသန်ကိုနဲ့ ကဿပ ဘုရားနှစ်ဆူရဲ့ တောင်ဝှေးနဲ့ ရေစစ် ဌာပနာထားတယ်လို့ ရွှေတိဂုံသမိုင်းမှာ အဆိုရှိတယ်။ ပရိဘောဂစေတီအဖြစ်နဲ့ ဗောဓိပင်ကိုပဲ ပူဇော်ကြတယ်။ ဒီဗောဓိပင်

ပူဇော်မှုဟာလဲ အမြဲတစေ တစ်နှစ်ပတ်လုံး မဟုတ်ဘဲ ကဆုန်လပြည့် ညောင်ရေသွန်းပွဲနေ့ တစ်နေ့အတွက်သာ ရေလဲသွန်းကြ၊ ပူဇော်ကန်တော့မှုလဲ ပြုကြတယ်။ သီဟိုဠ်နိုင်ငံမှာတော့ ဗုဒ္ဓဘာသာ ကျောင်းတိုက်ကြီးတစ်ခု တည်တော့မယ်ဆိုရင် စေတီတစ်ဆူနဲ့ ဗောဓိပင် တစ်ပင်ပါ စိုက်ထားရှိတယ်။ ဗောဓိပင်ကိုလဲ အလေးထား ပူဇော်ကြတယ်။ ရှင်မဟိန္ဒလက်ထက် ဇမ္ဗူဒီပမှ မဟာဗောဓိပင် တောင်ကိုင်းကို ဘယ်လိုပင့်တယ်၊ ဘယ်လိုကြိုဆိုတယ်၊ ဘယ်လိုပူဇော်တယ်ဆိုတာ ဖော်ပြတဲ့ ဗောဓိဝံသခေါ် ဗောဓိပင်ကျမ်းတစ်ကျမ်းပင် ပြုစုရေးသားကြတယ်။

မေး။ ။မဟာဗောဓိပင်ကို ပရိဘောဂ စေတီအဖြစ် ကိုးကွယ်မှုဟာ ဘယ်တုန်းက စခဲ့သလဲ။

ဖြေ။ ။မဟာဗောဓိပင် ပူဇော်မှုဟာ ဘုရားရှင် သက်တော်ထင်ရှား ရှိစဉ်ကတဲက စခဲ့တယ်။ ဘုရားရှင်ဟာ ဝေနေယျ သတ္တဝါတွေကို တရားဟောဖို့အတွက် အခြားတိုင်းပြည်ရွာတွေကို ဒေသစာရီ ကြွတော်မူတယ်။ ဘုရားရှင် ခရီးထွက်မှန်းမသိတဲ့ ဒါယကာဒါယိကာမတွေက ဘုရားရှင်ဖူးဖို့ ပန်းနံ့သာတွေ ပူဇော်ဖို့ ဇေတဝန် ကျောင်းတော်ကို လာတဲ့အခါ ဘုရားရှင်ကို မတွေ့ရလို့ စိတ်နှလုံး မသာမယာ ဖြစ်ခဲ့ကြတယ်။ ဒီအကြောင်းကို ညီတော်အာနန္ဒာက ဘုရားရှင်ကို လျှောက်ထားတယ်။ ညီတော် အာနန္ဒာက ပူဇော်ထိုက်တဲ့စေတီ ဘယ်နှစ်မျိုးရှိသလဲလို့ ဘုရားရှင်ကို လျှောက်ထားတယ်။ ဘုရားရှင်က ဓာတုစေတီ၊ ဥဒ္ဒိဿစေတီ၊ ပရိဘောဂစေတီ ဆိုပြီး သုံးပါးရှိတယ်လို့ မိန့်ကြားတယ်။ ဓာတုစေတီခေါ် ဓာတ်တော်တွေက ဘုရားပရိနိဗ္ဗာန်စံပြီးမှ



သာ ပူဇော်လို့ရတယ်။ ဥဒ္ဒိဿနဲ့ ပရိဘောဂစေတီတွေကတော့ သက်တော်ထင်ရှား ရှိတုန်းမှာလဲ ပူဇော်လို့ရတယ်။ မဟာဗောဓိပင်ဟာ ဘုရားရှင်ပွင့်တော်မူရာ ဘုရားရှင်၏ အသုံးအဆောင်ဖြစ်လို့ ပရိဘောဂစေတီဖြစ်တယ်လို့ ဟောကြားတယ်။

ဒီအခါမှာ ညီတော်အာနန္ဒာက ဘုရားရှင် ထွက်ကြွနေတဲ့အခါ ဘုရားရှင်ကိုယ်စား ပူဇော်ကြဖို့ မဟာဗောဓိပင်က အစေ့ကိုယူပြီး ဇေတဝန်ကျောင်းအနီးမှာ စိုက်ပျိုးပါတယ်။ ဒါ့ပြင် ဗောဓိပင်ကို ညီတော်အာနန္ဒာစိုက်ထဲ့အတွက် 'အာနန္ဒာဗောဓိပင်' လို့ ခေါ်ပါတယ်။ ဘုရားရှင် ဇေတဝန်ကျောင်းတော်မှာ မရှိတဲ့အခါ ဘုရားကိုယ်စား၊ အဲဒီ အာနန္ဒာဗောဓိပင်ကိုပဲ ပန်းနံ့သာတွေနဲ့ ပူဇော်ရှိခိုးကြပါတယ်။ အဲဒီအချိန်ကစပြီး ယနေ့တိုင် ဗောဓိပင်ကို ပရိဘောဂစေတီအဖြစ်နဲ့ ဗုဒ္ဓဘာသာ နိုင်ငံတွေမှာ ပူဇော်ကြတာပါပဲ။

မြန်မာနိုင်ငံမှာ ဗောဓိပင်ပူဇော်မှုဟာ နည်းပါတယ်။ ကဆုန်လပြည့် ညောင်ရေသွန်းပွဲတော်နေ့ တစ်ခုလောက်ပဲ ညောင်ရေသွန်းလောင်း ပူဇော်ကြပါတယ်။ ဗောဓိပင်ဟာ ညောင်ပင်တစ်မျိုးဖြစ်တယ် ဆိုတာကိုတောင်မှ ဗုဒ္ဓဘာသာ မြန်မာလူမျိုးတိုင်း မသိကြပါဘူး။

မေး။ ။ဗောဓိပင်ဆိုတာ သစ်ပင်တစ်မျိုးပါလား။

ဖြေ။ ။ဗောဓိပင်ဆိုတာ သစ်ပင်တစ်မျိုးရဲ့ နာမည် မဟုတ်ပါဘူး။ ဘုရားရှင်တွေ သစ္စာလေးပါးကို သိရာအပင်ဖြစ်လို့ ဗောဓိပင်လို့ ခေါ်တာပါပဲ။ ဂေါတမဘုရားရှင်ကတော့ ညောင်ဗုဒ္ဓဟေပင်ရင်းမှာ ထိုင်ပြီး တရားထူး ရတော်မူလို့ ညောင်ဗုဒ္ဓဟေပင်ကို ဗောဓိပင်လို့ ခေါ်တာဖြစ်တယ်။

ပုန်းညက်ပင်၊ ရေသဖန်းပင်၊ ကန့်ကော်ပင်၊ ပိတောက်ပင် စသည်ဖြင့် ဘုရားတစ်ဆူဆူ၏ ဗောဓိပင်တွေဟာ ဘုရားရှင် အလိုက် ပြောင်းလဲသွားပါတယ်။

မေး။ ။ဓမ္မပဒမှာ ဥယျာဉ်ခြံ၊ သစ်ပင်ကြီး၊ နတ်ကွန်း၊ တောင်၊ တောတွေကို ကိုးကွယ်လျှင် ကိုးကွယ်ရာ မရောက်ပုံ ပြပြီး ယခု ဗောဓိပင်ကို ဘာကြောင့် စေတီအဖြစ် ပြပါ သလဲ။

ဖြေ။ ။ဓမ္မပဒမှာ အဂ္ဂိဒတ္တရသေ့က ဥယျာဉ်ခြံ၊ သစ်ပင်၊ နတ်ကွန်း၊ တော၊ တောင်တွေကို ကိုးကွယ် ဆည်းကပ်ကြလို့ ဟောတဲ့အတွက် လူတွေက ရှိခိုးပူဇော်ကြတယ်။

ဘုရားရှင်က ဒါတွေ ကိုးကွယ်လို့ ဘေးရန် မပျောက် ဘူးလို့ ဟောတယ်။ ရတနာသုံးပါးကို ကိုးကွယ်မှ ဘေးရန် ပျောက်တယ်လို့ ဟောတယ်။ သစ်ပင်ကြီးတွေကို ရှိခိုးတာက သစ်ပင်စောင့်နတ် ရုက္ခစိုးနတ်ကို ရှိခိုးတာ ဖြစ်တယ်။ ဗောဓိပင် ရှိခိုးတာက ဒီဗောဓိပင်မှာ ပွင့်သွားတဲ့ ဘုရားရှင်ကို ရှိခိုးတာ ဖြစ်တယ်။ ဗောဓိပင်ဟာ ဘုရားရှင်ကို သတိရစေကြောင်း အထောက်အပံ့သာ ဖြစ်တယ်။ ဒါကြောင့် ဗောဓိပင်ကို ပူဇော်ရာ ပရိဘောဂစေတီလို့ ဟောတာဖြစ်တယ်။

မေး။ ။ရုပ်ပွားဆင်းတု ပူဇော်မှုဟာ ဘယ်တုန်းက စခဲ့ ပါသလဲ။

ဖြေ။ ။မြတ်စွာဘုရား ပရိနိဗ္ဗာန်မပြုမီက ဘုရားမရှိတဲ့ အခါ ဘုရားရှင်ကိုယ်စား မဟာဗောဓိပင်ကို ပူဇော်ခဲ့တယ်။ ပရိနိဗ္ဗာန် ပြုပြီးတဲ့နောက် ဓာတ်တော်တွေကို ဌာပနာတဲ့ ဓာတုစေတီကို ကိုးကွယ်ခဲ့တယ်။ ဥဒ္ဒိဿစေတီ အဖြစ်တော့ စိတ်က ရည်မှန်း ရှိခိုးပူဇော်နေကြတယ်။ ဘုရားရှင် ဟာ



...ဏာတော်ကြီး ၃၂၊ လက္ခဏာတော်ငယ် ၈၀ တို့ဖြင့် ...ပွာယ်တော် မူတဲ့အတွက် ဘုရားရှင်ကို ကိုယ်စားပြုနိုင်တဲ့ ...တော်ကို ဘယ်ပန်းချီဆရာမှလဲ ပုံတူရေးဆွဲနိုင်မှာမဟုတ်ဘူး။ ...ယ်ပန်းပု ကျောက်ဆစ်မှလဲ ပုံတူထုနိုင်မှာ မဟုတ်ဘူးလို့ ...ကြသတဲ့အတွက် ဘုရားရှင်ရဲ့ ရုပ်ပွားတော် ဆင်းတုတော်ကို ...လုပ်ကိုးကွယ်မှု မပြုခဲ့ကြဘူး။

၄-ရာစု ဘီစီမှာ ဂရိတ်လူမျိုး စစ်ဘုရင် အလက်ဇန္ဒာမင်း ကြီးနဲ့ ဂရိတ်တပ်မတော်ကြီးက အိန္ဒိယပြည်အနောက်မြောက် ပိုင်းကို သိမ်းပိုက်လိုက်တဲ့အခါ ဂရိတ်တွေ ဗုဒ္ဓဘာသာ ဖြစ် လာတယ်။ ဂရိတ်တွေဟာ သူတို့ကိုးကွယ်တဲ့ နတ်ဘုရားတွေကို ရုပ်တုပြုလုပ် ကိုးကွယ်ကြသလို ဗုဒ္ဓရုပ်ပွား ဆင်းတုတော်ကို ပြုလုပ်ကိုးကွယ်[ကြ]တယ်။ ရှာဖွေတွေ့ရှိရတဲ့ သမိုင်း အထောက် အထားအရ ဗုဒ္ဓရုပ်ပွားတော် ဆင်းတု ကိုးကွယ်မှုဟာ (၁) ရာစု အေဒီမှာ စခဲ့တယ်လို့ အကြမ်းဖျင်း မှတ်သား နိုင်တယ်။

မေး။ ။ရုပ်ပွားဆင်းတုကို မကိုးကွယ်ခင်မှာ ဘာတွေကို ...စေတီအဖြစ်နဲ့ ရှိခိုး ပူဇော်ကြပါသလဲ။

ဖြေ။ ။ရုပ်ပွားဆင်းတုတော် မကိုးကွယ်ခင်မှာ—

(၁) ဘာအထိမ်းအမှတ် ပုံစံမှမရှိဘဲ ယခုခေတ် နတ် ကိုးကွယ်မှုမှာလို ရည်စူးမှု သက်သက် ကိုးကွယ် တာလဲ ရှိတယ်။

(၂) ပလ္လင်တော်ပုံကို ဘုရားကိုယ်စား ပူဇော်တာလဲ ရှိတယ်။

(၃) လှည်းဘီးပုံ ဓမ္မစကြာကို ဘုရားရှင်ကိုယ်စားပူဇော် တာလဲရှိတယ်။ ဘီစီ သုံးရာစု အသောကမင်းကြီး ခေတ်မှာ စကြာပုံကို ဘုရားရှင်အမှတ် ကိုးကွ နေတာ တွေ့ရတယ်။

မေး။ ။ဘုရား သက်တော်ထင်ရှားရှိစဉ်က ကောသလ မင်းကြီးက ဗုဒ္ဓရုပ်ပွားတော် ရွှေဆင်းတု ပြုလုပ်ကိုးကွ တယ်ဆိုတာ မှန်ပါသလား။

ဖြေ။ ။ဘုရား သက်တော်ထင်ရှား ရှိစဉ်က ဗုဒ္ဓရုပ် ရွှေဆင်းတု တစ်ဆူကို ကောသလမင်း၊ ပြုလုပ် ကိုးကွ ကြောင်း ပါဠိတော် အဋ္ဌကထာဋီကာမှာ မပြ။ ဇင်းမ ပဏ္ဏာသ၊ (သို့မဟုတ်) ယွန်းပဏ္ဏာသလို့ ခေါ်သော ကျ စတုတ္ထဝဂ်၊ သတ္တမမြောက် ဝဠဂုံလီဇာတ်မှာ ဖော်ပြ အကြောင်းအရာ ဖြစ်တယ်။ သာသနာ့အာယု ကျမ်းမှာ အလားတူ ဖော်ပြတယ်။ ဒါပေမယ့် ဒီကျမ်းတွေဟာ သံဂါ ယနာဝင် ကျမ်းတွေမဟုတ်လို့ ထေရဝါဒ ဗုဒ္ဓဘာသာ တို့က အခိုင်အမာ ကျမ်းအဖြစ် အသိအမှတ် မပြုကြဘူ ဒါကြောင့် ဘုရားလက်ထက်မှာ ရုပ်တု မရှိသေးဘူးလို့ မှတ်ရမယ်။

မေး။ ။ဘုရားသက်တော်ထင်ရှားရှိစဉ် ရုပ်ပွားဆင်း တော်ရှိကြောင်း အခြား ဘယ်ကျမ်းတွေမှာ ပြပါသလဲ။

ဖြေ။ ။အရှင်အနုရုဒ္ဓါစတဲ့ ရဟန္တာ ၆-ပါးဟာ ဘုရ ရှင်ထံမှ ဆံတော်ခြောက်ဆူကိုတောင်းပြီး သမုဒ္ဒရာအနီး ယ်တစ်ခုမှာ စေတီတည်ထားတယ်။ သိကြားမင်းက ဒါ စ်တယ်။ ဘုရားရှင် ရုပ်ပွားတော် ရွှေဆင်းတုကို ဖန်ဆင်းပြ ဌာပနာတယ်လို့ ကေသဓာတုဝင်ကျမ်းမှာ ပြတယ်။



လောကပညတ္တိ၊ ဆဂတိဒီပနီကျမ်းတွေမှာလဲ ဟရိနီ နတ် ရားနဲ့ မဟောသဓမည်သော ပရမေသွရ ဘုမ္မစိုးနတ်မင်းက မေနွာ ဂန္ဓာကိုရီတောင်မှာ ဘုရားရှင်ရဲ့ ရုပ်ပွားတော်ကို ရားရှိစဉ်ကပင် ဖန်ဆင်းကိုးကွယ်ကြောင်းကို ပြဆိုပါတယ်။ ကျမ်းတွေဟာလဲ သံဂါယနာဝင် ကျမ်းတွေ မဟုတ်ကြပါ ။ ဒါကြောင့် ဘုရားသက်တော်ထင်ရှား ရှိစဉ်မှာ ရုပ်တု ကိုးကွယ်မှု မရှိဘူးလို့ဘဲ မှတ်ရပါမယ်။

မေး။ ။ဘုရားရှင်ကိုယ်စား စေတီ (၄) မျိုး ထဲမှာ ယ်စေတီကို အပူဇော် အများဆုံးလဲ။ ဘာကြောင့်ပါလဲ။

ဖြေ။ ။ဘုရားရှင်ကိုယ်စား စေတီ (၄)မျိုးထဲမှာ ဥဒ္ဒိဿ စေတီဖြစ်တဲ့ ရုပ်ပွားတော် ဆင်းတုတော်နဲ့ ဘုရားကားဟာ အပူဇော် အများဆုံး ဖြစ်ပါတယ်။ များရတဲ့ အကြောင်း ကတော့—

(၁) ဓာတုစေတီနဲ့ ပရိဘောဂစေတီတွေကို လူတိုင်းစေ့ ရဖို့မလွယ်ပေမယ့် ရုပ်ပွားဆင်းတုတော် တွေကို လူတိုင်း အလွယ်တကူ ရနိုင်လို့ရယ်။

(၂) ဓာတုစေတီ ဌာပနာထားတဲ့ အုတ်စေတီနဲ့ မဟာ ဗောဓိပင်ကို ကြည့်ရှုဖူးမြော်ပြီး သက်တော် ထင် ရှား ဘုရားရှင်ကို မျက်စိထဲမြင်အောင် မျှော်မှန်း ရတာထက် ရုပ်ပွားဆင်းတုတော်ကို ဖူးမြော်ပြီး သက်တော်ထင်ရှား ဘုရားရှင်ကို စိတ်မှာမြင်အောင် ရည်မှန်းရတာက ပိုပြီး လွယ်ကူလို့ရယ်။

ဒီ အကြောင်း နှစ်မျိုးကြောင့် ဥဒ္ဒိဿစေတီဖြစ်တဲ့ ရုပ် ပွား ဆင်းတုတော်ကို အများဆုံး ကိုးကွယ်ဆည်းကပ်ကြခြင်း ဖြစ်တယ်။

မေး။ ။သက်တော်ထင်ရှား ဘုရားရှင်ရဲ့ နားရွက်တော်ဟာ အခု ကိုးကွယ်နေကြတဲ့ ရုပ်ပွားဆင်းတု ပုံတော်မှာလို ပခုံးတော်နဲ့ထိတဲ့အထိ ရှည်ပါသလား။

ဖြေ။ ။ဘုရားရှင်ရဲ့ နားရွက်တော်ဟာ ပခုံးတော်မှာ ထိနေတယ်လို့ ပိဋကတ်တော်မှာ မဖော်ပြပါဘူး။ ဘုရားရှင်ရဲ့ ပုံတော်ကို ဖော်ပြတဲ့ လက္ခဏာတော်ငယ် (၈၀)ကို ဖော်ပြတဲ့ အခါမှာလဲ ရှည်သော နား၊ နှစ်လိုဖွယ်သော နားတော် ရှိတော်မူ၏။ (အာယတရုစိကဏ္ဏတာ....)လို့သာ ပြပါတယ်။ ဒါကြောင့် ဘုရားရှင်ရဲ့ နားရွက်တော်ဟာ ပခုံးကို မထိဘူးလို့ဘဲ ယူဆကြတယ်။

အစောဆုံး ဗုဒ္ဓရုပ်ပွားတော်ကို ထုလုပ်ကြတဲ့ ပန်းပု ပညာတွေက အရုပ်မျိုး ထုလုပ်ခဲ့ရာက အစဉ်အလာ ဖြစ်ခဲ့တယ်လို့ ယူဆကြပါတယ်။ သမန္တစက္ခုဒီပနီကျမ်း စာမျက်နှာ ၂၆၂ မှာ အာယတကဏ္ဏတာ- ရှည်လျားသော နားရွက်တော် ရှိသောအဖြစ် (ဤသို့ လာသော အာယတကဏ္ဏ လက္ခဏာတော်ကို ရည်၍ ပညာရှိ အဆက်ဆက်တို့သည် ရုပ်ပွားဆင်းတုတော် ထုလုပ်ရာ၌ နားရွက်တော်ကို အထွား နှင့် ဖွဲ့၍ အရှည် အလျား ထုလုပ်လေသည်။ ရှေးစာတမ်း ဟောင်းတို့၌ကား နားရွက်တော်ကို ပခုံးတော်သို့ မထိစေနှင့် အမှာရှိသည်။ ယခု ငါတို့လက်ထက်၌မူကား နားရွက်တော်ကို ပခုံးတော်သို့ ထိစေလျက် ထုလုပ်ကြသည်)လို့ မှာထားတယ်။

အရှင် ဇနကာဘိဝံသ ဆရာတော် ရေးတဲ့ ရတနာဂုဏ်ရည်ကျမ်း စာမျက်နှာ ၃၉၆ မှ (အရှည်ဟု ဆိုသော်လည်း ယခုကာလ အချို့ ဆင်းတုတော်များ၌ ထုထားသကဲ့သို့



ပခုံးတော်ထောက်အောင် ရှည်လျားသည် မဟုတ်ပါ။ ကျိုး၍ မသွားအောင် ရုပ်တုတော် ပြုလုပ်သည့် ဆရာတို့က ထောက်ထားဟန် တူပါသည်)လို့ မှာထားတယ်။

မေး။ ။ဘုရားရှင်ဟာ ဘုရားဖြစ်ပြီး နောက်ပိုင်းမှာ မကိုဋ်သရဖူ စလွယ်တွေကို ဝတ်ဆင်ပါသေးသလား။ ဝတ်ဆင်ထားတဲ့ ဆင်းတုတော်ပုံတွေ ဘာကြောင့် ရှိနေပါသလဲ။

ဖြေ။ ။ဘုရားရှင်ဟာ ဘုရားဖြစ်ပြီးတဲ့ နောက်ပိုင်းမှာ မကိုဋ်သရဖူ၊ စလွယ်တွေကို ဝတ်ဆင်တယ်လို့ ပိဋကတ်မှာ မတွေ့ရပါဘူး။ ဝတ်ဆင်ဖို့ အကြောင်းလဲ မရှိပါဘူး။ ဒါပေမယ့် ငါ့ဘုရားသည် မင်းပရိသတ် အမျိုးမျိုးထံ ချဉ်းကပ်တယ်။ ထိုသို့ ချဉ်းကပ်စဉ် ထိုမင်းတို့၏ အဆင်း အသွင်ကဲ့သို့ပင် ငါ့ဘုရား၏ အဆင်းအသွင်ရှိတယ် ဟူသော စကားတော်အရ အခုအခါ အချို့ ရုပ်ပွား ဆင်းတုတော်တွေမှာ မကိုဋ်၊ သရဖူ၊ စလွယ်တွေနဲ့ တွေ့ရတာကတော့ ဘုရားရှင်ကို ကြည်ညိုတဲ့အတွက် ပိုပြီးသပ္ပာယ်အောင် စိန်၊ ကျောက်၊ ပတ္တမြားတွေ စီထားတဲ့ မကိုဋ်၊ သရဖူ၊ စလွယ်တွေနဲ့ ဆင်မြန်းထားပုံရပါတယ်။

မေး။ ။မာန်မာနကြီးတဲ့ ဇမ္ဗုပတိမင်းကို ချွတ်ဖို့အတွက် ဘုရားရှင်ဟာ ဒီပုံတော်ကို တန်ဆိုးနဲ့ ဖန်းဆင်းတယ် ဆိုတာ အမှန်ပဲလား။

ဖြေ။ ။တထာဂတဥဒါနဒီပနီဓော် ပုံ့ဒွဝင် ကျမ်းမှာ ဇမ္ဗုပတိချွတ်ခန်း အကြောင်းပါတယ်။ ဒီဇာတ်လမ်းကိုလည်း ဇင်းမယ်ပဏ္ဏာသကျမ်းကယူပြီး ရေးတယ်လို့ အမှာပြထားပါတယ်။ အခု မြန်မာပြည်ရှိ ဇင်းမယ်ပဏ္ဏာသ စာအုပ်မှာ ရှာကြည့်တော့ ဇမ္ဗုပတိချွတ်ခန်းအကြောင်း လုံးဝမတွေ့ရ

ဘူး။ ရှေးဟောင်းပုရပိုက်ကျမ်းတစ်ကျမ်းကယူပြီး ရေးသားတာ ဖြစ်ချင် ဖြစ်နိုင်တယ်။ ဇင်းမယ်ပဏ္ဏာသ ဆိုတာကလဲ ပိဋကသုံးပုံ စာရင်းဝင်တဲ့ကျမ်း မဟုတ်ဘူး။ ငါးရာ့ငါးဆယ် ဇာတ်တော်တွေကို နည်းမှီပြီး မဟာယာနဂိုဏ်းဝင် ဆရာတော် တစ်ပါးက ရေးသားထားတဲ့ ဘာသာရေး ပုံဝတ္ထု စာအုပ် တစ်အုပ်ဖြစ်ပါတယ်။

ဒီဇမ္ဗူပတိချတ်ခန်းဒေါ်တဲ့ မကိုဋ် စလွယ်ပါ ပုံတော်နဲ့ ပတ်သက်လို့ ကျမ်း အနိုင်အမာ ရှိသည်ဖြစ်စေ၊ မရှိသည် ဖြစ်စေ၊ ဒီပုံတော်ဟာ ခမ်းခမ်းနားနား လှလှပပရှိပြီး ဖူး မြော်သူရဲ့ စိတ်ကို ကြည်နူးနှစ်သက်စေဖို့အတွက် ရှေးပညာရှိ ကြီးများက တီထွင်ခဲ့တဲ့ ပုံပဲလို့ မှတ်ပြီး ကိုးကွယ် ထိုက်ပါ တယ်။

မေး။ ။ဒက္ခိဏာသာခါ ဘုရားပုံတော်ဟာ ဘာဖြစ်လို့ တခြား ရုပ်ပွားတော်တွေနဲ့ မတူတာလဲ။

ဖြေ။ ။ဒက္ခိဏာသာခါ ဆိုတဲ့ ပါဠိ စကား နှစ် လုံး က တောင်ဘက်အကိုင်းလို့ အဓိပ္ပာယ် ရတယ်။ (၃) ရာစုဘီစီမှာ အသောကမင်းတရားကြီးက သားတော်မဟိန္ဒနဲ့ သမီးတော် သင်္ဃမိတ္တာတို့ကို သီဟိုဠ်ကျွန်းသို့ သာသနာပြု စေလွှတ် တော်မူတဲ့အခါမှာ ငရိုးဘာဂဝေတီအဖြစ် ပူဇော်ဖို့ မဟာ ဗောဓိပင်ရဲ့ တောင်ဘက် အကိုင်းတစ်ကိုင်းကို ဖြတ်ယူ ပို့ ဆောင်ပြီး သီဟိုဠ်မှာ စိုက်ပျိုးကိုးကွယ်ကြတယ်။ ဒီဒက္ခိဏာ သာခါ ဗောဓိပင်နဲ့ ဒက္ခိဏာသာခါ ဘုရားပုံတော်ဟာ ဘယ်လို ဆက်စပ်တယ်ဆိုတာနဲ့ ဘာဖြစ်လို့ အခုလို ပုံတော်တစ်မျိုး ဖြစ်နေတယ်ဆိုတာကိုတော့ စာပေ အထောက်အထား မတွေ့ ရသေးဘူး။ ဒီဒက္ခိဏာသာခါ ပုံတော်ဘုရားဟာ သီဟိုဠ်ကျွန်း



က တစ်ဆင့် မြန်မာပြည်ကို ရောက်လာတယ်လို့တော့ ဆရာ ချို့က ပြောစမှတ် ပြုကြတယ်။

ဒက္ခိဏာသာခါလို့ ခေါ်တဲ့ တောင်ကိုင်းကို ဖြတ်စိုက်တဲ့ ဗောဓိပင်ဟာ သီဟိုဠ်မှာရှိတော့ ဒက္ခိဏာသာခါ ဘုရားဟာလဲ သီဟိုဠ်ကပဲ လာဖို့ ရှိပါတယ်။ ဒါပေမယ့် သီဟိုဠ်မှာ နေ ဖူးတဲ့ ဆရာတော်တွေကို လျှောက်ထားကြည့်တော့ သီဟိုဠ် ဒက္ခိဏာသာခါ ဘုရားဟာ အခု မြန်မာပြည်မှာ တွေ့ရတဲ့ ပုံတော်မျိုး မဟုတ်ဘဲ အခြား ရုပ်ပွားဆင်းတုတော် ပုံမျိုးပဲ ဖြစ်တယ်လို့ ဆိုပါတယ်။ ကမ္ဘာ့ဘုရားဆင်းတုတော်တွေကို ဖော်ပြတဲ့ စာအုပ်တွေမှာလဲ ဒက္ခိဏာသာခါပုံ တစ်ပုံမှ မပါရှိ ပါဘူး။ ဒါကြောင့် သီဟိုဠ်ကရောက်တဲ့ ဒက္ခိဏာသာခါဟာ လဲ ရိုးရိုးဆင်းတုပုံ ဖြစ်မယ်လို့ပဲ ခန့်မှန်းရပါတယ်။ ဒီနေ့ မြန်မာပြည်မှာ တွေ့ရတဲ့ ဒက္ခိဏာသာခါ ပုံမျိုးကတော့ မြန် မာပြည်မှာပဲရှိတဲ့ ပုံတော် အထူးအဆန်း ဖြစ်ပုံရပါတယ်။ ဘာ့ကြောင့် ဒီပုံမျိုး ဖြစ်တယ်ဆိုတာတော့ နိုင်နိုင်မာမာ မတွေ့ရသေးပါဘူး။

မေး။ ။ဒက္ခိဏာသာခါ ဘုရားရဲ့ ခေါင်းပေါ်မှာ ဘာ ဖြစ်လို့ ကြာပွင့် ဆောင်းထားသလဲ။

ဖြေ။ "သံဂါယနာတင် ကျမ်းဂန်မဟုတ်တဲ့ မဟာယာန ကျမ်းတစ်ခုမှာ ကောသလ မင်းကြီးနဲ့ မလ္လိကာ မိဖုရားတို့ ဘုရားဖူးဖို့ လာတဲ့အခါ ဘုရားရှင်မရှိ ဖြစ်နေတယ်။ ရှင် မောဂ္ဂလာန်က တန်ခိုးတော်နဲ့ လိုက်ရှာတော့ ကြာမျိုးငါး ပါး ဖူးပွင့်နေတဲ့ အနောတတ္တ အိုင်ထဲမှာ ဘုရားရှင်ဟာ ကြာပွင့်ကြီး တစ်ပွင့်ပေါ်မှာ ဈာန်ဝင်စားနေတာကို တွေ့ရ တယ်။ အိုင်စောင့်နတ်ကိုးပါးကလဲ ဘုရားရှင်ကို ကြာပွင့်ထီး

တစ်သက်စီနဲ့ ဆောင်းမိုးထားကြတယ်။ အဲဒီ ကြာပွင့်ပေါ်မှာ ထိုင်ပြီး ကြာပွင့်ထီးဆောင်းတဲ့ အသွင်ဟာ ကြည့်ရှုမငြီးလို့ မဝနိုင်အောင် ကြည်ညိုဖွယ် ရှိပေတယ်လို့ ကောသလမင်းကြီးနဲ့ မလ္လိကာ မိဖုရားကြီးတို့ကို ရှင်မောဂ္ဂလာန်မထေရ် ပြန်လည် မိန့်ကြားတယ်၊ ရှင်မောဂ္ဂလာန် မိန့်ကြားချက်ကို ကောသလမင်းကြီးက ကြားတော့ မင်းကြီးလဲ ကြာပွင့်ပေါ်မှာ ဈာန်ဝင်စားပြီး ကြာသီး ဆောင်းထားတဲ့ ဘုရားရှင်နဲ့ ပုံတော်ကို အာရုံမှာ ဖူးတွေ့ရလို့ အလွန်ကြည်ညိုသွားတယ်။ ဒီပုံမျိုး ဘုရားရုပ်တု ပြုလုပ်ကိုးကွယ်ချင်ပါတယ်လို့ ကောသလမင်းကြီးက လျှောက်တော့ ရှင်မောဂ္ဂလာန်က ခွင့်ပြုလို့ ကြာသန်းထီးဆောင်းပုံကို ဘုရားရှင် လက်ထက်တော်တုန်းကတည်းက ထုလုပ် ကိုးကွယ်ခဲ့တယ်လို့ ယုံကြည်နေကြတယ်။

ဒါပေမယ့် အခုခေတ် ဇာတ်ဆာဒေါ ဘုရားတွေမှာလို ကြာသန်းကို ခေါင်းတော်ပေါ်မှာ အုပ်ထားတဲ့ပုံမျိုး မဟုတ်ဘဲ ဦးခေါင်းတော်အထက်က ထီးဆောင်းသလို ဆောင်းထားတယ်လို့ မှတ်ရမယ်။

အခု မြန်မာပြည်မှာ ထုလုပ် ကိုးကွယ်နေတဲ့ လည်ကုတ်တိုတို ပုဆိုင့်ဆိုင့် ပုံတော်ဟာ မကျွမ်းကျင်တဲ့ ပန်းပုဆရာတစ်ယောက်က လိမ်ညာ ရောင်းရာက အဟုတ်ထင်ပြီး ကိုးကွယ်နေကြတဲ့ ပုံတော်အမှား ဖြစ်တယ်လို့ သုတေသီတွေက တစ်ညီတည်း ဆိုနေကြပါပြီ။ ဒါကြောင့် ပန်းပုဆရာများကိုလည်း ယခုလို ပုံတော်ပုဆိုင့်ဆိုင့် လည်ကုတ်တိုတိုနဲ့ မသပ္ပာယ်တဲ့ပုံမျိုး မထုလုပ်ကြဖို့၊ ဗုဒ္ဓဘာသာ တွေကလဲ



ဘုရားရှင်ပုံ မဟုတ်တဲ့ပုံမျိုးကို မကိုးကွယ် မဆည်းကပ်ဖို့အတွက် သတိပေးလိုက်ပါတယ်။

တကယ်လို့ ကြာပွင့်ပေါ်မှာ ထိုင်၍ ဈာန်ဝင်စားပြီး ကြာသန်းထီး မိုးထားတဲ့ပုံ ကိုးကွယ်ချင်တယ်ဆိုရင်လဲ ထုလုပ်ကိုးကွယ် နိုင်ပါတယ်။ ဘုရားရှင် ရုပ်တုတော် ကတော့ အများ ကိုးကွယ်နေကြတဲ့ ကြည်ညိုဖွယ် သပ္ပာယ်တဲ့ ပုံမျိုးပဲ ဖြစ်ရပါမယ်။

မေး။ ။ဘုရားရှင်မှာ သျှောင်ထုံးရှိပါသလား။

ဖြေ။ ။ဒီမေးခွန်းကတော့ ယနေ့လက်ရှိ ရုပ်ပွားဆင်းတုတော်တွေကို ကြည့်ပြီး ကလေးတွေနဲ့ ဗုဒ္ဓဘာသာ မဟုတ်သူတွေက မေးလေ့ရှိတဲ့ မေးခွန်းပါပဲ။ ဘုရားရှင်မှာ သျှောင်ထုံး မရှိပါဘူး။ သိဒ္ဓတ္ထမင်းသားဘဝက သျှောင်ထုံးကို တောထွက်စဉ်က သန်လျက်နဲ့ ဖြတ်ခဲ့တယ်။ သန်လျက်နဲ့ ဖြတ်တာဖြစ်လို့ အခုခေတ် သင်ရှန်းဓားနဲ့ ရိတ်သလို မပြောင်သွားပါဘူး။ ဘုရားရှင်ရဲ့ လက်သစ်တော်နဲ့ လက်နှစ်သစ် အရှတ်ကျန်ပါတယ်။ အဲဒီ ဆံပင်ရှတ်တွေဟာ လက်ယာရစ်ခွေပြီး ကျန်ရစ်တာ နိဗ္ဗာန်စံတဲ့ အထိပါပဲ။ ဘုရားဖြစ်တဲ့အခါ ဆံပင်တော်မှ ရောင်ခြည်တော်တွေ ထွက်နေတဲ့အတွက် မြင်ရသူတွေက သျှောင်ထုံးပုံသဏ္ဌာန်လို မြင်ရပါတယ်။ ဘုရားရှင်ကို ဖူးတွေ့မြင်ရတဲ့အတိုင်း ရောင်ခြည်တော် ကွန့်မြူးနေတဲ့ ဆံတော်ပုံကို ထုထွင်းရာက ယနေ့ ဆင်းတုတွေမှာ ဆံထုံးပုံသဏ္ဌာန် ရှိနေတယ်လို့ပဲ ယူဆကြပါတယ်။

ရန်ကုန်မြို့ ခြောက်ထပ်ကြီး ဘုရားကြီး ကျောင်းတိုက်ဆရာတော်က သူ့ရဲ့စိတ်ကြိုက် မတ်ရပ်တော် ဘုရားပုံတော်ပန်းချီကား တစ်ခုကို ရေးဆွဲစေရာမှာ ခေါင်းတော်မှာ

ချောင်းထိုးပုံသဏ္ဌာန် မပါဘဲ ရဟန်းတော်များကဲ့သို့ ခေါင်းတုံး ပုံတော်နဲ့ ရေးဆွဲပူဇော်ထားတာကို မဟာသိမ်တော်ကြီးထဲ မှာ ယနေ့တိုင် ဖူးတွေ့မြင်နိုင်ပါတယ်။

မေး။ ။ဇကိုဏ်ဘာသာခေါ် ဘုရားပုံတော်ကို ကိုးကွယ်ရင် လောကီသိဒ္ဓိ အားလုံးပြီးတယ်ဆိုတာ မှန်ပါသလား။

ဖြေ။ ။ဇကိုဏ်ဘာသာခေါ် ဘုရားပုံတော်ဟာ အမြင်အား ဖြင့် ရိုးရိုးရုပ်ပွားတော်တွေလောက် ကြည်ညိုဖွယ် မကောင်း ပါဘူး။ ဒါပေမယ့် ဇကိုဏ်ဘာသာခေါ် ပုံတော်ကို လူတွေက ဘာသာရေးအရ ရုပ်ပွားတော်တစ်ဆူ အနေနဲ့သာ ကိုးကွယ် ကြတာ မဟုတ်ပါဘူး။ ဇကိုဏ်ဘာသာခေါ်ဘုရားကို ကိုးကွယ်ရင် လာဘ်လာဘ ပေါများမယ်၊ အရောင်းအဝယ် ကောင်း မယ်၊ ရာထူးတိုးမယ်၊ အန္တရာယ် အားလုံး ကင်းမယ်၊ အိမ်လဲ မီးမလောင်နိုင်ဘူး၊ လောကသိဒ္ဓိပေါင်းစုံ ပြီးတယ်လို့ ယုံ ကြည်ပြီး ကိုးကွယ်ကြပါတယ်။

ဘုရားကို ရှိခိုးတယ်၊ ပူဇော်တယ် ဆိုတာက ရုပ်ပွား တော်၊ ဆင်းတုတော်၊ ဓာတ်တော်၊ စေတီပုထိုးတွေကို ရှိခိုး ပူဇော်တာ မဟုတ်ပါဘူး။ အရဟံ စတဲ့ ဂုဏ်တော်တွေနဲ့ ပြည့်စုံတဲ့ သက်တော်ထင်ရှား ဘုရားရှင်ကို စိတ်အာရုံထဲမှာ ပေါ်လာသည်အထိ မျှော်မှန်းပြီး ရှိခိုးပူဇော်ရတာ ဖြစ်ပါ တယ်။ ရုပ်ပွားဆင်းတု ဓာတ်တော် စေတီတွေက သက်တော် ထင်ရှား ဘုရားရှင်ရဲ့ အာရုံထင်မြင် လွယ်ကူဖို့ အထောက် အကူမျှသာ ဖြစ်ပါတယ်။ ဒါကြောင့် ရိုးရိုး ရုပ်ပွားတော်ပဲ ဖြစ်ဖြစ်၊ ဇကိုဏ်ဘာသာခေါ် ပုံတော်ပဲဖြစ်ဖြစ် ဘုရားရှင်ရဲ့ ဂုဏ် တော်တွေကို ကြည်ညိုသဒ္ဓါတရား အားကောင်းရင် ကောင်း



အလောက် ဝိပဿနာဘက်ကို ကူးလိုက်ရင် မဂ်ဉာဏ် ဖိုလ်ဉာဏ် အထိ ရနိုင်ပါတယ်။

မေး။ ။ဘုရားရှင် ကြွတော်မူတဲ့အခါ ခြေတော်ရာမထင် ဘူးဆိုတာ မှန်ပါသလား။ ဘာကြောင့်ပါလဲ၊ ဘယ်လိုအခါ မှာ ထင်ပါသလဲ။

ဖြေ။ ။ဘုရားရှင် ကြွတော်မူတဲ့ အခါ ခြေတော်ရာ မထင်တာ မှန်ပါတယ်။ ဘာကြောင့် မထင်သလဲ ဆိုရင် (၁) နူးညံ့သိမ်မွေ့တဲ့အတွက်၊ (၂) ခွန်အားကြီးမားတော် မူတဲ့အတွက်၊ (၃) လူအများကို သနား ငဲ့ညှာတော်မူတဲ့ အတွက်ကြောင့် မထင်ကြောင်းကို အင်္ဂုတ္တိုရ် အဋ္ဌကထာမှာ ဖွင့်ပြထားပါတယ်။ ဘုရားရှင်ဟာ လေးသင်္ချေနဲ့ ကမ္ဘာ တစ်သိန်း ပါရမီဖြည့်ပြီး ဘုရားဖြစ်လာရပါတယ်။

ဘုရားရှင် ကြွတော်မူရာမှာ ခြေတော်ရာတွေ ထင်နေပါက လူအများက ဒီခြေတော်ရာ အားလုံးကို အရိုအသေ မပြုဘဲ လှည့်ရှောင်မသွားနိုင်ဘဲ နင်းမိ ကျော်မိရင် အကုသိုလ်ဖြစ်ဖို့ ရှိကြပါတယ်။ ခြေတော်ရာကို နင်းသွား ကျော်သွားမယ့် လူတွေ အပြစ်ရမှာကို သနားတော်မူတဲ့အတွက် ဘုရားရှင်ဟာ ခြေတော်ရာ မထင်အောင် အဓိဋ္ဌာန်ပြီး ကြွသွားတော်မူပါ တယ်။

ဘုရားရှင်ကို အမှတ်တရ ဖူးမြော်လိုသူတွေ အမြတ်တနိုး ဖူးမြော်နိုင်ဖို့ ဖူးမြော်စရာတစ်ခု သနားတော်မူဖို့ တောင်းပန် တဲ့အခါ နောင်အခါလဲ သာသနာတော် ထွန်းကားစည်ပင် ပြီး သာသနာတော် အကျိုးများဖို့ မြင်တော်မူတဲ့အခါ ခြေတော်ရာ ထင်စေသတည်းလို့ အဓိဋ္ဌာန်ပြီး ခြေတော်ရာ ကို ထင်စေပါတယ်။ မင်းဘူး၊ မန်းစက်တော်က ခြေတော်

ရာဟာ သစ္စဗန္ဓရသေ့ တောင်းပန်လို့ ချခဲ့တာ ယနေ့ သာသနာတော် ၂၅၀၀-ကျော်အထိ တည်တံ့ ထွန်းကားနေပါတယ်။

မေး။ ။ယခု မြန်မာနိုင်ငံနဲ့ သီဟိုဠ်နိုင်ငံမှာ ကိုးကွယ်နေကြတဲ့ ခြေတော်ရာဟာ စေတီလေးပါးထဲမှာ ဘယ်စေတီ အမျိုးအစားလဲ။

ဖြေ။ ခြေတော်ရာဟာ ဘယ်စေတီမျိုးထဲမှာ ပါတယ်လို့တော့ အတိအကျ မတွေ့ရဘူး။ ဂေါတမဘုရားရှင် ခြေတော်ရာနဲ့ ပတ်သက်ပြီး ပိဋကတ်ထဲမှာ ဖွင့်ပြထားတာ မတွေ့ရဘူး။ သစ္စဗန္ဓရသေ့ တောင်းပန်လို့ မင်းဘူး ရွှေစက်တော်မှာ ခြေတော်ရာတစ်ဆူ ချတော်မူခဲ့တယ်။ နမ္မဒါ နဂါး တောင်းပန်လို့ အောက်ခြေတော်ရာကို ချတော်မူခဲ့တယ်လို့ ရွှေစက်တော်သမိုင်းမှာ တွေ့ရတယ်။ ဒီခြေတော်ရာကို နှစ်စဉ် ဗုဒ္ဓဘာသာဝင်တွေ အများ သွားရောက် ဖူးမြော်နေကြတယ်။ ဘယ်စေတီမျိုးထဲမှာ ပါတယ်လို့ မတွေ့ပေမယ့် ဥဒ္ဒိဿစေတီထဲမှာပါ တယ်လို့ မှတ်ရပါမယ်။ ဒီခြေတော်ရာကို ဖူးမြော်ခြင်းဖြင့် ဘုရားရှင် သက်တော်ထင်ရှား ရှိခဲ့တယ်ဆိုတာကို မျှော်မှန်းရည်ရော်လို့ ဖြစ်ပါတယ်။

မေး။ ။ခြေတော်ရာကို ကိုးကွယ်တဲ့ အစဉ်အလာ ရှိပါသလား။

ဖြေ။ ။အခု ဘဒ္ဒကမ္ဘာမှာပွင့်တဲ့ ဘုရား ရှင် လေး ဆူ လက်ထက်တော်မှာ ခြေတော်ရာကို ကိုးကွယ်တဲ့ အစဉ်အလာ ပိဋကတ်မှာ မတွေ့ရပါဘူး။ ဘုန္နရထေရ အပဒါန်မှာတော့ တိဿဘုရားရှင် လက်ထက်တော်တုန်းက ခြေတော်ရာကိုပန်းနဲ့



ပူဇော်ခဲ့ရလို့ နတ်ပြည် ရောက်ရတဲ့အကြောင်း ဖွင့်ပြထားပါတယ်။

အင်္ဂုတ္တိုရ်အဋ္ဌကထာမှာတော့ ဒေါဏပုဏ္ဏားကြီးနောက်က လိုက်လာမှန်းသိတော့ ဘုရားရှင်ဟာ ခြေတော်ရာတွေ ထင်ပါစေလို့ အဓိဋ္ဌာန်ပြီး ခြေတော်ရာတွေ ချခဲ့ပါတယ်။ ဒေါဏပုဏ္ဏားကြီးဟာ ခြေတော်ရာမှာ လင်းနေတဲ့ စက်လက္ခဏာတော်တွေကို မြင်ပြီး ဘုရားမှန်းသိတာနဲ့ ခြေရာခံလိုက်သွားတယ်။ ဘုရားရှင်ကလဲ သစ်ပင်တစ်ပင်အောက်မှာ ထိုင်စောင့်နေတယ်။ ဒေါဏပုဏ္ဏားက နတ်လား၊ ဘီလူးလား၊ ကုမ္ဘာန်လား၊ လူလား။ ဆိုတော့ ဘုရားရှင်က ဘာမှ မဟုတ်ဘူး။ ဗုဒ္ဓဖြစ်တယ်လို့ မိန့်ခဲ့တယ်၊ ပရိနိဗ္ဗာန်စံတဲ့အခါ ခေတ်တော်တွေကို ဦးဆောင်စေမှာကို သိတော်မူလို့ ခြေတော်ရာချပြီး တွေ့ဆုံစေခဲ့တာ ဖြစ်ပါတယ်။

အပဒါန်အဋ္ဌကထာနဲ့ အင်္ဂုတ္တိုရ်အဋ္ဌကထာမှာ ပဒစေတီယ ခြေတော်ရာကို ပူဇော်စရာလို့ ပြထားတာလဲ တစ်ကြောင်း၊ ဒေါဏပုဏ္ဏားကြီးဟာ စက်လက္ခဏာတော်တွေကို ကြည့်ပြီး ဘုရားမှန်း၊ သိသလို စက်လက္ခဏာတွေပါတဲ့ ခြေတော်ရာကို ဖူးမြော်ရလို့ သက်တော် ထင်ရှား ဘုရားရှင်ကို မျှော်မှန်း ပူဇော်နိုင်တဲ့အတွက် ခြေတော်ရာကို ရှိခိုးပူဇော်ထိုက်ပါတယ်။

မေး။ ။ရုပ်ပွားဆင်းတုတော်တွေကို အနေကဇာ မတင်ဘဲ မကိုးကွယ် ကောင်းဘူးလား။

အနေကဇာတင်တယ်ဆိုတာ

ဖြေ။ ။ရုပ်ပွားဆင်းတုတော်တွေကို အနေကဇာမတင်ဘဲ ကိုးကွယ် ကောင်းပါတယ်။ အနေကဇာ တင်တာနဲ့ ပတ်

ဖြေ။ ။အနေကဇာတင် အခမ်းအနား ကျင်းပ[illegible] အတွက် အကျိုးအများကြီး ပိုထူးပါတယ်။ ထူးလို့ ရှေ[illegible] မြန်မာကြီးတွေက ပိဋကအစဉ်အလာ မဟုတ်ပေမယ့် ဒီအနေ[illegible] ကဇာတင် အခမ်းအနားကို စီစဉ်ပြုလုပ်လိုက်နာခဲ့ခြင်း ဖြစ်[illegible] ပါတယ်။

(၁) အနေကဇာတ် သံသာရံ စတဲ့ ဘုရားရှင်ရဲ့ ဥဒါန်း စကားကို ဘုရားရှင်ကိုယ်စား ရဟန်းတော်တွေက ရွတ်ပေး ရတာဖြစ်လို့ ရဟန်းတော်တွေကို ဆွမ်း ယက်န်းစတဲ့ ပစ္စည်း တွေ လှူဒါန်းရတဲ့ ဒါနကုသိုလ်၊ လူပုဂ္ဂိုလ်တွေကို ပင့်ဖိတ် ကျွေးမွေးရတဲ့ ဒါနကုသိုလ်တွေ၊ ကျင့်သုံးဆောက်တည်ရတဲ့ သီလကုသိုလ်တွေ ပိုရတယ်။

(၂) အနေကဇာတသံသာရံ စတဲ့ ဘုရားရှင်ရဲ့ နှုတ် တော်ထွက် ဒေသနာတွေကို ကြားနာရတဲ့ ဓမ္မသဝန ကုသိုလ်တွေ ပိုရတယ်။ ဟောကြားရတဲ့ ရဟန်းတွေလဲ ဓမ္မဒေသနာ ကုသိုလ်တွေ ပြုနိုင်ရတယ်။

(၃) တရားဒေသနာတွေ ကြားနာရလို့ ဗုဒ္ဓဘာသာ ဆိုင်ရာ အသိအမြင် မှန်ကန်မှု ဒိဋ္ဌိဇုကမ္မ ဖြစ်ရတယ်။

(၄) အလှူရှင်အနေနဲ့ မိမိ ပြုလုပ်တဲ့ ဘုရားပူဇော်မှု ကုသိုလ်၊ ဒါန သီလကုသိုလ်၊ အမျှအတမ်း ပေးဝေခြင်း ပတ္တိဒါနကုသိုလ်ကို ရတယ်။

(၅) အနေကဇာတင်ပွဲ လာရောက်ကြတဲ့ ပရိသတ်တွေ [illegible] အတွက် အလှူကိစ္စ ဝိုင်းဝန်းဆောင်ရွက်ရတဲ့ ဝေယျာဝစ္စ [illegible] သိုလ်၊ သာဓုအနုမောဒနာ ခေါ်ဆိုရတဲ့ ပတ္တာနုမောဒန [illegible] သိုလ်တွေ ပိုရတယ်။



[illegible] ယ်ဒီလို အကျိုးထူးတွေကို ပိုရစေနိုင်တဲ့အတွက် အနေက [illegible] တင် အခမ်းအနားကို ကျင်းပတဲ့ အစဉ်အလာကို ရှေး [illegible] မာတွေက ယဉ်ကျေးမှုတစ်ခုအနေနှင့် လိုက်နာ ကျင့်သုံး [illegible] ကြခြင်း ဖြစ်ပါတယ်။

မေး။ ။ပယောဂဆရာ၊ အထက်လမ်းဆရာတွေ သုံး [illegible] တဲ့ ဘုရားငါးဆူ အမိန့်တော်ဆိုတာ ဘယ်ဘုရားတွေ [illegible] လဲ။

ဖြေ။ ။အခု တည်ဆဲကမ္ဘာကြီးဟာ ဘုရားငါးဆူပွင့်မှာ [illegible] ဖြစ်တဲ့အတွက် ဘဒ္ဒကမ္ဘာလို့ ခေါ်တယ်။ အဲဒီ ဘုရား [illegible] တွေအနက် ကကုသံ၊ ကောဏာဂုံ၊ ကဿပ၊ ဂေါတမ [illegible] တဲ့ ဘုရားလေးဆူပွင့်ပြီးပြီ၊ အရိမေတ္တေယျ ဘုရားတစ်ဆူ [illegible] ကျန်သေးတယ်။ ပွင့်ပြီး လေးဆူနဲ့ ပွင့်လတ္တံ့ တစ်ဆူကို [illegible] ပြီး ဘုရားငါးဆူ အမိန့်တော်လို့ သုံးကြခြင်း ဖြစ် [illegible] တယ်။ အချို့ ဓမ္မာရုံတွေမှာ ဘုရားငါးဆူပုံ ထုလုပ်ကိုးကွယ် [illegible] ကြတာ ဖြစ်တယ်။

အချို့ မှန်ပေါက်လေးခုရှိတဲ့ ပုဂံအာနန္ဒာနဲ့ မန္တလေး [illegible] လိုက်ဂူ ဘုရားတွေမှာ ဘုရားလေးဆူ ကိုးကွယ်တာ [illegible] တွေ ပွင့်ပြီး ဘုရားလေးဆူကို ရည်မှန်း ပူဇော်ကြခြင်း [illegible] တယ်။

မေး။ ။အာဋာနာဋိယသုတ်မှာ ဝိပဿီသစ နမတ္ထု [illegible] ည်ဖြင့် ဝိပဿီအစ ဂေါတမအဆုံး ဘုရား ၇-ဆူကို ရှိခိုး [illegible] ထားတယ်။ ဘာဖြင့်လို့ ဒီဘုရား ၇-ဆူကို သီးခြား [illegible] ရပါသလဲ။

ဖြေ။ ။အာဋာနာဋိယသုတ်မှာလာတဲ့ဝိပဿိဿ နမတ္ထု စက္ခုမန္တဿ သိရီမတော စတဲ့ ဘုရားရှိခိုး ဂါထာတွေ ဗြဟ္မာကြီးရဲ့ ဘုရားရှိခိုး ဖြစ်ပါတယ်။ ဗြဟ္မာတွေဟာ အသက်တမ်းရှည်တဲ့အတွက် ဝိပဿီဘုရား ပွင့်တော်မူတဲ့အချိန် ဝိပဿီ ဘုရားရှင်ရဲ့ တပည့် သာဝက ဖြစ်ခဲ့ဖူးတဲ့ ဗြဟ္မာကြီးတွေဟာ အခု ဂေါတမပွင့်ချိန်အထိ ဗြဟ္မာ့ပြည်မှာ ရှိနေကြသေးတယ်။ အဲဒီ ဝိပဿီဘုရားကိုမီတဲ့ ဗြဟ္မာကြီးတွေဟာ ဝိပဿီဘုရားရှင်ရဲ့ နောက်မှာ ပွင့်တဲ့ သိခီ၊ ဝေဿဘူ၊ ကကုသန်၊ ကောဏာဂုံ၊ ကဿပ၊ ဂေါတမဆိုတဲ့ ဘုရား ၇-ဆူနဲ့ ဖူးတွေ့ တရားနာခဲ့ရဖူးပါတယ်။ ဒါကြောင့် ဗြဟ္မာကြီးတွေ ဖူးတွေ့တရားနာဖူးတဲ့ ဘုရား ၇-ဆူ ဂုဏ်တော်တွေကို ထုတ်ဖော် ချီးကျူးပြီး ရှိခိုးတာ ဖြစ်ပါတယ်။ အဲဒီ အာဋာနာဋိယသုတ်ဟာ ဗြဟ္မာကြီးရဲ့ ဘုရား ၇-ဆူ ရှိခိုးကို မှီငြမ်းပြီး ဘုရား ၇-ဆူ ဘုရားရှိခိုးဟာ တွင်ကျယ်နေတာ ဖြစ်ပါတယ်။

မေး။ ။ဘုရားကိုးဆူ ပူဇော်တယ်ဆိုတာ ဘယ်ဘုရားကို ပူဇော်တာပါလဲ။

ဖြေ။ ။ဘုရားကိုးဆူ ပူဇော်တယ်ဆိုတာက ဘုရားကိုးဆူကို ပူဇော်တာ မဟုတ်ပါဘူး။ ဘုရားရှင်နှင့်တကွ ရဟန္တာ ၈-ပါး စုစုပေါင်း ကိုးပါးကို ပူဇော်တာ ဖြစ်ပါတယ်။ ဘုရားနှင့်တကွ ကိုးဆူ ပူဇော်ခြင်းကို ပြောရာက အတိုချုံး ဘုရားကိုးဆူပူဇော်ခြင်းလို့ ဝေါဟာရ ပြောင်းလဲလာပုံ ရပါတယ်။

မေး။ ။ဘုရားကိုးဆူ ပူဇော်မှုဟာ ပိဋကတ်တော်မှာ ပါတဲ့ အစဉ်အလာ ဟုတ်ပါသလား။



ဖြေ။ ။ဘုရားကိုးဆူ ပူဇော်မှုကို ပိဋကတ်တော်မှာ မတွေ့ရပါဘူး။ ပူဇော်ပွဲတစ်ခုအနေနဲ့ ကျင်းပတာ မတွေ့ရပါဘူး။ ဒါပေမယ့် ဓမ္မပဒအဋ္ဌကထာမှာပါတဲ့ ဖြစ်ရပ်တစ်ခုကို အခြေခံပြီး တီထွင်ထားတဲ့ ပူဇော်ပွဲတစ်ခုသာ ဖြစ်ပါတယ်။ ဘုရားရှင်ဟာ ဒီဃလင်္ဂိကမြို့မှာ သီတင်းသုံးနေစဉ် ပုဏ္ဏားတစ်ယောက်က မွေးခါစ သူ့ရဲ့သားဟာ ၇-ရက်သာ အသက်ရှည်မယ်လို့ တိတ္ထိ ရဟန်းတစ်ပါးက ဟောပါတယ်။ သနား ကရုဏာထားပြီး ကယ်မ တော်မူပါလို့ လျှောက်တယ်။ ဘုရားရှင်က အိမ်ရှေ့မှာ မဏ္ဍပ်တစ်ခု ထိုးစေပြီး မဏ္ဍပ်အလယ်မှာ ကလေးကို ထားစေပြီး ရဟန္တာ (၈) ပါး ဖြစ်စေ၊ (၁၆) ပါးဖြစ်စေ နေ့ရောညပါ (၇) ရက်လုံးလုံး ပရိတ်ရွတ်စေပါတယ်။ (၇) ရက်မြောက်တဲ့နေ့မှာ ဘုရားရှင်ကိုယ်တော်တိုင် ကြွရောက် ရွတ်ပါတယ်။ နတ်ဗြဟ္မာတွေက ပရိတ်တော်နာဖို့ ဘုရားရှင်ကို ဖူးဖို့ မဏ္ဍပ်ဝန်းကျင်မှာ ပြည့်နေတဲ့အတွက် ကလေးကို စားခွင့်ရထားတဲ့ အဝရုဒ္ဓက ဘီလူးဟာ ကလေးနား မကပ်နိုင်လို့ မစားနိုင်တော့ဘူး။ (၈) ရက်မြောက်နေ့မှာ ကလေးအား ဘုရားရှင်ကို ရှိခိုးစေရာ 'အသက်ရှည်ပါစေသော်လို့' မေတ္တာပို့လိုက်ရာက ပုဏ္ဏားက သူ့ကလေးကို 'အာယုဝဍ္ဎန = မောင်သက်ရှည်' လို့ နာမည် ပေးလိုက်တယ်။

ဒီဖြစ်ရပ်ကို နမူနာယူပြီး ဗုဒ္ဓဘာသာဝင်တွေဟာ ဗေဒင်ကိန်းခန်းအရ ဂြိုဟ်စား ဂြိုဟ်နင်း အတိတ်နိမိတ် မကောင်းတဲ့အခါ ဂြိုဟ်ကိုးလုံးပူဇော်မှုနဲ့ တွဲပြီး ဘုရားကိုးဆူ ပူဇော်တဲ့ ဓလေ့အထကို တီထွင်ခဲ့ကြတယ်။

မေး။ ။ဘုရားရှင်နဲ့အတူ အပူဇော်ခံရတဲ့ ရဟန္တာတွေက ဘယ်ရဟန္တာတွေပါလဲ။

ဖြေ။ ။ဘုရားရှင်နဲ့အတူ အပူဇော်ခံရတဲ့ရဟန္တာတွေဟာ ဘယ်ရဟန္တာရယ်လို့ အတိအကျ ဖော်မပြထားပါဘူး။ ဒါ ပေမယ့် အခု ဘုရားကိုးဆူပူဇော်ပွဲမှာတော့ ရဟန္တာ ၈-ပါး အမည်ကို တိတိကျကျ ဖော်ပြထားပါတယ်။ ဘယ်ရဟန္တာ ဘယ်အရပ် ဘယ်ထောင့်မှာ နေရမယ်ဆိုတာကိုလဲ အတိအကျ သတ်မှတ်ထားပါတယ်။ အရှေ့မြောက်ထောင့်မှာ ရှင်ရာဟု လာ၊ အရှေ့မှာ ရှင်ကောဏ္ဍည၊ ရှင်ရေဝတက အရှေ့တော ထောင့်မှာ၊ ရှင်သာရိပုတ္တရာက တောင်အရပ်မှာ၊ ရှင်ဥပါ က အနောက်တောင်ထောင့်မှာ၊ ရှင်အာနန္ဒာက အနောက် မှာ၊ ရှင်ဂဝံပတိက အနောက်မြောက်အရပ်မှာ၊ ရှင်မော လာန်က မြောက်အရပ်မှာ ဆိုပြီး နေရာ သတ်မှတ်ထားပ တယ်။ ဘယ်ရဟန္တာကို ဘာ့ကြောင့် ဘယ်အရပ်မှာ ထား တယ်ဆိုတာတော့ အကြောင်း အမှိုင်းအမှာ မတွေ့ရပါဘူး တချို့စာအုပ်တွေမှာက ရဟန္တာ နေ့သင့်အလိုက် နေရာ ထားတယ်လို့ ဆိုပါတယ်။ ဥပမာ ရှင်သာရိပုတ္တရာဟ ဗုဒ္ဓဟူးသားဖြစ်လို့ တောင်အရပ်မှာ ထားတယ်လို့ ဆိုတ ပါတယ်။ ဒါပေမယ့် ရှင်သာရိပုတ္တရာဟာ ဗုဒ္ဓဟူးသား ဖြ တယ်လို့ ပိဋကတ်မှာ မပါလို့ ယုတ္တိတော့ မတန်ပါဘူး။

မေး။ ။ဘုရားကိုးဆူ ပူဇော်တဲ့ ဓလေ့ဟာ ဘယ်ခေ ဘယ်ဒေသက စခဲ့သလဲ။

ဖြေ။ ။ဟံသာဝတီ ဆင်ဖြူရှင် ဘုရင့်နောင်မင်းတရ ကြီးဟာ သက္ကရာဇ် ၉၂၀ လောက်မှာ ယိုးဒယားပြ



...င်းမယ်ကိုသိမ်းပြီး သားတော် အနော်ရထာကို ဘုရင်ခံ ...ထားပါတယ်။ ထိုအချိန်က ဇင်းမယ်တွင် လောကီဗေဒင် ...ကိန်းခန်းအရ ဂြိုဟ်ကြီးကိုးလုံးကို ပူဇော်တဲ့ အစဉ်အလာ ...တယ်။ အနော်ရထာစောက ဗုဒ္ဓဘာသာ ဆရာတော်ကြီး ...များနဲ့တိုင်ပင်ပြီး လူတွေကျင့်သုံးနေတဲ့ ဂြိုဟ်ကိုးလုံး ပူဇော် ...လဲ မပျက်၊ ဗုဒ္ဓဘာသာနည်းအရ ဘုရားရှင်နဲ့ ရဟန္တာ ...များကို ပူဇော်ရာလဲ ရောက်အောင်ဆိုပြီး ဓမ္မဒကျမ်းလာ ...ဘယုဝစုန ဝတ္ထုအရ ဘာသာရေး ယဉ်ကျေးမှု အဖြစ် ပြောင်းလဲခဲ့တယ်။ အဲဒီဇင်းမယ်က ဘုရားကိုးဆူ အစဉ်အလာ ...ဟာ မြန်မာပြည်ကို ရောက်လာခဲ့တယ်လို့ အဆိုရှိပါတယ်။ ဒါကြောင့် ဘုရားကိုးဆူ ပူဇော်တဲ့ ဓလေ့ဟာ တောတွေကို မရောက်ဘဲ မြို့တွေမှာ အထူးသဖြင့် အောက်မြန်မာပြည်မြို့တွေ မှာသာ လုပ်လေ့လုပ်ထ ရှိပါတယ်။

မေး။ ။ယခုကာလ ဘုရားကိုးဆူ ပူဇော်ပွဲကို ဘယ်လို ပူဇော်နေကြသလဲ။

ဖြေ။ ။ဘုရားကိုးဆူ ပူဇော်ပွဲဟာ ဂြိုဟ်ကိုးလုံး ပူဇော် ပွဲလဲ ဖြစ်ပါတယ်။ ဘုရားကိုးဆူ ပူဇော်ပွဲဟာ စေတနာ သဒ္ဓါတရား သက်သက်အရ ပြုလုပ်တာမဟုတ်ပါဘူး။ ဗေဒင် ကိန်းခန်းအရ ကံဇာတာ နိမ့်တဲ့အခါမျိုးမှာ လောကီနည်း အရ ရာထူးဂုဏ်သိန် စည်းစိမ် တိုးတက်စေချင်တဲ့အခါမျိုးမှာ ဘာသာရေးနည်းနဲ့ လောကီနည်း ပေါင်းပြီးလုပ်တဲ့ ပူဇော်ပွဲ ဖြစ်ပါတယ်။ ဒါကြောင့် အထက်မှာပြခဲ့တဲ့ ဘုရားရှင်နဲ့ ရဟန္တာ ၈-ပါးအပြင် ဘုရားရှင် နောက်မှာ ကိတ်ဂြိုဟ်ကို ထားပြီး ရဟန္တာ (၈) ဆူရဲ့ နောက်မှာတော့ တနင်္ဂနွေထောင့်

မှာ ဂန္ဓုန်ရုပ်ကို စီးထားတဲ့ တနင်္ဂနွေဂြိုဟ်မင်း၊ တနင်္
သောင့် အရှေ့ရပ်မှာ ကျားရုပ်ကို စီးထားတဲ့ တနင်္လာဂြို
မင်း စသည်ဖြင့် ဂြိုဟ်ကြီး ၈-လုံးကို နေရာချထားပါတယ်
လှူဖွယ်ဖြင့်တဲ့အခါ မှာလဲ ဘုရားရဟန္တာကိုးဆူနဲ့ ဂြိုဟ်ကိုးပါ
အတွက် ပွဲ ၁၈-ပွဲဖြင့်ဆင် ပူဇော် ကျွေးမွေး ရပါတယ်
ဒါကြောင့် ဘုရားကိုးဆူဟာ ဘာသာရေး ပူဇော်ပွဲနဲ့ လော
ဂြိုဟ်နတ် ပူဇော်ပွဲကို ပေါင်းထားတဲ့ ပူဇော်ပွဲတစ်ခု ဖြစ်ပ
တယ်။

မေး။ ။ဘုရားကိုးဆူ ပူဇော်ပွဲကို ဘာဖြစ်လို့ ညနေရို
ညအာက်ပိုင်း ပြုလုပ်ပါသလဲ။

ဖြေ။ ။အာယုပ္ပူဇော်ပွဲ အစစ်ကိုတော့ မနက်အရု
တက်မှာ လုပ်ကြပါတယ်။ ဒါပေမယ့် အခမ်းအနားကိုတော
ညနေမှာ ကျင်းပပါတယ်။ ဘုရားကိုးဆူပူဇော်ပွဲဟာ မြို့တေ
မှာ ပြုလုပ်လေ့ရှိတော့ အားလုံး အလုပ်အားလပ်တဲ့ အချိ
အခါလဲဖြစ်၊ ဘုရားကိုးဆူပူဇော်ပွဲ ဖြင့်ဆင်ထားတဲ့ ဘုရာ
ဆောင် အခမ်းအနားကို ကြွရောက်လာတဲ့ ပရိသတ်များ
လဲ ဖူးမြော်ကြည်ညိုနိုင်အောင် လူထုပရိသတ်ကိုတော့ ညနေ
ဘက်မှာ ဖိတ်ကျွေးပါတယ်။ ဘုရားရှင်၊ ရဟန္တာတွေနဲ့ ဂြိုဟ်
နတ်တွေကိုတော့ မနက်အရုဏ်တက်မှာ ပူဇော် ကျွေးမွေးပါ
တယ်။

မေး။ ။အချို့ ဗုဒ္ဓဘာသာတွေ ဘာကြောင့် ဘုရား
ကိုးဆူ မပူဇော်ကြသလဲ။

ဖြေ။ ။အချို့ ဗုဒ္ဓဘာသာတွေက ရတနာသုံးပါးကေ
လွဲပြီး ဘာကိုမှ မကိုးကွယ်ကြပါဘူး။ ဘုရားကိုးဆူ ပူဇော်ပွဲ



မှာ ဂြိုဟ်နတ်တွေကို ကိုးကွယ်ပူဇော်တဲ့ အခမ်းအနားပါနေတဲ့
အတွက် ဗုဒ္ဓဘာသာလုပ်ငန်း မဟုတ်ဘူးလို့ ယုံကြည်ကြပြီး
မပူဇော်တာပါပဲ။

အချို့ကတော့လဲ ဘုရားနဲ့တကွ ရဟန္တာတွေလဲ ပါ၊ ဂြိုဟ်
နတ်တွေလဲပါဖြစ်လို့ လောကုတ္တရာရေး၊ လောကီရေးနှစ်မျိုး
လုံး ပါတဲ့ လုပ်ငန်းပဲဆိုပြီး လက်ခံ ပြုလုပ်ကြပါတယ်။
အကြိုတိုင်ရပ်ပါနိုင်မှာ ဗလိငါးမျိုးကို ပူဇော်ရတဲ့ နေရာမှာ
ဒေဝတာဗလိနတ်တွေကို တင်မြှောက်ပသခြင်း တစ်မျိုးပါ
တယ်။ ကြီးပွားကြောင်းတရား (၇)ပါးမှာ ရှိးရာကိုးကွယ်တဲ့
နတ်တွေကို ဗလိနတ်စာ ကျွေးမွေး တင်မြှောက်ရမယ်လို့ ဆိုတဲ့
အတွက် ဘုရားကိုးဆူပူဇော်တာဟာ ဗုဒ္ဓဘာသာနဲ့ မဆန့်ကျင်
ပါဘူး။

မေး။ ။အချို့ အရပ်တွေမှာ နှစ်ကျိပ်ရှစ်ဆူ လှူဒါန်းပွဲ၊
ပူဇော်ပွဲတွေ လုပ်ကြတယ်။ နှစ်ကျိပ်ရှစ်ဆူဆိုတာ ဘာဘုရား
တွေလဲ။

ဖြေ။ ။သုမေဓာ ဘုရားအလောင်းဟာ ဒီပင်္ကရာဘုရား
ရှေ့တော်မှာ ဗျာဒိတ်တော်ခံတော်မူတယ်၊ ပြီးတော့ လေးသင်္ချေ
နဲ့ ကမ္ဘာတစ်သိန်း ပါရမီဖြည့်ကျင့်တော်မူတယ်။ အဲဒီလို ပါရမီ
ဖြည့်ကျင့်နေစဉ် ကာလအတွင်းမှာ ဒီပင်္ကရာဘုရားနဲ့ ဂေါတမ
ဘုရားရှင် အပါအဝင် ဘုရားပေါင်း နှစ်ဆယ့်ငါးဆူ ပွင့်
တော်မူတယ်။ ဒါပေမယ့် ဒီပင်္ကရာဘုရားပွင့်တဲ့ ကမ္ဘာမှာ
ဒီပင်္ကရာမတိုင်မီ တဏှင်္ကရာ၊ မေဓင်္ကရာ၊ သရဏင်္ကရာ ဆိုတဲ့
ဘုရားသုံးဆူပွင့်သွားတယ်။ အဲဒီ ဘုရားသုံးဆူကိုပါ ပေါင်း
ပြီး ဘုရား (၂၈)ဆူ ရည်မှန်းပြီး နှစ်ကျိပ်ရှစ်ဆူ ဘုရားတွေ

တည်ကြတယ်။ နှစ်ကျိပ်ရှစ်ဆူလှည့်ပွဲ ပူဇော်ပွဲတွေ ကျင် ကြတယ်။

မေး။ ။သမ္ဗုဒ္ဓေဂါထာမှာ လာတဲ့ ငါးသိန်းတစ်သော နှစ်ထောင် နှစ်ကျိပ်ရှစ်ဆူသော ဘုရားတွေဟာ ဘယ်ဘုရား ပါလဲ။

ဖြေ။ ။စိန္တိတံ သတ္တသင်္ချေယျံ၊
နဝသင်္ချေယျ ဝါစကံ။
ကာယဝါစံ စတုချာတံ၊
ဗုဒ္ဓတ္တံ သမုပါဂမိ။

ဟူသော ဂုဠဗုဒ္ဓဃောသထေရ်စီရင်သည့် သောတတ္တကီကျမ်း လာ ဂါထာအရ ဂေါတမဘုရားအလောင်းတော်ဟာ စိတ် တော်ထဲမှာ ဘုရားဆုကို တောင်းခဲ့တာ (၇)သင်္ချေ ကြာပ တယ်။ အဲဒီ (၇) သင်္ချေအတွင်းမှာ ဗြဟ္မဒေဝစတဲ့ ဘုရား ပေါင်း တစ်သိန်းနှစ်သောင်းငါးထောင် ပွင့်ပါတယ်။ နှုတ် တော်က မြွက်ဆိုပြီး ဘုရားဆု တောင်းခဲ့တာက (၉) သင်္ချေ ကြာပါတယ်။ အဲဒီ (၉) သင်္ချေ အတွင်းမှာ ပေါရာဏသက္က ဂေါတမစတဲ့ဘုရားအဆူပေါင်းသုံးသိန်းရှစ်သောင်းခုနစ်ထော ပွင့်ခဲ့ပါတယ်။ ဒီပင်္ကရာဘုရားထံမှစ၍ ကိုယ်ရော နှုတ်ပ ဘုရားဆုတောင်းခဲ့၊ ကျင့်ခဲ့တာက လေးသင်္ချေနှင့် ကမ္ဘာ တစ်သိန်း ကြာပါတယ်။ အဲဒီ ကာလအတွင်း ပွင့်တဲ့ ဘုရား ပေါင်းက နှစ်ကျိပ်ရှစ်ဆူ ဖြစ်ပါတယ်။ အဲဒီ သင်္ချေနှစ်ဆယ်နဲ့ ကမ္ဘာတစ်သိန်းအတွင်း ပွင့်တော်မူတဲ့ (၅၁၂၀၂၈) ငါးသိန်း တစ်သောင်းနှစ်ထောင် နှစ်ကျိပ်ရှစ်ဆူသော ဘုရားရှင်များကို ရည်မှန်း ရှိခိုးပူဇော်တာ ဖြစ်ပါတယ်။



မေး။ ။သမ္ဗုဒ္ဓေ ဘုရားရှိခိုးနဲ့ ဆုတောင်းဂါထာကို ဘယ်သူရေးပါသလဲ။ ဘယ်ရည်ရွယ်ချက်နဲ့ ရေးပါသလဲ။

ဖြေ။ ။သမ္ဗုဒ္ဓေ အန္တရာယ်ကင်း ဘုရားရှိခိုးကို ဘယ် ဆရာတော်ကြီး ရေးတယ်လို့ မှတ်တမ်းအထိုင်အမာ မတွေ့ရ ပါဘူး။ ရှေးမြန်မာ ဆရာတော်တစ်ပါး စီစဉ် ရေးသားခဲ့ တယ်လို့ မှတ်သားရပါမယ်။

ရည်ရွယ်ချက်ကတော့ ဂေါတမဘုရားရှင်ဟာ သင်္ချေနှစ် ဆယ်နဲ့ ကမ္ဘာတစ်သိန်း ပါရမီ ဖြည့်ခဲ့ရတယ်။ အဲဒီကာလ အတောအတွင်း ဘုရားပေါင်း ငါးသိန်းတစ်သောင်းနှစ်ထောင် နှစ်ကျိပ်ရှစ်ဆူ ပွင့်တော်မူခဲ့တယ်။ ဒီလို သိရခြင်းအားဖြင့် 'ဗုဒ္ဓုပ္ပါဒေါ ဒုလ္လဘော' ဘုရားအဖြစ်ကို ရခဲတယ် ဆိုတာ ပိုပြီး ပေါ်လွင်လာမယ်။ ဂေါတမအရင်က ဘုရားပေါင်း (၅)သိန်းကျော် ပွင့်သွားခဲ့တယ်ဆိုတာကို သိသွားမယ်။ ဘုရား တစ်ဆူကို တစ်ခါရှိခိုးလို့ ကုသိုလ်တစ်ခါရရင် ဘုရားပေါင်း (၅)သိန်းကျော်ကို တစ်ခါရှိခိုးလို့ ကုသိုလ်ပေါင်း ငါးသိန်း ကျော်ရမယ်။ အလားတူပဲ တရား သံဃာတော်တွေ ပူဇော် ရာမှာလဲ တစ်ခါပူဇော်တာနဲ့ ကုသိုလ်ပေါင်း (၅)သိန်းကျော် ရမယ်။ ဒီလို အကျိုးအများကြီး ရမယ်ဆိုတော့ ပူဇော်တဲ့ သူ့ရဲ့ သဒ္ဓါယုံကြည်မှုဟာလဲ အားကောင်းလာမယ်။ စေတနာ ဇောဟာလဲ အားကြီးလာမယ်။ စေတနာဇော အားကောင်း ရင် အားကောင်းသလောက် အကျိုးဟာလဲ ကြီးမြတ်မယ်ဆိုတဲ့ ရည်ရွယ်ချက်နဲ့ရေးတဲ့ ဘုရားရှိခိုးဖြစ်တယ်လို့ မှတ်နိုင်တယ်။

မေး။ ။သမ္ဗုဒ္ဓေဂါထာ ရွတ်လို့ အန္တရာယ် ကင်းပါ သလား။ ဘာ့ကြောင့်ပါလဲ။

ဖြေ။ ။ပရိတ်ရွတ်တဲ့အခါမှာ ပရိတ်တော် ရွတ်ခြင်းဖြင့် အန္တရာယ်ကင်းမယ်လို့လဲ ယုံကြည်မယ်။ ပရိတ်တော်ရဲ့ အနက် အဓိပ္ပာယ်လဲ သိမယ်ဆိုရင် အန္တရာယ်ကင်းသလိုပါပဲ။ သမ္ဗုဒ္ဓေ ဂါထာရွတ်ခြင်းဖြင့် အန္တရာယ်ဟူသမျှ ကင်းရှင်းမယ်လို့ ယုံကြည်မှုလဲရှိမယ်။ ရွတ်တဲ့အခါမှာလဲ ဂါထာရဲ့အနက်အဓိပ္ပာယ် ကို သိမယ်ဆိုရင် တကယ်အန္တရာယ်ကင်းနိုင်ပါတယ်။ ဒီဂါထာ ဟာ ဦးမိုးပြီးမန်းရ မှုတ်ရတဲ့ မန္တန်မဟုတ်ပါဘူး။ ငါးသိန်း တစ်သောင်းနှစ်ထောင် နှစ်ကျိပ်ရှစ်ဆူသော ဘုရားတွေနဲ့ ၎င်း တို့ရဲ့ တရား သံဃာတွေကို ရှိခိုးပြီး ဆုတောင်းတဲ့ ဘုရားရှိခိုး ဖြစ်ပါတယ်။ ဒါကြောင့် သမ္ဗုဒ္ဓေဂါထာနဲ့ သူ့ရဲ့ မြန်မာ အဓိပ္ပာယ်ကို ရေးပေးလိုက်ပါတယ်။

၁။ သမ္ဗုဒ္ဓေ အဋ္ဌဝီသဉ္စ၊ ဒွါဒသဉ္စ သဟဿကေ။
ပဉ္စသတသဟဿာနိ၊ နမာမိ သိရသာမဟံ။

၂။ အပ္ပကာ ဝါဠုကာ ဂင်္ဂါ၊ အနန္တာ နိဗ္ဗုတာ ဇိနာ။
တေသံ ဓမ္မဉ္စ သံဃဉ္စ၊ အာဒရေန နမာမဟံ။

၃။ နမက္ကာရာနုဘာဝေန၊ ဟိတွာ သဗ္ဗေ ဥပဒ္ဒဝေ။
အနေကာ အန္တရာယာပိ၊ ဝိနဿန္တု အသေသတော။

၁။ ငါးသိန်းတစ်သောင်းနှစ်ထောင် နှစ်ကျိပ်ရှစ်ဆူကုန်သော ဘုရားရှင်တို့ကို တပည့်တော် ဦးတိုက်ရှိခိုးပါ၏။

၂။ ဂင်္ဂါသဲစုမက မရေတွက်နိုင်အောင် များပြားသော ပရိနိဗ္ဗာန်ပြုပြီး ဘုရားရှင်များနှင့် ၎င်းတို့၏ တရား



တော် သံဃာတော်များကို တပည့်တော် ရိုသေစွာ ရှိခိုးပါ၏။

၃။ ရှိခိုးရသော အာနုဘော်ကြောင့် အားလုံးသော ဘေးဥပဒ်များ ကင်းရှင်း၍ အန္တရာယ် ဟူသမျှ အကြွင်းမဲ့ ပျောက်ပျက်ပါစေကုန် သတည်း။

မေး။ ။ဘုရားရှိခိုးရင် ဘုရားဂုဏ်ကို အောက်မေ့ရင် အန္တရာယ် ပျောက်ကင်းတယ်လို့ ကျမ်းဂန်အဆိုရှိပါသလား။

ဖြေ။ ။ရတနာသုံးပါးရဲ့ ဂုဏ်တော်တွေကို အောက်မေ့ တဲ့လူဟာ ကြောက်ရွံ့ထိတ်လန့်ခြင်း၊ ကြက်သီးထခြင်းတွေ ပျောက်တယ်လို့ ဘုရားရှင်ကိုယ်တော်တိုင်က ဓဇဂ္ဂသုတ်မှာ ဟောထားပါတယ်။ ဒီလို ပျောက်ရတာလဲ ရတနာသုံးပါးမှာ ရာဂ ဒေါသ မောဟတွေ ကင်းပြီး ကြောက်ရွံ့ ထိတ်လန့်မှု တွေ မရှိလို့ ဖြစ်ပါတယ်လို့ ဘုရားရှင်က အကြောင်းပြထား ပါတယ်။

အဲဒီ ဓဇဂ္ဂသုတ် ဘုရားဟောတရားကို ထောက်ထားပြီး တော့လဲ ဗုဒ္ဓဘာသာ ကျမ်းဂန်တွေကို ပြုစုတော်မူကြတဲ့ ဆရာတော်တွေဟာ ကျမ်းမပြုမီ ရတနာသုံးပါး ဆရာ သမားတွေကို ရှိခိုးကန်တော့ပါတယ်။ ရှိခိုးတဲ့ စာတွေကိုလဲ ကျမ်းဂန်အစမှာ ရေးထည့် ထားကြတယ်။ ကျမ်းပြုပုဂ္ဂိုလ် တွေ ရှိခိုးတဲ့ ရည်ရွယ်ချက်က ရှိခိုးမှုကြောင့် အန္တရာယ်ကင်း ပြီး ကျမ်းကို ပြီးအောင် ရေးနိုင်ဖို့ ဖြစ်ပါတယ်။ စာထဲမှာ ရတနာသုံးပါး ရှိခိုး ရေးထည့်ထားတာကတော့ ကျမ်းဂန် ကို သင်တဲ့ တပည့်တွေလဲ ထိုအတိုင်း ရှိခိုးပြီး အန္တရာယ်တွေ

ကင်းကာ ထိုကျွမ်းဂန်ကို ပြီးအောင် သင်ကြားနိုင်ကြဖို့ ဖြစ် ပါတယ်လို့ ဖွင့်ဆိုကြပါတယ်။

ဒါကြောင့်လဲ သမ္မာသမ္ဗုဒ္ဓ ဘုရားရှိခိုး ဂါထာတွေကို ရွတ်ဆို တာဟာ ဘုရားကို နှုတ်နဲ့ ရှိခိုးတဲ့ ဝစီဝန္ဒနာ ဖြစ်တဲ့အတွက် မုချကေန် အန္တရာယ် ကင်းနိုင်တယ်လို့ ယုံယုံကြည်ကြည် မြန်မာလို အဓိပ္ပာယ်သိပြီး ရွတ်ဖတ် ရှိခိုးနိုင်ကြပါတယ်။

....ဝ....

# (၃)

# တရားရတနာ

မေး။ ။ဘုရားရှင် လေးဆယ့်ငါးဝါ အတွင်း ဟော တော် မူခဲ့တဲ့ ဒေသနာတွေကို ဘာဖြစ်လို့ တရားလို့ ခေါ် သလဲ။

ဖြေ။ ။ဘုရားရှင် ဟောခဲ့တဲ့ ဒေသနာတော်တွေဟာ မျက်နှာလိုက်ခြင်း၊ ဘက်လိုက်ခြင်းမရှိဘဲ ပုဂ္ဂိုလ်မရွေး၊ လူမျိုး မရွေး မိမိရဲ့ ပင်ကိုယ်သဘောတရားအတိုင်း ဖြောင့်ဖြောင့် မတ်မတ် ဆောင်ရွက်တတ်လို့ ဓမ္မတရားလို့ ခေါ်တယ်။ လောဘ ဒေါသတရားတွေဟာ ဘယ်ပုဂ္ဂိုလ် ဘယ်ဒေသမှာပဲ ဖြစ်ဖြစ် လိုချင်တယ်၊ ကြမ်းတမ်းတယ်၊ အဲဒီ လောဘ ဒေါသ ရှိတဲ့ ပုဂ္ဂိုလ်မှန်သမျှဟာ လူပဲဖြစ်ဖြစ်၊ နတ်ပဲ ဖြစ်ဖြစ် ဆင်းရဲ သားပဲ ဖြစ်ဖြစ်၊ သူဌေးသားပဲဖြစ်ဖြစ် အပါယ်ငရဲ ကျရောက် ရမယ်။

အလားတူပဲ ဒါန သီလမှုတွေကို လူပဲလုပ်လုပ်၊ နတ်ပဲ လုပ်လုပ်၊ သူဌေးပဲ လုပ်လုပ်၊ ဆင်းရဲသားပဲ လုပ်လုပ် ကောင်းကျိုး ခံစားရမယ်။ လူချမ်းသာ နတ်ချမ်းသာကို ရမယ်။ အဲဒီလို ပုဂ္ဂိုလ် ဒေသမရွေး မျက်နှာမလိုက် မိမိရဲ့

ရှုလာသဘောအတိုင်း ဆောင်ရွက်တတ်လို့ တရားလို့ ခေါ်တယ်။

မေး။ ။ဘုရားရှင်ဟောခဲ့တဲ့ တရားတွေကို ဘာဖြစ်လို့ ပိဋကသုံးပုံလို့ ခေါ်တာလဲ။

ဖြေ။ ။ပိဋကဆိုတာက ‘တောင်း’၊ ခြင်းတောင်းလို့ အဓိပ္ပာယ်ရတယ်။ ဘုရားရှင်ဟောခဲ့တဲ့ တရားတော်တွေကို တူရာ တူရာ စုပေါင်းပြီး တောင်းထဲကို ထည့်ပိုက်မယ်ဆိုရင် သုတ္တန်တရားတွေက တစ်တောင်း၊ ဝိနည်း တရားတွေက တစ်တောင်း၊ အဘိဓမ္မာတရားတွေက တစ်တောင်း ဆိုပြီး ၃-တောင်းပဲ ရတယ်။ အမျိုးတူရာ စုပေါင်းထားတဲ့ တရားသုံးမျိုးကို ပိဋကသုံးပုံ လို့ ခေါ်တယ်။

မေး။ ။သုတ္တန်တရား ဆိုတာက ဘယ်လို တရားမျိုးလဲ။

ဖြေ။ ။သုတ္တန်တရားဆိုတာက ကာလ ဒေသအကြောင်း အရာ အခြေအနေ ပုဂ္ဂိုလ်အခြေအနေကိုကြည့်ပြီး ဟောတဲ့ တရားမျိုး ဖြစ်တယ်။ ဒါကြောင့် ဒီပုဂ္ဂိုလ်ကို ဟောတဲ့တရား ဟာ ထိုပုဂ္ဂိုလ်နဲ့ ဟပ်ချင်မှ ဟပ်တယ်။ ပိဋက အဂုံဆောင် ရှင်ပေါ်ဦးလရဟန်းကြီးကို တုစ္ဆ=မဂ်ဖိုလ်မရတဲ့ အလကား ရဟန်းလို့ ဘုရားရှင်က ကဲ့ရဲ့တာကို ပုံစံယူပြီး ပိဋကသင်ဖို့ မလိုဘူး၊ တရားအားထုတ်တာသာ ဘုရားအလိုကျ ဖြစ်တယ် လို့ ပြောဆိုထင်မြင်တာမျိုးတွေ ရှိတယ်။ ဘုရားကို သိပ် ကြည်ညိုနေတဲ့ ဝက္ကလိကို ဘုရားရှင်က ငါဘုရားရဲ့ ခန္ဓာ ကိုယ် အပုပ်ကောင်ကြီး ကြည့်နေဖို့ မလိုဘူးလို့ ဟော တယ်။ ရှင်ဝက္ကလိ၊ ရှင်ပေါ်ဦးလတို့က ပဋိပတ်အဆင့်တက်ဖို့ လိုနေလို့ သတိပေးတာ ဖြစ်တယ်။ ကိုယ်က ရှင်ဝက္ကလိ



ရှင်ပေါ်ဦးလတို့လို သဒ္ဓါတရားမျိုးတောင် မရောက်သေးဘဲနဲ့ ဘုရားရှိခိုးဒီခုလို၊ စာသင်ဖို့မလိုဘူးလို့ ပြောလို့ မရဘူး။ ဆိုလိုတာက သုတ္တန်တရားဆိုတာ ပုဂ္ဂိုလ် အခြေအနေအရ ဟောတာဖြစ်လို့ ရှေ့နောက်ညှိနှိုင်းယူရတယ်။

မေး။ ။ဝိနည်းပိဋကဆိုတာက ဘာလဲ။

ဖြေ။ ။ဝိနည်းပိဋကဆိုတာက ရဟန်းတော်တွေ လိုက်နာ ကျင့်ကြံဖို့ ဘုရားရှင် ပညတ်ထားတဲ့ ဘုရားဥပဒေတွေ ဖြစ်တယ်။ ဘုရားရှင်ရဲ့ သာသနာတော်ဟာ အရှည်တည်တံ့ဖို့ အတွက် သံဃာ့အဖွဲ့ကို ဘုရားရှင် ဖွဲ့စည်းခဲ့တယ်။ ဒီသံဃာ့ အဖွဲ့ဟာ သာမန်လူတွေထက် နေထိုင်သွားလာ ကျင့်ကြံမှု စည်းအဆင့်မြင့်ဖို့ လိုတယ်။ အဲဒီလို အဆင့်မြင့်မှုလဲ လူတွေရဲ့ ပစ္စည်းလေးပါးကို အလွယ်တကူ ခံယူရရုံက၊ စားဝတ်နေ ရေး ဒုက္ခကင်းပြီး စာပေ ပရိယတ် သင်ကြားဖို့ရျ၊ တရား ဟော၊ မဂ်ဖိုလ်ရအောင်လဲကျင့်၊ မဂ်ဖိုလ်ရအောင်လဲတရားပြသ နိုင်မယ်။ သာသနာတော် အရှည်တည်တံ့ရေးမှာ ရဟန်း တော်တွေရဲ့ အကျင့်သိက္ခာ စင်ကြယ်ဖို့ဟာ အရေးပါတဲ့ အတွက် သံဃာ့အဖွဲ့ကြီးရဲ့ ကျင့်ဝတ် ဝိနည်းဥပဒေတွေကို ပညတ်ခဲ့တယ်။ ဒီဝိနည်းဥပဒေတွေကို ဝိနည်းပိဋကလို့ ခေါ် ခြင်း ဖြစ်တယ်။

ပါရာဇိကဏ်၊ ပါစိတ်၊ မဟာဝါ၊ စူဠဝါ၊ ပရိဝါဆိုပြီး ဝိနည်း ငါးကျမ်းရှိတယ်။

မေး။ ။အဘိဓမ္မာ ပိဋကဆိုတာက ဘာလဲ။

ဖြေ။ ။အဘိဓမ္မာ ပိဋကဆိုတာက သုတ္တန်ဝိနည်းတွေ ထက် ထူးကဲလေးနက်တဲ့ တရားတော်တွေလို့ ဆိုလိုတယ်။

အဘိဓမ္မာက ပုဂ္ဂိုလ် နေရာ ဒေသတွေကို လုံးဝမကြည့်ဘဲ မဖောက်မပြန် မှန်ကန်တိကျတဲ့ တရားတွေကိုသာ ဟောတယ်။ လောဘဆိုရင် ငွေလောဘ၊ လူလောဘ၊ နတ်လောဘအတွေ့ တူပဲ၊ လိုချင်တဲ့သဘောရှိပြီး အပါယ်ငရဲကို ရောက်စေတတ် တာချည်းပဲ၊ သူဌေးကလူလူ၊ ဆင်းရဲသားကလူလူ၊ လူကလူ လူ၊ နတ်ကလူလူ တရားကိုယ်အားဖြင့်တော့ စေတနာတစ်ခု တည်းပဲ။ အခုလို ပရမတ္ထတရားတွေကို ဟောပြတဲ့ ဒေသနာ ကို အဘိဓမ္မာပိဋကလို့ ခေါ်တယ်။

ဓမ္မသင်္ဂဏီ၊ ဝိဘင်း၊ ဓာတုကထာ၊ ပုဂ္ဂလပညတ်၊ ကထာ ဝတ္ထု၊ ယမိုက်၊ ပဋ္ဌာန်းဆိုပြီး အဘိဓမ္မာ ၇-ကျမ်းရှိတယ်။

မေး။ ။နိကာယ်ငါးရပ်ဆိုတာက ဘာလဲ။

ဖြေ။ ။နိကာယ်ဆိုတာက ပါဠိဘာသာနိကာယက တင် ဆင့် ပြောင်းခေါ်တဲ့ မြန်မာအမည် ဖြစ်တယ်။ အဲဒီ ပါဠိရဲ့ မြန်မာအဓိပ္ပာယ်ကတော့ အစုအပေါင်း ပေါင်းချုပ်လို့ ဆိုလို တယ်။ ဒီဃနိကာယ်၊ မဇ္ဈိမနိကာယ်၊ သံယုတ္တနိကာယ်၊ အင်္ဂုတ္တရနိကာယ်၊ ခုဒ္ဒကနိကာယ်ဆိုပြီး နိကာယ်ငါးရပ်ရှိတယ်။

ဒီဃနိကာယ် ဆိုတာက သုတ်ရှည်တွေကို စုပေါင်းထားတဲ့ သုတ်ရှည်ပေါင်းချုပ် ကျမ်းဖြစ်တယ်။ ဒီဃနိကာယ် ၃-ကျမ်း ရှိတယ်။

သုတ်လတ်တွေ စုပေါင်းထားတဲ့ သုတ်လတ်ပေါင်းချုပ်ကို မဇ္ဈိမနိကာယ်လို့ ခေါ်တယ်။ မဇ္ဈိမနိကာယ် ၃-ကျမ်း ရှိတယ်။

...ရာစပ်ရာ တရားတွေကို စုပေါင်းထားတဲ့ တရားပေါင်း ...ကို သံယုတ္တနိကာယ်လို့ ခေါ်တယ်။ သံယုတ္တနိကာယ် ...ကျမ်းရှိတယ်။

...တစ်ခု တစ်ခု တိုးသွားတဲ့တရားတွေကို စုပေါင်းထားတဲ့ ...တိုး တရားပေါင်းချုပ်ကျမ်းကို အင်္ဂုတ္တရနိကာယ်လို့ ...ခေါ်တယ်။ တစ်ပါးစု တရား၊ နှစ်ပါးစု တရား...၁၁-ပါးစု ...တရားဆိုပြီး အင်္ဂုတ္တိုရ် ၁၁-ကျမ်းရှိတယ်။ စာအုပ်အဖြစ်တော့ ...အုပ် ရှိတယ်။

တရားအတိုတွေကို စုပေါင်းထားတဲ့ တရားအတိုပေါင်း ...ကို ခုဒ္ဒကနိကာယ်လို့ ခေါ်တယ်။ ဒီ ခုဒ္ဒကနိကာယ် ...ဝိနည်းငါးကျမ်းလဲ ပါတယ်။ အဘိဓမ္မာ ၇-ကျမ်းလဲ ပါတယ်။ သုတ္တန်ပိဋကထဲက သုတ္တန်ပါတ်စတဲ့ သုတ္တန် ၁၁-ကျမ်းလဲ ပါတယ်။ ခုဒ္ဒကနိကာယ်မှတစ်ပါး ကျန် နိကာယ် ...ရပ်ဟာလဲ သုတ္တန်ပိဋကချည်းသာ ဖြစ်တယ်။

မေး။ ။အများပြောနေကြတဲ့ သုတ်သုံးကျမ်းဆိုတာ ...ဘာလဲ။

ဖြေ။ ။အမှန်မှာတော့ သုတ္တန် ၂၃-ကျမ်း ရှိပါတယ်။ ...သင်သား ရဟန်းတော်တွေဟာ သုတ္တန် ကျမ်းတွေကို ...ကုန်အစဉ် သင်ယူနိုင်ဖို့ မလွယ်ကူတဲ့အတွက် သုတ် ၂၃- ကျမ်းထဲက အစဆုံး ဒီဃနိကာယ် ၃-ကျမ်းကိုပဲ သင်ရိုး ...သုတ္တန် ပိဋကသုံးကျမ်းလို့ သတ်မှတ်ခဲ့ပါတယ်။ ဒါကြောင့် ...သုတ်သုံးကျမ်းဆိုတာ သင်ရိုးပိဋက သုံးပုံမှာပြတဲ့ ဒီဃနိကာယ် ...၃-ကျမ်းကို ခေါ်တယ်လို့ မှတ်ပါ။ အမှန်တော့ သုတ္တန် ပိဋကဟာ ၂၃-ကျမ်း ရှိပါတယ်။

မေး။ ။ပိဋကသုံးပုံ ဗေဒင်လေးပုံ အကုန်တတ် ဆိုရာမှာ ဗေဒင်လေးပုံဆိုတာ ဘာလဲ။

ဖြေ။ ဗေဒင်လေးပုံဆိုတာက ဘုရားဟော တရား မဟုတ်ပါဘူး။ ဘုရားမပွင့်မီက အိန္ဒိယပြည်မှာရှိနေတဲ့ ဘာသာရေး ကျမ်းကြီးတွေ ဖြစ်ပါတယ်။ သာမ၊ ယဇု၊ အာထဗ္ဗဏဆိုတဲ့ ဝေဒကျမ်းကြီးလေးကျမ်းကို မြန်မာလို ဗေဒင်လေးပုံလို့ ခေါ်တာဖြစ်ပါတယ်။ ခရစ်သက္ကရာဇ် နှစ်ပေါင်း ၁၀၀၀ ကျော်လောက်က အိန္ဒိယပြည်ထဲကို လာခဲ့တဲ့ အာရိယန်လူမျိုးတွေက အဆင့်ဆင့် အာဂုံ လာခဲ့တဲ့ အိန္ဒိယပြည်ရဲ့ အစောဆုံး ဟိန္ဒူဘာသာရေးကျ တွေ ဖြစ်ပါတယ်။

မေး။ ။သာသနာဆိုတာ ဘာလဲ၊ သာသနာ ဘ နှစ်မျိုး ရှိသလဲ။

ဖြေ။ ။သာသနာဆိုတာ အဆုံးအမ သွန်သင်ညွှန်ကြား ချက်လို့ ဆိုတယ်။ ဗုဒ္ဓဘာသာ ဆိုတာက ဘုရားရှင်ရဲ့အ အမ ဩဝါဒလို့ ဆိုလိုတယ်။ သာသနာဟာ သုံးပါးရှိတယ်

၁။ ပိဋကသုံးပုံ နိကာယ်ငါးရပ်ကို သိအောင် သင် လေ့ကျက်တာကို ပရိယတ္တိ သာသနာလို့ ခေ တယ်။

၂။ ဘုရားရှင် ဟောတော်မူတဲ့အတိုင်း ချွန် မဂ်ဖိုလ် တရားကို ရရာရကြောင်း ကျင့်ကြံအားထုတ်တာ ပဋိပတ္တိ သာသနာလို့ ခေါ်တယ်။



၃။ မဂ်လေးပါး၊ ဖိုလ်လေးပါး၊ နိဗ္ဗာန်ဆိုတဲ့ လောကုတ္တရာ ၉-ပါးကို သိမြင်ခံစားရတာကို ပဋိဝေဓ သာသနာလို့ ခေါ်တယ်။

မေး။ ။စာပေ ပရိယတ် သင်ကြားနည်း ဘယ်နှစ်မျိုး ရှိသလဲ။

ဖြေ။ ။သုံးနည်းရှိပါတယ်။

၁။ အလဂဒ္ဒူပမာ မြွေအလမ္မာယ်ဆရာနှင့် တူသော သင်နည်းဆိုတာက မြွေအလမ္မာယ်ဆရာဟာ မြွေဆေး ပီးတယ်ဆိုပြီး မြွေကို ခေါင်းတို့ အမြီးတို့ လုပ်ရာ မြွေက ကိုက်လိုက်တော့ သေရသလို စာပေ ကျမ်းဂန်တွေကို သင်တဲ့လူဟာ သူတစ်ပါးကို ဟိုမေး ဒီမေး ဒုက္ခပေးဖို့ ရည်ရွယ်ချက်နဲ့ သင်တာမျိုး ဖြစ်တယ်။

၂။ နိဿရဏတ္ထ= လွတ်မြောက်ရေးအတွက် သင်နည်း ဆိုတာက စာပေကျမ်းဂန်ကို တတ်အောင် သင်တယ်။ တတ်ပြီးတော့ မိမိကိုယ်တိုင်လဲ ဝဋ်ဒုက္ခက ကင်းလွတ်အောင် ကျင့်မယ်။ သူတစ်ပါးကိုလဲ ဝဋ်ဒုက္ခမှ ကင်းအောင်ကျင့်ဖို့ ညွှန်ကြားပြသမယ်ဆိုတဲ့ ရည်ရွယ်ချက်နဲ့ သင်ကြားနည်းမျိုး ဖြစ်တယ်။

၃။ ဘဏ္ဍာဂါရိက – တရားဘဏ္ဍာစိုး သင်နည်း ဆိုတာက ရဟန္တာ အရှင်မြတ်တွေဟာ မဂ်ဖိုလ် နိဗ္ဗာန်ရပြီး ဖြစ်ပေမယ့် တရားတော်တွေ မပျောက် မပျက်ရအောင် ထိန်းသိမ်းတဲ့ အနေနဲ့ သင်ကြား ခြင်းမျိုး ဖြစ်တယ်။

အဲဒီသုံးမျိုးထဲက နံပါတ် ၂၊ နိဿရဏတ္ထ စာသင်နည်းမျိုး၊ သင်ဖို့၊ သင်ပြီးရင် ကိုယ်တိုင်လဲကျင့်၊ သူတစ်ပါးကိုလဲ ကျင့်အောင် ဟောပြောပြသဖို့ လိုတယ်။

မေး။ ။ပိဋကသုံးပုံ အာဂုံဆောင်ပြီး၊ စာချနေတဲ့ ဆရာတော် ဦးပေါဠိသကို ဘုရားရှင်က အာဖြစ်လို့ တုစ္ဆ–အလကား အသုံးမကျတဲ့ရဟန်းလို့ ဆိုပါသလဲ။

ဖြေ။ ။ပရိယတ် စာပေတတ်မြောက်တယ်ဆိုတာက သာသနာရဲ့ ပထမအဆင့်ပဲ ရှိသေးတယ်။ အဲဒီတဲ့အတိုင်း၊ ကျင့်ခြင်းဆိုတဲ့ ပဋိပတ်လက်တွေ့လုပ်ငန်းကို လုပ်ဖို့လိုတယ်။ လက်တွေ့ ကျင့်ကြံ အားထုတ်မှ ပဋိဝေဓဆိုတဲ့ မဂ်ဖိုလ်နိဗ္ဗာန်ကို ရမယ်။ မဂ်ဖိုလ်နိဗ္ဗာန်ကို ရဖို့ဆိုတာက ဗုဒ္ဓဘာသာရဲ့ အထွတ်အထိပ် ပန်းတိုင်ပဲ၊ ပန်းတိုင်ရောက်အောင် မသွားဘဲ လမ်းတစ်ဝက်မှာ ရပ်နေတဲ့ ဆရာတော် ဦးပေါဠိလကို ဘုရားရှင်က ကဲ့ရဲ့တော်မူခြင်း၊ သတိပေးတော်မူခြင်း ဖြစ်တယ်။

ပရိယတ်သာတတ်ပြီး ပဋိပတ်မကျင့်တဲ့သူဟာ နွားတွေကို အငှားကျောင်းတဲ့ နွားကျောင်းသားနဲ့ တူတယ်။ နွားကျောင်းသားဟာ နွားမတွေကို အစာကျွေး ရေတိုက်ရပေမယ့် နွားနို့တော့ မသောက်ရဘူး။ နွားရှင်ကသာ နို့ကို သောက်ရတယ်။ ဒါကြောင့် နွားအငှား ကျောင်းသူ မဖြစ်စေဘဲ ကိုယ့်နွား ကိုယ်ကျောင်းပြီး ကိုယ်တိုင် နို့ညှစ်စားသူ ဖြစ်ဖို့အတွက် သိအောင်လဲ သင်၊ သိတဲ့ အတိုင်းလဲ ကျင့်ကြံအားထုတ်ပြီး မဂ်ဖိုလ် နိဗ္ဗာန်ဆိုတဲ့ ဗုဒ္ဓဘာသာပန်းတိုင်ကို ရောက်အောင် သွားကြဖို့ လိုပါတယ်။

မေး။ ။စာချအကျော် ဦးပေါဠိလကို ဘုရားရှင် ကဲ့ရဲ့ခဲ့တာကိုတောက်ပြီး၊ ပဋိပတ်ကျင့်ဖို့သာ လိုတယ်။ ပရိယတ်သင်ဖို့



မလိုဘူးလို့ တချို့ ပဋိပတ်သမားတွေ ပြောတာ မှန်ပါသလား။

ဖြေ။ ။မမှန်ပါဘူး။ သာသနာသ ဟိ ပရိယတ္တိမူလံ။ သာသနာတော် သုံးရပ်မှာ ပရိယတ္တိသာသနာဟာ အခြေခံအရင်းအကျဆုံးပဲလို့ အဋ္ဌကထာဆရာ ပြပါတယ်။ ရွှေအိုးကို မြေမှာမြှုပ်ထားမှန်း သိပေမယ့် ဘယ်နေရာမှာ မြှုပ်ထားတယ်၊ ရှိတယ်ဆိုတာကို ညွှန်ပြတဲ့ သိုက်စာမရှိရင် ဒီရွှေအိုးကို မရနိုင်ပါဘူး။ ရွှေတိဂုံဘုရား ရှိမှန်းသိပေမယ့် ဘယ်လမ်းက သွားရမယ်လို့ လမ်းမသိဘဲ ခြေဦးတည့်ရာ စုန်သွားလို့ ရွှေတိဂုံဘုရားကို မရောက်နိုင်ပါဘူး။ ရေကြောင်း လေကြောင်း ခိုင်ရာ အတတ်ပညာတွေ မတတ်ဘဲ ကက်ပတိန်၊ ပိုင်းလော့တွေဟာ ဒီမိရောက်ချင်တဲ့ မြို့ကို သင်္ဘော လေယာဉ်ပျံနဲ့ ရောက်အောင် မသွားနိုင်ပါဘူး။

ဒါကြောင့် သိုက်စာနဲ့တူတဲ့ ကုန်းကြောင်း၊ ရေကြောင်း၊ လေကြောင်း မြေပုံတွေနဲ့တူတဲ့ ပရိယတ္တိစာပေကို မသင်လို့ မရပါဘူး။ ကမ္မဋ္ဌာန်းဆရာတွေဟာလဲ ပရိယတ္တိစာပေထဲမှာ ပါတဲ့အတိုင်း၊ လေ့လာပြီးမှ တရားပြနေကြခြင်းဖြစ်ပါတယ်။ ဒီမိတိုကိုယ်တိုင် မလေ့လာနိုင်ပေမယ့် လေ့လာနေတဲ့ ရဟန်းတော်တွေကို အထင် မသေးသင့်ပါဘူး။ ရဟန်းရှင်တွေ အဆက်ဆက် သင်အံဆောင်ရွက်ခဲ့လို့ ကိုယ်ဟာ ဗုဒ္ဓဘာသာ တရားတွေကို သိခွင့်ရပါလား၊ ပဋိပတ်တွေကို လမ်းမှန်အတိုင်း ကျင့်နိုင်ပါလားလို့ နှလုံးသွင်းပြီး ပရိယတ်စာပေ သင်အံနေတဲ့ ရဟန်း၊ သံဃာတော်တွေကို တတ်နိုင်သမျှ ထောက်ပံ့ အားပေးသင့်ပါတယ်။

မေး။ ။ပရိယတ္တိ မသင်ဘဲ ဆရာကောင်းထံ နည်းခံပြီး ပဋိပတ်တရား အားထုတ်ရင် မဂ်ဖိုလ်ရနိုင်ပါသလား။

ဖြေ။ ။ရနိုင်ပါတယ်။ လူတွေက အခြေခံစရိုက် အမျိုးမျိုးရှိတဲ့အတွက် ကမ္မဋ္ဌာန်း ၄၀-ဟောထားပေမယ့် တကယ်တော့ အဲဒီ ၄၀-ထဲက တစ်ခုတည်းကို စွဲစွဲမြဲမြဲ ကျင့်ရုံနဲ့ သမာဓိရနိုင်ပါတယ်။ သမာဓိ အားကောင်းလာလို့ ဝိပဿနာကို ကူးလိုက်ရင် မဂ်ဖိုလ်ကို ရနိုင်ပါတယ်။

မေး။ ။နည်းကောင်း တစ်ခုကို ယူပြီး အားထုတ်ရုံနဲ့ မဂ်ဖိုလ်ကို ရနိုင်တယ်ဆိုရင် ပရိယတ္တိစာပေကို အပင်ပန်းခံပြီး သင်ဖို့ လိုပါသေးသလား။

ဖြေ။ ။လိုပါတယ်။ အိမ်တစ်အိမ်ပေါ်ကို တက်တဲ့အခါ နောက်ဆုံး လှေကားအထစ်ကို နင်းပြီး အိမ်ပေါ်ကို ရောက်ရတယ်။ အောက်ဆုံးနဲ့ အလယ်လှေကားထစ်တွေက နေပြီး အိမ်ပေါ် လှမ်းတက်လို့ မရဘူး။ ဒီလိုဖြစ်လို့ အောက်ဆုံးလှေကားထစ် အလယ် လှေကားထစ်တွေဟာ အိမ်ပေါ် ရောက်ဖို့ မလိုအပ်ဘူးလို့ မဆိုနိုင်ပါဘူး။ အောက်ဆုံးထစ် အလယ်ထစ်တွေ မရှိရင် အပေါ်ဆုံး လှေကားထစ်ကို ဘယ်လို ရောက်မလဲ။

လူတွေဟာ သရက်ပင်ကို မစားကြဘူး။ ဒါပေမယ့် သရက်ပင်ကို ဒုက္ခခံ မစိုက်ဘဲနဲ့ သရက်သီး ဘယ်ကရမလဲ။ သရက်ပင်ရှိမှသာ သရက်သီး ရမှာပေါ့။ သရက်ပင်ကို ကိုယ်တိုင်မစိုက်ဘဲ ဝယ်စားလဲရတာပဲလို့ ပြောနိုင်တယ်။ သရက်သီး ဝယ်တယ်ဆိုတာ သရက်ပင်စိုက်ထဲ့လူကို အဖိုးအခ ပေးနေရတာပဲ ဖြစ်တယ်။ အခု ကမ္မဋ္ဌာန်းဆရာကို ပစ္စည်းလေးပါး



...ဒါန်းပူဇော်နေတာ ပရိယတ်အားထုတ်နေတဲ့ သံဃာတော်...ကို လှူဒါန်းထောက်ပံ့နေတာဟာ သရက်ဥယျာဉ်ပိုင်ရှင်ကို ...ကိသီးဖိုး ပေးနေရခြင်းပဲ ဖြစ်တယ်။

ဒါကြောင့် ပဋိပတ်သမားတွေဟာ ပရိယတ်ကို မပစ်ပယ် ...။ ကိုယ်တိုင် စိုက်နိုင်သလောက်စိုက်၊ မစိုက်နိုင်ရင် စိုက် ...တဲ့ ပုဂ္ဂိုလ်တွေ စိုက်အား ရှိအောင် ပစ္စည်း လေးပါးနဲ့ ...ထောက်ပံ့အားပေးကြဖို့ အထူး လိုအပ်ပါတယ်။

မေး။ ။နိကာယ်ငါးရပ် ပိဋကတ်သုံးပုံဟာ ဘုရားရှင် ...ကိုယ်စား ဖြစ်တယ်ဆိုတာ မှန်ပါသလား။

ဖြေ။ ။မှန်ပါတယ်။ ဘုရားရှင် ကိုယ်တော်တိုင် က ...းပဲ မိန့်ကြားခဲ့ပါတယ်။ မြတ်စွာဘုရားသခင် ပရိနိဗ္ဗာန် ...န်းမှာ ညီတော် အာနန္ဒာဟာ ငိုကြွေးမှုဆွေးနေပါတယ်။ ...အခါမှာ ဘုရားရှင်က "ချစ်သား အာနန္ဒာ၊ ငါဘုရား ...ဗ္ဗာန် စံသွားရင် သင်တို့မှာ ဆရာ မရှိတော့ပြီ ဆိုပြီး ...ငယ်နေပါသလား။ အားမငယ်နဲ့။ ငါဘုရား မရှိပေမယ့် ...ဟောခဲ့တဲ့ သုတ် အဘိဓမ္မာနဲ့ ဝိနည်းတရားတွေဟာ ငါ ...ရား၏ ကိုယ်စား သင်တို့ရဲ့ဆရာ ဖြစ်ပေလိမ့်မယ်"လို့ ဟော ...ပါတယ်။

ဘုရားရှင် ဟောတော်မူခဲ့တဲ့ အတိုင်း ယခု သာသနာ ၂၅၀၀-ကျော်လာသည့် အထိ နိကာယ်ငါးရပ် ပိဋကတ် ...လိုက်ပဲ ဘုရားရှင် ကိုယ်စား ဆောင်ရွက်နေတဲ့ အတွက် ...သာသနာတော်ဟာ အခုအချိန်အထိ တည်တံ့နေခြင်း ဖြစ် ...ပါတယ်။

မေး။ ။ဗုဒ္ဓဘာသာတွေအတွက် အဓိက အားကိုးရာ
ဘာလဲ။

ဖြေ။ ။ဗုဒ္ဓဘာသာတွေရဲ့ အဓိက အားကိုးရာက တရား
တော်နဲ့ ကိုယ့်ကိုယ်ကို ဖြစ်ပါတယ်။ သံယုတ်၊ သုတ်မဟာဝ
သုတ်ပါထေယျ၊ အပါဠိနဲ့၊ ဓမ္မပဒပါဠိတော်တွေမှာ အတ္တ
ဒီပါ ဘိက္ခဝေ ဝိဟရထ၊ အတ္တသရဏာ မာ အညသရဏာ
ဓမ္မဒီပါ ဘိက္ခဝေ ဝိဟရထ ဓမ္မသရဏာ၊ မာ အညသရဏာ
တရားတော်နဲ့ ကိုယ့်ကိုယ်ကိုသာ ကျွန်းကြီးသဖွယ် မှီခိုအား
ထားကြ၊ အားကိုးကြ၊ အခြား ဘာကိုမှ ဘယ်သူ့ကိုမှ အား
မကိုးကြနဲ့လို့ ဟောထားပါတယ်၊ တရားကို သိအောင်လုပ်ပြီး
ကိုယ်တိုင် ကျင့်ကြံကြလို့ ဆိုလိုတယ်။

ဒီနေရာမှာ ဂဏကမောဂ္ဂလာန်နဲ့ ဘုရားရှင်ရဲ့ အမေးကို
သိဖို့ လိုတယ်။

ဂဏကမောဂ္ဂလာန်– မြတ်စွာဘုရား၊ ဘုရားရှင်ရဲ့ တပည့် သာ
ဝက အားလုံးဟာ တရားထူး ရကြပါ
သလား။

ဘုရားရှင်– အားလုံး တရားထူး မရကြပါဘူး၊ ရသူ
လဲရှိ၊ မရသူလဲ ရှိပါတယ်။

ဂဏကမောဂ္ဂလာန်– ဘယ့်နှယ်လဲ ဘုရားရှင် ကိုယ်တိုင် ဟော
ကြား ပြသနေပါလျက် ဘာဖြစ်လို့ အား
လုံး တရားထူး မရပါသလဲ။

ဘုရားရှင်– ဒီကိစ္စမှာ သင့်ကိုပဲ ငါ ပြန်မေးဦးမယ်။
သာဝတ္ထိပြည် သွားချင်တဲ့ လူနှစ်ယောက်
က ဘယ်လမ်းက သွားရမလဲလို့ သင့်ကို



လာမေးရင် သင်က လမ်းမှန်ကို ညွှန်ပြ
မယ်။ တစ်ယောက်ကတော့ သင်ညွှန်တဲ့
လမ်းအတိုင်း သွားတယ်။ တစ်ယောက်
ကတော့ သင်ညွှန်တဲ့လမ်းအတိုင်း မသွား
ဘူး။ နှစ်ယောက်စလုံး သာဝတ္ထိပြည်ကို
ရောက်ပါ့မလား။

ဂဏကမောဂ္ဂလာန် –နှင်ယောက်လုံး မရောက်ပါ၊ တပည့်တော်
ညွှန်တဲ့အတိုင်း သွားသူသာ ရောက်ပါ
မယ်။ ကျန်တစ်ယောက်ကတော့ မရောက်
ပါဘူး။

ဘုရားရှင် – အေး–ထိုနည်းအတူပဲ၊ ငါဘုရား ညွှန်
ကြား ပြသတဲ့အတိုင်း လိုက်နာ ကျင့်ကြံ
သူသာ တရားထူးကို ရပြီး မလိုက်နာ
မကျင့်ကြံသူတွေကတော့ တရားထူး မရ
ပါဘူး။ ငါဘုရားက လမ်းမှန် ညွှန်ပြသူ
သာ ဖြစ်တယ်၊ ငါဘုရား ညွှန်ကြားတဲ့
အတိုင်း မလိုက်နာသူတွေ အဖို့တော့ ငါ
ဘုရားကော ဘာတတ်နိုင်မှာတုန်း။

ဂဏကမောဂ္ဂလာန် –ဗုဒ္ဓမြတ်စွာဟာ ကယ်တင်ရှင်မဟုတ်၊ လမ်း
မှန် ညွှန်ပြသူသာဖြစ်ကြောင်း၊ လမ်းမှန်
အတိုင်း လိုက်နာ မလိုက်နာ ဆိုတာက
လူသားရဲ့ တာဝန်ဖြစ်ကြောင်း သဘော
ပေါက်ပါပြီ ဘုရား။

အထက်ပါ ဘုရားရှင်နဲ့ ဂဏမောဂ္ဂလာန် မေးဖြေပုံကို သဘောပေါက်ရင် တရားတော်နှင့် ကိုယ့်ကိုယ်ကိုသာ အားကိုးရာ ဖြစ်တယ်ဆိုတာ သဘောပေါက်ကြပါလိမ့်မယ်။

မေး။ ။ဘုရားရှင်နဲ့ သံဃာတော်တွေကို ဘာဖြစ်လို့ ကိုးကွယ်နေကြသလဲ။

ဖြေ။ ဒီနေရာမှာ ကိုးကွယ်နဲ့ အားကိုးဆိုတဲ့ မြန်မာစကားနှစ်လုံးကို ကွဲကွဲပြားပြား သိဖို့ လိုတယ်။ အားကိုးတယ် ဆိုတာက သူ့ဆီမှာ တစ်စုံတစ်ရာရဖို့ မျှော်မှန်းတာ ဖြစ်တယ်။ ကိုးကွယ်တယ်ဆိုတာက သူ့ရဲ့ ကျေးဇူးဂုဏ်တွေကို အောက်မေ့ပြီး အလေးအမြတ်ပြုတာ ပူဇော်တာ ဖြစ်ပါတယ်။

လူတွေ အားကိုး အားထားပြုရတဲ့ တရားတွေဟာ ဘုရားရှင်ရဲ့ ဟောကြားချက်တွေ ဖြစ်တယ်။ ဒီတရားမှန်တွေကို ဟောပြောပြသခဲ့တဲ့ ကျေးဇူးရှင်ဖြစ်လို့ အဲဒီကျေးဇူးဂုဏ်တွေကို အောက်မေ့ပြီး အလေးအမြတ်ပြုခြင်း ပူဇော်ကိုးကွယ်ခြင်း ဖြစ်တယ်။ ဘုရားရှင်ဟောခဲ့တဲ့ တရားတွေဟာ သံဃာတော်တွေသာ အဆက်ဆက် မဆောင်ရွက်ခဲ့ဘူးဆိုရင် အခု သာသနာ ၂၅၀၀-ကျော်အထိ တည်တံ့နေမှာ မဟုတ်ဘူး။ ဘုရားရှင်ရဲ့ တရားတော်တွေ အရှည်တည်တံ့အောင် သင်အံ လေ့ကျက်ဆောင်ရွက်ခဲ့တဲ့ ဆောင်ရွက်နေတဲ့ ကျေးဇူးဂုဏ်တွေကို အောက်မေ့ပြီး သံဃာတော်တွေကို ကိုးကွယ်ရခြင်း၊ ပူဇော်ရခြင်း ဖြစ်ပါတယ်။

ဒါကြောင့် ရတနာသုံးပါးအနက်က ဘုရားရတနာနဲ့ သံဃာရတနာဟာ ကိုးကွယ်ရာ ပူဇော်ရာသာ ဖြစ်တယ်။ အားကိုးရာ မဟုတ်ဘူး။ တရားရတနာကတော့ ကိုးကွယ်ရာ



…ဇော်ရာလဲ ဟုတ်တယ်၊ အားထားရာ ပူဇော်ရာလဲ ဟုတ်တယ်၊ …ထားရာ လက်တွေ့ကျင့်ကြံ အားထုတ်ရာလဲ ဟုတ်တယ် …လို့ ခွဲခြား နားလည်ရမယ်။

မေး။ ။ဓမ္မံ ပူဇေမိမှာ ဘာတွေကို ဘာ့ကြောင့် ဓမ္မ= တရားလို့ ခေါ်သလဲ။

ဖြေ။ ။သောတာပတ္တိမဂ်၊ သကဒါဂါမိမဂ်၊ အနာဂါမိမဂ်၊ အရဟတ္တမဂ် ၄-ပါး၊ သောတာပတ္တိဖိုလ်၊ သကဒါဂါမိဖိုလ်၊ အနာဂါမိဖိုလ်၊ အရဟတ္တဖိုလ်ဆိုတဲ့ ဖိုလ်လေးပါး၊ …မက်စွဲလမ်းတတ်တဲ့ တဏှာကုန်ခန်းရာ နိဗ္ဗာန်နဲ့ နိကာယ် …ပါးရပ် ပိဋကတ်သုံးပုံဆိုတဲ့ ပရိယတ္တိ ဓမ္မတွေကို ပါဠိလို ဓမ္မ၊ မြန်မာလို တရားလို့ ခေါ်တယ်။

ဒီ မဂ်ဖိုလ် နိဗ္ဗာန် တစ်ခုခုကို ရရှိထားတဲ့ ပုဂ္ဂိုလ်နဲ့ ပရိယတ္တိ ဓမ္မကျမ်းကို သင်အံနေတဲ့ပုဂ္ဂိုလ်ကို အပါယ်လေးပါးသို့ မကျအောင် ဆောင်ထား ဆွဲထားနိုင်တဲ့ အတွက်ကြောင့် …ဒီ တရား ၁၀-ပါးကို ပါဠိလို ဓမ္မ၊ မြန်မာလို တရားလို့ ခေါ်တယ်။

မေး။ ။သတ္တဝါတွေကို အပါယ်လေးပါး မကျအောင် တရားတော် ၁၀-ပါးက ဘယ်လို ဆောင်ထားပါသလဲ။

ဖြေ။ ။အပါယ်လေးပါး ကျတော့မယ့် သတ္တဝါတွေကို တရားတော်တွေက အတင်း ဆွဲထားတာ မဟုတ်ပါဘူး။ အပါယ်လေးပါးကို ကျရောက်စေနိုင်တဲ့ ကိလေသာခေါ် တရားဆိုး တရားညစ်တွေ ရှိတယ်။ မဂ်တရားလေးပါးက …ဒီ ကိလေသာ တရားဆိုးတွေကို လုံးဝ ဖြစ်ခွင့်မရအောင် အကြွင်းမဲ့ ပယ်ဖျက်ပစ်တယ်။ အပါယ်လေးပါးကို ရောက်

ခနိုင်တဲ့ အကြောင်း၊ ကိလေသာတွေကို ဖျက်ဆီး ပယ်သတ်ပစ်လို့ အပါယ်မကျတော့တာကိုပဲ တရားတွေက အပါယ်မကျအောင် ဆောင်တယ်လို့ ခေါ်တာပါပဲ။

မေး။ ။မဂ်တရား ဖိုလ်တရားကသာ အပါယ် မကျအောင် တားဆီးနိုင်ပါသလား။ အခြား ကုသိုလ်တွေက မတားဆီးနိုင်ဘူးလား။

ဖြေ။ ။မဂ်လေးပါးထဲမှာ တစ်ပါးပါးကိုရတဲ့ လူဟာ အပါယ်လေးဘုံကို ဘယ်နည်းနဲ့မှ မကျနိုင်တော့ပါဘူး။ ဒါကြောင့် မဂ်တရားက အပါယ်တံခါးကို တကယ် ပိတ်နိုင်တယ်လို့ မှတ်ရပါမယ်။

ဒါန၊ သီလ၊ ဘာဝနာ ကုသိုလ်တွေကလဲ အပါယ် လေးပါး မကျရောက်အောင် လူ့ပြည်၊ နတ်ပြည်၊ ဗြဟ္မာ့ပြည် ရောက်အောင် ပို့ဆောင်နိုင်ပါတယ်။ ဒါပေမယ့် ဒါန၊ သီလ၊ ဘာဝနာကုသိုလ်တွေဟာ ကိလေသာတွေကို ခဏတဖြုတ်သာ ပယ်သတ်ထားနိုင်တဲ့အတွက် အခွင့်သင့်ရင် ကိလေသာ တရားဆိုးတွေက ဝင်ရောက် လာနိုင်ပါတယ်။ အဲဒီ ကိလေသာ တရားဆိုးတွေက အားကောင်းနေတဲ့သူအဖို့ ဒါန၊ သီလ ကုသိုလ်တွေရှိပေမယ့် အပါယ်ကို လုံးဝမရောက်ဘူးလို့ အာမခံနိုင်ပါဘူး။ လောကီကုသိုလ်တွေက စိတ်မချရသေးဘူးလို့ ဆိုပါတယ်။ ဒါကြောင့် မဂ်တရား ဖိုလ်တရား နိဗ္ဗာန်တရားတွေကိုသာ ဓမ္မလို့ပြခြင်း ဖြစ်ပါတယ်။

မေး။ ။တရားတော်ကို ဘုရားရှင်ကိုယ်တိုင်က အလေးအမြတ် ပူဇော်ရတယ်ဆိုတာ မှန်ပါသလား။



ဖြေ။ ။မှန်ပါတယ်။ ဘုရားရှင်ဟာ သစ္စာလေးပါးကို မရှိဘဲ ကိုယ်ပိုင်ဉာဏ်နဲ့ ထိုးထွင်းသိမြင်ပြီး ဘုရားအဖြစ်သို့ ရောက်တော်မူတဲ့အခါ ဘုရားရှင်က ရိုသေ လေးစားရမယ့် ပုဂ္ဂိုလ် တစ်ယောက်မှ မရှိတော့ဘူး။ တစ်စုံတစ်ခုကို အလေး ထားပြီး နေရတာ ပေါ့လျှော့ ဖြစ်နေတဲ့အတွက် "ငါ ရိုသေ လေးစားရမယ့် ပုဂ္ဂိုလ်တော့ မရှိတော့ဘူး။ ငါ သိပြီးတဲ့ တရားတွေကိုပဲ ရိုသေလေးစား၊ မြတ်နိုးပူဇော်နေရရင် ကောင်းမယ်"လို့ အကြံတော်ဖြစ်ပြီး ဘုရားရှင်ဟာ တရားတော်ကို ရိုသေလေးစား မြတ်နိုးပူဇော်နေပါတယ်။

မေး။ ။ဘုရားရှင်ဟာ တရားတော်တွေကို ဘယ်လိုပူဇော်ပါသလဲ။

ဖြေ။ ။ဘုရားရှင်ဟာ တရားတော်တွေကို ဆွမ်း၊ ပန်း၊ ရေမွှေး စတဲ့ ပစ္စည်းဝတ္ထုတွေနဲ့ ကပ်လှူပူဇော်တာ မဟုတ်ပါဘူး။ လက်အုပ်ချီမိုး ရှိခိုးဝတ်ချပြီးတော့ ကန်တော့တာလဲ မဟုတ်ပါဘူး။ တရားတော်တွေကို ဘယ်တလဲလဲ ဆင်ခြင် အောက်မေ့တယ်။ တရားတော်တွေဟာ အစ၊ အလယ်၊ အဆုံး ကောင်းခြင်းသုံးပါးနဲ့ ပြည့်စုံတယ် စသည်ဖြင့် ချီးကျူး ဘာဝနာပြုတယ်။ တရားတော်ကို ရိုသေလေးစား မြတ်နိုး တယ်။ အဲဒီလို ချီးမွမ်းခြင်း၊ လေးစားမြတ်နိုးခြင်းကိုပဲ ဘုရားရှင်က တရားတော်ကို ပူဇော်တယ်လို့ ခေါ်တာပဲ။

မေး။ ။ဗုဒ္ဓဘာသာတွေဟာ ဘုရားရှင်ကို ဆွမ်း၊ ရေ၊ ပန်း၊ ဆီမီးတွေနဲ့ ပူဇော်တယ်။ ကျင့်ဝတ် ပဋိပတ်နဲ့ ပူဇော်တယ်။ သံဃာတော်တွေကို ပစ္စည်းလေးပါးနဲ့ ပူဇော်တယ်။ တရားတော်ကို ဘယ်လို ပူဇော်ရမလဲ။

ဖြေ။ ။ဒီမေးခွန်းမျိုးကို ဘုရားရှင် သက်တော်ထင် ရှိစဉ်မှာ ပုဏ္ဏားတစ်ယောက်က မေးဖူးတယ်။ အဲဒီ ဘုရားရှင်က တရားတော်ကို ပူဇော်ချင်ရင် တရားတော် သင်အံ ဆောင်ရွက် တတ်သိတဲ့ ပုဂ္ဂိုလ်ကို ပူဇော်ရမယ် ဟောတယ်။ ဒါကြောင့် သံဃာတော် တစ်ပါးကို ပူ လိုက်တာဟာ ဒီသံဃာတော်ရဲ့ အကျင့်သီလတွေကို ပူ ရာလဲ ရောက်တယ်။ ဒီသံဃာတော်ရဲ့ သန္တာန်မှာ ကိ နေတဲ့ တရားတော်ကို ပူဇော်ရာလဲ ရောက်တယ်။ တရား တွေဟာ ဘုရားကိုယ်စား ဖြစ်တယ်ဆိုတော့ ဘုရားရှ ပူဇော်ရာ ရောက်တယ်။ ဒါကြောင့် သံဃာတစ်ပါးကို ပူဇော်တာဟာ ရတနာသုံးပါးကို တစ်ပြိုင်တည်း ရှိခိုးပူ ရာ ရောက်တယ်လို့ မှတ်နိုင်ပါတယ်။

....o....

(၄)

# သံဃာရတနာ

မေး။ ။သံဃာဆိုတာ ဘာလဲ။ ဘာကြောင့် သံဃာ ခေါ်သလဲ။

ဖြေ။ ။သောတာပတ္တိမဂ်၊ သကဒါဂါမိမဂ်၊ အနာဂါမိမဂ်၊ အရဟတ္တမဂ် ဆိုတဲ့ မဂ်လေးပါးကို ရတဲ့ ပုဂ္ဂိုလ် ၄-ယောက် (မဂ္ဂဋ္ဌာန် လေးယောက်)နဲ့ သောတာပတ္တိဖိုလ်၊ သကဒါဂါမိဖိုလ်၊ အနာဂါမိဖိုလ်၊ အရဟတ္တဖိုလ် ဆိုတဲ့ ဖိုလ်လေးပါးကိုရတဲ့ ပုဂ္ဂိုလ်(ဖလဋ္ဌာန်လေးယောက်) စုစုပေါင်း ပုဂ္ဂိုလ်(၈)ယောက်ကို သံဃာလို့ ခေါ်တယ်။

အပါယ်လေးပါးကို ကျရောက်စေတတ်တဲ့ ကိလေသာ တရားဆိုးတွေကို ပယ်သတ်နိုင်လို့ ဘုရားရှင်၏ အဆုံးအမကို သာ လိုက်နာကြပြီး အယူသီလ တူညီကြလို့ ပုဂ္ဂိုလ် (၈) ယောက်ကို သံဃာလို့ ခေါ်တယ်။

မေး။ ။သံဃာ ဘယ်နှစ်မျိုး ရှိသလဲ။

ဖြေ။ ။အရိယာ သံဃာနဲ့ သမ္မုတိ သံဃာဆိုပြီး သံဃာ နှစ်မျိုးရှိတယ်။ မဂ္ဂဋ္ဌာန်လေးယောက်၊ ဖလဋ္ဌာန်လေးယောက်၊

ပေါင်း (၇) ယောက်ကို ကိလေသာ အညစ်အကြေးတွေ လုံးဝမရှိ၊ ဖြူစင်သန့်ရှင်းမြင့်မြတ်တဲ့ အတွက် အရိယာ သံဃာလို့ ခေါ်တယ်။ အရိယာသံဃာကို ပရမတ္ထသံဃာလို့လဲ ခေါ်သေးတယ်၊ ဒက္ခိဏေယျသံဃာလို့လဲ ခေါ်သေးတယ်။ မဂ်ဖိုလ်ကို မရသေးဘဲ မဂ်ဖိုလ် ရရာရကြောင်း တရားတော်တွေကို သင်အံနေဆဲဖြစ်တဲ့ ရဟန်းတော်တွေကိုတော့ ဘုရားဝိနည်းတော်အရ သံဃာလို့ ခေါ်ဝေါ် သမုတ်ထားတဲ့အတွက် သမ္မုတိသံဃာလို့ ခေါ်တယ်။

မေး။ ။သံဃံ ပူဇေမိ သံဃံ သရဏံ ဂစ္ဆာမိမှာ ဘယ်သံဃာကို ပူဇော်ဆည်းကပ်ရမလဲ။

ဖြေ။ ။သံဃံ ပူဇေမိ သံဃံ သရဏံ ဂစ္ဆာမိမှာ အရိယာသံဃာ၊ ပရမတ္ထသံဃာ၊ ဒက္ခိဏေယျသံဃာ (၃) ပါးကို သံဃာအဖြစ် ပူဇော်ဆည်းကပ်ရမယ်။ ကင်္ခါဝိတရဏီဋီကာ ကျမ်းပြု ဆရာတော်က မလှူမီ ရှေ့အဖို့မှာဖြစ်တဲ့ လှူဒါန်းလိုတဲ့ စေတနာကို ဒါနစေတနာအဖြစ် သတ်မှတ်ရသလို မဂ်ဖိုလ် မရသေးသော်လည်း ရအောင် အားထုတ်နေဆဲဖြစ်တဲ့ ပုထုဇဉ် သံဃာတွေကိုလဲ သံဃာအဖြစ် ပူဇော်ရမယ်။ ကိုးကွယ်ဆည်းကပ်ရမယ်လို့ ဆိုပါတယ်။ ဒီအဆိုကို မဏိမဉ္ဇူသာဋီကာကျမ်းပြု ဆရာတော်က ထောက်ခံတယ်။ ဆရာတော်ရဲ့ အကြောင်းပြချက်ကတော့ ကလျာဏပုထုဇဉ် ပုဂ္ဂိုလ်ကို နိဗ္ဗာန်ရောက်အောင် ကျင့်နေတဲ့ သေက္ခပုဂ္ဂိုလ် စာရင်းထဲမှာ ထည့်သွင်းရလို့ပဲလို့ အကြောင်းပြတယ်။

မေး။ ။ရဟန်း၊ ဦးပဉ္စင်း၊ ဘုန်းကြီး၊ ဆရာတော် ဆိုတဲ့ ဝေါဟာရတွေရဲ့ အဓိပ္ပာယ်ဟာ ဘယ်လိုရှိပါသလဲ။



ဖြေ။ ။(က) အလင်္ကာရဆိုတဲ့ ပါဠိပုဒ်မှာ ရှေ့က (အ)နဲ့ နောက်က (ရ)ကို ဖြုတ်ပြီး လင်္ကာဆိုတဲ့ မြန်မာစကားလုံး ဖြစ်လာသလို အရဟန္တဆိုတဲ့ ပါဠိပုဒ်မှာ ရှေ့က (အ)နဲ့ နောက်က (တ) ကို ဖြုတ်ပြီး ရဟံ—ရဟန်းလို့ မြန်မာ ဝေါဟာရ ဖြစ်လာတယ်။ အရဟန္တဆိုတဲ့ မူလပါဠိပုဒ်က အရိယာ (၈) ယောက်မှာ နောက်ဆုံး အဆင့်အမြင့်ဆုံး ရဟန္တာပုဂ္ဂိုလ်ကို ဆိုလိုပေမယ့် မြန်မာဝေါဟာရ ဖြစ်လာတော့ ရိုးရိုးပုထုဇဉ် ဘုန်းကြီးတွေကို ရဟန်းလို့ ခေါ်တယ်။

(ခ) ရဟန်းအဖြစ် ခံယူတဲ့အခါ အင်္ဂါငါးပါး၊ အချက်အလက် ငါးခုနဲ့ ပြည့်စုံရတယ်။ အဲဒီ အင်္ဂါငါးပါးကို ပါဠိလို ပဉ္စင်္ဂလို့ ခေါ်တယ်။ ပဉ္စင်္ဂက ပဉ္စင်ဖြစ်သလို ပဉ္စင်က ပဉ္စင်းလို့ မြန်မာ ဝေါဟာရ ဖြစ်လာတယ်။ လေးစားမှုနဲ့ ရှေ့က (ဦး)ထည့်လိုက်တော့ ဦးပဉ္စင်း ဖြစ်လာတယ်။

ရဟန်းလို့ အဓိပ္ပာယ်ရတဲ့ ပါဠိစကား ဥပသမ္ပန္နပုဒ်က ဥပသမ်း ဥပစမ်း ဥပစင်းလို့ ပြောင်းလာတယ်လို့လဲ ကြံဆကြတယ်။ ယုတ္တိလဲရှိပါရဲ့၊ ယခု အသံထွက်နဲ့လဲ ညီပါရဲ့၊ ဒါပေမယ့် ယခုရေးနေတဲ့ ဦးပဉ္စင်းဆိုတဲ့ စာလုံးပေါင်းနဲ့က မကိုက်တော့ဘူး။ ရဟံက ရဟန်းဖြစ်သလို ဥပစမ်းက ဦးပစင်း ဖြစ်လာတယ်ဆိုရင် ဖြစ်နိုင်တဲ့ ရေးထုံးပါပဲ။

(ဂ) ဘုန်းကြီးဆိုတဲ့ ဝေါဟာရကတော့ ဘုန်းကံကြီးမားသူလို့ အဓိပ္ပာယ်ရတယ်။ ပဗ္ဗဇိတဘာဝေါ ဒုလ္လဘော=ရဟန်းအဖြစ်ဆိုတာ ရခဲတယ်။ ရဟန်းအဖြစ်ရတဲ့ ပုဂ္ဂိုလ်တွေဟာ ရှေးဘုန်း ရှေးကံရှိလို့ ယူဆပြီး ဘုန်းကြီးလို့ ခေါ်တာပါပဲ။

တစ်ခါတစ်ရံ ဘုန်းကြီးအစား ကိုယ်တော်ကို သုံးကြ
တောင်ကျောင်း ကိုယ်တော်၊ ဆွမ်းခံကိုယ်တော်၊ မန္တ
ကိုယ်တော်၊ ကိုယ်တော်တို့ ဘယ်က ကြလာသလဲ။

(ဃ) ဘုရင့်ရဲ့ သားသမီးတွေကို သားတော်၊ သမီး
ခေါ်သလို ဘုရင် ကိုးကွယ်ခံရတဲ့ ဘုန်းကြီးကိုလဲ
ဆရာတော်၊ နောက်တော့ ဆရာတော်လို့ ခေါ်တယ်။
မရှိလို့ ဘုရင့်ဆရာတော် မရှိပေမယ့် သက်တော် ဝါ
ကြီးတဲ့ ကျောင်းထိုင်ဘုန်းကြီးတွေကိုလဲ ဆရာတော်လို့
ကြတယ်။ ဘုရင့်ဆရာ မဟုတ်ပေမယ့် သူဌေးသားတွေ၊
ကြီးတွေရဲ့ ဆရာဖြစ်လို့ ဆရာတော်လို့ ခေါ်တယ်ဆို
မမှားပါဘူး။

အားလုံး ခြုံပြောရရင်တော့ သက်တော် ဝါတော်
ကိုယ်ပိုင်ကျောင်းမရှိသေးတဲ့ မိန္နိဘု သာသနာ့ ဝန်ထမ်း
ကို ရဟန်း၊ ဦးပဉ္စင်းလို့ ခေါ်ပြီး ကျောင်းပိုင်ရှိပြီး သက်
ဝါတော်ကြီးတဲ့ သာသနာ့ဝန်ထမ်းတွေကို ဘုန်းကြီး
တော်လို့ ခေါ်တယ်။ ဒါကြောင့် ရဟန်းခံတယ်၊ ပဉ္စင်းခံ
လို့သာ သုံးပြီး ဘုန်းကြီးခံတယ်၊ ဆရာတော်ခံတယ်လို့
မသုံးရဘူး။

မေး။ ။ရဟန်းခံတယ်၊ ပဉ္စင်းဘောင် တက်တယ်ဆို
ဘာအဓိပ္ပာယ်လဲ။

ဖြေ။ ။နိမ့်သောလူဘဝ၊ သာမဏေဘဝမှ မြင့်မြတ်
ရဟန်းဘဝ၊ ဦးပဉ္စင်းဘဝကို တက်သွားတာဖြစ်လို့ ရဟ
ဘောင် တက်တယ် ပဉ္စင်းဘောင် တက်တယ်လို့ ခေါ်
တယ်။ သာသနာ့ဘောင် တက်တယ်လို့လဲ သုံးကြတ
ရဟန်းအဖြစ် ပဉ္စင်းအဖြစ် ခံယူတာဖြစ်လို့ ရဟန်းခံတ



ပဉ္စင်းခံတယ်လို့လဲ သုံးကြတယ်။ ရှေးခေတ် (၁၂) ရာသီတွဲ လူးတားတွေမှာ ပဉ္စင်းခံပွဲလို့ အသုံးများပြီး အခုခေတ် စိတ်စာတွေမှာတော့ ရဟန်းခံရှင်ပြုလို့ အသုံးများတယ်။

မေး။ ။ဘုရား၊ တရား၊ သံဃာသုံးပါးကို ဘာဖြစ်လို့ ရတနာမြတ်လို့ ခေါ်သလဲ။

ဖြေ။ ။နှစ်သက် ဝမ်းမြောက်ပီတိကို ဖြစ်စေတတ်တဲ့ အရာဝတ္ထုတွေကို ရတနာလို့ ခေါ်တယ်။ ရွှေ၊ ငွေ၊ စိန်၊ ကျောက် သားသမီးတွေကို ရတနာလို့ ခေါ်တယ်။ ဒါပေမယ့် အထက်ပါ ရွှေ၊ ငွေ၊ စိန်၊ ကျောက်၊ သားသမီးရတနာတွေက နှစ်သက်မှုကို ဖြစ်စေသလို စိတ်ဆင်းရဲမှုကိုလဲ ရံခါ ဖြစ်စေတတ်ကြသေးတယ်။ ဘုရား၊ တရားနဲ့ အရိယာ သံဃာတော်တွေကတော့ သူတို့ကို ကိုးကွယ်ဆည်းကပ်သူ၊ သူတို့ရဲ့ ဂုဏ်တွေကို ပွားများအောက်မေ့သူတွေရဲ့ နှစ်သက်မှုကိုသာ အမြဲဖြစ်စေတယ်။ စိတ်ဆင်းရဲမှု နှလုံးမသာယာမှုကို ဘယ်တော့မှ မဖြစ်စေဘူး။ ဒါကြောင့် ရွှေ၊ ငွေ၊ စိန်၊ ကျောက် ဆိုတဲ့ ရတနာတွေထက် မြတ်လို့ ဘုရား၊ တရား၊ သံဃာကို ရတနာမြတ်သုံးပါးလို့ ခေါ်တယ်။

မေး။ ။ဘုရားရှင်ဟာ သံဃာအဖွဲ့ကို ဘာရည်ရွယ်ချက်နဲ့ ဖွဲ့စည်းခဲ့သလဲ။

ဖြေ။ ။ဘုရားရှင်ဟာ လေးသင်္ချေနဲ့ ကမ္ဘာတစ်သိန်း ပါရမီ ဖြည့်ကျင့်ပြီးမှ ရရှိထားတဲ့ တရားတော်တွေကို ဝေနေယျသတ္တဝါတွေကို ဖြန့်ဝေလိုတယ်။ ဘုရားရှင် တစ်ပါးတည်း ဖြန့်ဝေရုံနဲ့လဲ မပျံ့နိုင်ဘူး။ ဘုရားရှင် ထံသက်တော ကြားရုံနဲ့လဲ ဝေနေယျတွေဟာ မကုန်နိုင်ဘူး။ ဘုရားရှင် သက်တော် ထင်ရှား ရှိစဉ်မှာလဲ ဘုရားရှင်ရဲ့ ကိုယ်

စားတယ်တော်အဖြစ် ဘုရားရှင် ပရိနိဗ္ဗာန် စံတော်မူ
နောက်မှာလဲ သာသနာ့ အမွေခံတွေ အဖြစ်နဲ့ ဝေနေယျ
ကို ဆက်လက် ဟောကြားနိုင်ဖို့အတွက် သံဃာအဖွဲ့ကြီး
ဖွဲ့စည်းတော် မူခဲ့တယ်။ ဒီနေ့အထိ သာသနာတော် တည်
နေတာဟာ သံဃာတော်တွေ ဆက်လက် ထိန်းသိမ်း
လို့သာ ဖြစ်ပါတယ်။

မေး။ ။သိကြားမင်းက ဘယ်သူ့ကိုလှူတာ အ
များသလဲ မေးတဲ့အခါမှာ မိတ္တေးတော် ဂေါ
သက်နီးကို ကိုယ်တိုင် ယက်လုပ်လှူတဲ့အခါမှာ ဘုရား
သံဃာတော်ကို ပေးလှူကြ။ သံဃာတော်ကို လှူတာ အ
အများဆုံးပဲလို့ မိန့်ကြားခဲ့တယ်။ ဘာကြောင့်ပါလဲ။

ဖြေ။ ။ဘုရားရှင်ဟာ လေးဆယ့်ငါးဝါ ကာလ
လုံး သတ္တဝါတွေကို တရားရေအေး အမြိုက်ဆေး တိုက်
တော်မူခဲ့တယ်။ ဒါနဲ့လဲ အားရတော်မမူသေးဘူး။ ပရိနိဗ္ဗာ
စံပြီးတဲ့နောက် လူတွေကိုးကွယ်ဖို့ ဓာတ်တော်တွေ ထား
တယ်။ ဘုရားကိုယ်စား တရားတော်တွေထားခဲ့တယ်။ ဒီတ
တွေကို သင်အံလေ့လာဖို့ သံဃာ အဖွဲ့အစည်းကိုလည်း
စည်းခဲ့တယ်။ ဒီသာသနာ့ ဝန်ဆောင် သာသနာ့ အ
သံဃာအဖွဲ့ကြီး အစဉ်တည်တံ့ရေးအတွက် ဝိနည်းသိက္ခာ
တွေကို ပညတ်ခဲ့တယ်။ ဒီသံဃာအဖွဲ့ကြီး ကြီးပွားမှ အနာဂ
သာသနာဟာ တည်တံ့ကြီးပွားမယ် ဆိုတာကို မြင်တော်မူ
အတွက် သက်တော်ထင်ရှား ရှိစဉ်ကပင် သံဃာတော်တွေ
ဦးစားပေးခဲ့တယ်။ သံဃာကို ပေးလှူ ပူဇော်တာဟာ
ဘုရားကို ပေးလှူပူဇော်ရာ ရောက်တယ်လို့ သံဃာအဖွဲ့ကြီး
ဂုဏ်သိက္ခာကို မြှင့်တင်ပေးခဲ့ခြင်း ဖြစ်တယ်။ ဘုရား



မြင်တော်မူတဲ့အတိုင်း ဘုရားရှင် သာသနာတော်ဟာ
ယနေ့အထိ တည်တံ့နေတာဟာလဲ သံဃာတော်တွေရဲ့ ကျေးဇူး
ကြောင့်ပဲဖြစ်တယ်။ ဒါကြောင့် သာသနာတော် အရှည်
တည်တံ့လိုရင် ဘုရားရှင် ဟောတော်မူချက်အတိုင်း သံဃာ
တော်တွေကို ပေးလှူပူဇော် ချီးမြှောက် လှူဒါန်းကြပါလို့
တိုက်တွန်းလိုက်ပါတယ်။

မေး။ ။လူတွေဟာ ဘာဖြစ်လို့ သံဃာတော်တွေကို
စည်းလေးပါး လှူဒါန်းရသလဲ။

ဖြေ။ ။ဘုရားရှင်က သံဃာတော်တွေကို စားဝတ်နေ
ရေး ကိစ္စတွေမှာ အချိန်မကုန်စေချင်ဘူး။ ပရိယတ် ပဋိပတ်
လုပ်ငန်းမှာ အားစိုက်စေချင်တယ်။ စားရေးအတွက် ဆွမ်းခံ
စားစေတယ်။ ဝတ်ရေးအတွက် ပံ့သကူသင်္ကန်း ဝတ်စေ
တယ်။ နေရေးအတွက် သစ်ပင်အောက် သစ်ရွက်မိုးတဲ
ကျောင်းမှာ နေစေတယ်။ ဒါပေမယ့် လူတွေက သံဃာတော်
တွေကို မွန်မြတ်တဲ့ ဆွမ်းတွေကျွေးတယ်။ အကောင်းစား
သင်္ကန်းတွေကို လှူဒါန်း နေတယ်။ လူနေ အိမ်တွေထက်
ကောင်းတဲ့ ကျောင်းကြီးတွေမှာ နေစေတယ်။

လူတွေဟာ စားဝတ်နေရေးကိစ္စ လုပ်နေရလို့ ပရိယတ်
စာပေ မသင်နိုင်ကြဘူး၊ ရဟန်းသံဃာတော်တွေ ပရိယတ်
စာပေ သင်အံနိုင်ဖို့အတွက် စား၊ ဝတ်၊ နေ ပစ္စည်းတွေနဲ့
ထောက်ပံ့ ပူဇော်ပေးကြတယ်။ ရဟန်းတော်တွေက စား
ဝတ်နေရေးအတွက် မပူပင်ရလို့ ပရိယတ်ကို သင်အံနိုင်တယ်။
မှတ်သိတဲ့ ပရိယတ်တွေကို သူတို့ကို ပစ္စည်းလေးပါး
ထောက်ပံ့တဲ့ ဒကာ ဒကာမတွေကို ဟောပြော ပြသကြတယ်။
ဘာသာရေးကိစ္စတွေမှာ ခေါင်းဆောင်တယ်။ ရဟန်းတော်

တွေ အေးအေးဆေးဆေး စာသင်နိုင်အောင်လို့ ပစ္စည်း လေးပါးနဲ့ ထောက်ပံ့လှူဒါန်းကြတယ်။

မေး။ ။သံဃာတော်တွေကို ဆွမ်းလောင်းလှူတဲ့ အခါ ဆွမ်းကပ်တဲ့အခါ ဘယ်လိုဂုဏ်တွေကို ရည်မှန်းပြီး လှူဒါန်း ရမလဲ။

ဖြေ။ ။ငါတို့ဟာ တစ်လမှာ လေးရက်တောင် မှန်မှန် ဥပုသ်မစောင့်နိုင်ဘူး။ ရဟန်းသံဃာတွေဟာ နှစ်ရာနှစ်ဆယ့် ခုနစ်သွယ်သော သိက္ခာပုဒ်တွေကို နေ့စဉ် အမြဲမပြတ် လိုက်နာ အောင် ထိန်းသိမ်းတော်မူကြတယ်။ ဒီသံဃာတော်တွေ ပိဋ ကတ်တွေကို အစဉ်ဆောင်ရွက် သင်အံလာခဲ့လို့ ဗုဒ္ဓရဲ့ တရား အစစ်အမှန်တွေကို အခု တို့တတွေ သိခွင့် ကျင့်ခွင့်ကြုံရတယ်။ ဒီလို သံဃာတွေက ဘာသာရေးကိစ္စမှာ ဦးဆောင်မှုပေးတဲ့ အတွက် အပါယ်လေးပါးမှလွတ်၍ နတ်ရွာ လူ့ပြည်ရောက် စေနိုင်တဲ့ အကျင့်တွေကို ကျင့်ကြံနိုင်ပြီး မဂ်ဉာဏ်၊ ဖိုလ်ဉာဏ် နိဗ္ဗာန်ကို ရနိုင် ရောက်နိုင်ကြတာ ဖြစ်တယ်လို့ သံဃာတော် တွေရဲ့ လက်တွေ့ကျတဲ့ ဂုဏ်ကျေးဇူးတွေကို အောက်မေ့ပြီး လှူဒါန်းပူဇော်ရမယ်။

မေး။ ။အချို့ သံဃာတွေဟာ ဝိနည်းတော်အတိုင်း မကျင့်ကြဘူး။ ဒီသံဃာတွေကို ဘယ်လို သဘောထားရမလဲ။

ဖြေ။ ။လူတွေဟာ လူ့ ကျင့် ဝတ် တွေ ကို အကုန် မဖြည့်ဆည်းနိုင်ကြသလို ရဟန်းတော်တွေဟာလဲ ပုထုဇဉ် ဖြစ်သည့် အလျောက် အချို့ အသေးစား သိက္ခာပုဒ်တွေကို မလွဲမရှောင်သာ ကျူးလွန်မိကြတာပဲ၊ ကင်းခြေများဟာ ခြေတစ်ချောင်း နှစ်ချောင်း ကျိုးလို့ အသွား မပျက်သလို နှစ်ရာနှစ်ဆယ့် ခုနစ်သွယ်ထဲက တစ်ခု နှစ်ခု ပျက်တာဟာ



ပလောက်ပါဘူး။ ရဟန္တာတွေတောင်မှ လောကအမြင် အပြစ်မြင်နိုင်တဲ့ အာပတ်မျိုးသာ မသင့်တော့တာ၊ ရှင် ပညတ်ချက်အရ သင့်တဲ့ အာပတ် အပြစ်မျိုးတော့ ကျူးကြသေးတာပဲလို့ နှလုံးသွင်းပြီး သူတို့ သန္တာန်မှာ ကျန်တဲ့ သိက္ခာပုဒ်တွေကို ရည်မှန်းပြီး ကြည်ညိုကြရ အနေအထိုင် အကျင့်သီလမှာ ကြည်ညိုစရာ မရှိဘူး တောင်မှ သူတို့ သင်အံ လေ့ကျက်ထားတဲ့ တရား တွေကို ပူဇော်တဲ့အနေနဲ့ ပူဇော်နိုင်ကြရမယ်။

အကျင့်သီလ လုံးဝမရှိတဲ့ ဒုဿီလပုဂ္ဂိုလ် ဖြစ်နေရင်တောင် အရိယာသံဃာအဖြစ် ရည်မှန်းပြီး လှူဒါန်းရင် အကျိုး တယ်လို့ ဟောထားတာကို သတိပြုပြီး လှူဒါန်း ဇော်နိုင်ရမယ်။ မလှူလို မပူဇော်လိုဘူး ဆိုသည့်တိုင်အောင် စ်မှား မကျူးလွန်မိအောင် ခွင့်လွှတ်နိုင်ကြရမယ်။

မေး။ ။ကိုရင်လေးတွေကို ဘယ်လို ကြည်ညိုရမလဲ။

ဖြေ။ ။ကိုရင်လေးတွေဟာ အသက် အရွယ် ငယ်တဲ့ တွက် အနေအထိုင်ဟာ ဆရာတော်ကြီးတွေလောက် မသိမ် ဘူး။ ကလေးဖြစ်တော့ ကလေးသဘာဝ မပျောက်ဘူး။ ကြောင့် အချို့က ကိုရင်လေးတွေကို မကြည်ညိုကြဘူး။ ကိုရင်လေးတွေ တွေ့ရင် တို့ဟာ တစ်လမှာ ဥပုသ် ၄-ရက် တောင် မှန်မှန် မစောင့်နိုင်ဘူး။ ဒီကိုရင်လေးတွေဟာ ၁၀- ပါးသီလ နေ့စဉ် လုံအောင် ထိန်းနေကြတယ်။ သေခိယ သိက္ခာပုဒ် ၇၅-ပါးနဲ့ ညီညွတ်အောင် နေထိုင် စားသောက် ကျင့်ကြံရတယ်။ တို့လေးစားနေတဲ့ ဆရာတော်တွေဟာလဲ ဒီလို ကိုရင်လေးဘဝက ကြီးလာရပြီး အကျင့်သီလ ကောင်းလာ ကြရတယ်။ ဒီကိုရင်လေးဟာလဲ တစ်နေ့မှာ ဆရာတော်ကြီး

ဖြစ်မယ့် သာသနာ့မျိုးစေ့ကလေးတွေပဲ ဖြစ်တယ်။ ဒီကို လေးတွေသာ မရှိရင် ဒီနေ့ ဆရာတော်ကြီးတွေ ပျံတော် သွားရင် သာသနာတော် အဆက်ပြတ်သွားတော့မယ်။ သာ သနာ မပြတ်အောင် ဆက်ထိန်းသွားမယ့် သာသနာ့ အမွေ လေးတွေ ဖြစ်တယ်လို့ နောင်တစ်ချိန်မှာ ဖြစ်လာမယ့် ဆရာ တော်ကြီးတဝကို မျှော်မှန်းပြီး ကြည်ညိုနိုင်ရမယ်။ ကိုရ လေးတွေ သာသနာ့ဘောင်မှာ ပျော်အောင် အားပေး ထောက်ပံ့ ချီးမြှင့်ကြရမယ်။

ရှေးလူတွေ စိုက်ခဲ့တဲ့ အပင်က အသီးတွေကို ယခု စား နေကြတယ်။ နောက်လူတွေ စားဖို့လဲ ကိုယ်က စိုက်ခဲ့ရမယ်။ ရှေးလူတွေ ချီးမြှောက် ထောက်ပံ့ခဲ့တဲ့ ဆရာတော်ကြီးတွေ လဲ ကြည်ညိုလေးစား၊ ကိုးကွယ်သလို နောက် သားစဉ်မြေး ဆက် ကိုးကွယ်ဆည်းကပ်ဖို့ သာသနာ့အညွန့်အညှောက်ကလေး တွေကိုလဲ ချီးမြှောက် ထောက်ပံ့ရမယ်လို့ သဘောထားပြီး ကြည်ညိုနိုင်ရမယ်။ ကိုရင်လေးတွေ ဆော့နေပေမယ့် သူတို့ သင်အံ လေ့လာထားတဲ့ တရားတော်တွေကို ပူဇော်တဲ့အနေနဲ့ ရိုသေရှိခိုးကြရမယ်။

… ၀ …

# (၅)

# ဩကာသ ကန်တော့ခန်း

မေး။ ။ရှိခိုးတာနဲ့ ကန်တော့တာဟာ အတူတူပဲလား။ တစ်မျိုးစီလား။

ဖြေ။ ။ဗုဒ္ဓဘာသာ ကလေးလူကြီး တော်တော်များ များကို မေးကြည့်တဲ့အခါမှာ အားလုံးလိုလိုဟာ အတူတူ ပဲလို့ ဖြေကြတယ်။ ဒီလို ဖြေကြတဲ့ အတွက်လဲ သူတို့မှာ အထောက်အထားက ရှိနေတယ်။ ဗုဒ္ဓဘာသာတိုင်း ရနေ ကြတဲ့ ဩကာသ ကန်တော့ကြီးထဲမှာ (ရှိခိုးပူဇော် ဖူးမြော် မာန်လျှော့ ကန်တော့ပါ၏) လို့ ပါနေတော့ ကန်တော့တာနဲ့ ရှိခိုးတာ အတူတူပဲလို့ ထင်နေကြတာပဲ။

အမှန်ကတော့ ကန်တော့တာနဲ့ ရှိခိုးတာဟာ လုံး၀ မတူ ဘူး။ ကန်တော့ရတဲ့ အကြောင်းနဲ့ ရှိခိုးရတဲ့အကြောင်းဟာ မတူသလို ကန်တော့လို့ ရှိခိုးလို့ရတဲ့ အကျိုးတရားတွေလဲ မတူကြဘူး။

မေး။ ။ကန်တော့တာနဲ့ရှိခိုးတာ ဘယ်လိုခြားနားသလဲ။

ဖြေ။ ။အများစုကတော့ အတူတူပဲလို့ ယူဆထင်မြင် နေတဲ့ ဒီလုပ်ငန်းနှစ်ရပ် ခြားနားမှုကို သေသေချာချာ သဘော ပေါက်ဖို့ နှိုင်းယှဉ်ဖော်ပြမယ်။

**ကန်တော့ရကြောင်း။**

ကန်တော့ရတဲ့အကြောင်း၊ က ကန်တော့တဲ့ ပုဂ္ဂိုလ်ဟာ ကန်တော့ခံတဲ့ ဘုရား၊ တရား၊ သံဃာ၊ ဆရာမိဘနဲ့ အခြား ပုဂ္ဂိုလ် တစ် ယောက် ယောက် အပေါ်မှာ ကိုယ်နဲ့၊ နှုတ်နဲ့၊ စိတ်နဲ့ တစ်စုံတစ်ရာ ပြစ်မှား ကျူးလွန်မှု ရှိတယ်။ ဒီကျူး လွန်ခဲ့တဲ့ အပြစ်ကို ပျောက်စေ လိုလို့ ကန်တော့ခြင်း ဖြစ် တယ်။

(အပြစ်ရှိလို့ ကန်တော့ရ တယ်။)

**ကန်တော့ရကျိုး။**

ကန် တော့ ရ တဲ့ အတွက် မူလက မိမိ ပြစ်မှားထားတဲ့ ကိုယ့်မှာ ရှိနေတဲ့ အပြစ်တွေ ဟာ ပပျောက် သွားတယ်။ ကြွေးတင်နေတဲ့ လူဟာ ကြွေး မြန် ဆပ် လိုက် တော့ ကြွေး ကျေ သွား သလိုပဲ။ ကိုယ်က စတင် ပြစ် မှား တဲ့ အပြစ် ကြွေးတင်နေတဲ့ လူ ဟာ လဲ ကန်တော့လိုက်တဲ့ အခါမှာ အပြစ်တွေဟာ ပြေပျောက် သွားတယ်။

(ကန်တော့ရလို့ အပြစ် ပျောက်တယ်။)

**ရှိခိုးရကြောင်း။**

ရှိခိုးရတဲ့ အကြောင်းက ရှိခိုးတဲ့ ပုဂ္ဂိုလ်ဟာ ရှိ ခိုး ခံ ရတဲ့ ရတနာသုံးပါး ဆရာမိ ဘနဲ့ အသက် သိက္ခာ ဂုဏ် အင်္ဂါ ကြီးမြင့်သူတွေကို မူလ က ပြစ်မှားကျူးလွန်ခဲ့မှု မရှိ ဘူး။ အဲဒီ ရ တ နာ သုံးပါး မိဘဆရာတို့ရဲ့ ဂုဏ် ကျေး ဇူး တွေကို ကြည်ညို လေးစားတဲ့ အတွက်ကြောင့် ရှိခိုးခြင်းဖြစ် တယ်။

(ကြည် ညို လေး စား မှု အဓ္ဓါတရားရှိလို့ ရှိခိုးတယ်။)

**ရှိခိုးရကျိုး**

ရှိခိုးကန်တော့ရတဲ့အတွက် တဿာ နုဘာဝေနဟာဘန္တ ရာယော ဆိုတဲ့ ဋီကာ ဆရာ များရဲ့ အဆိုအရ အန္တရာယ် အမျိုးမျိုးကို ပယ်ဖျောက်နိုင် တဲ့ အင်အား ကောင်းတဲ့ ကု သိုလ်ကို ရတယ်။ အသက်ဂုဏ် အားဖြင့် ကြီးတဲ့ သူတွေကို ရှိခိုးပူဇော်တဲ့လူဟာ အသက် ရှည် အဆင်းလှကိုယ်စိတ်ချမ်း သာ ကာယဗလ ဉာဏဗလ ကောင်းခြင်း ဆိုတဲ့ အကျိုး တရားတွေကို ရတယ်။

(ရှိခိုးလို့ ကုသိုလ်ရတယ်)



အထက်ပါ အကြောင်းနှစ်ချက် အကျိုးနှစ်ချက် ခြားနား မှုကို ကြည့်ရင် ကန်တော့တာနဲ့ ရှိခိုးတာဟာ မတူ၊ ခြား နားတယ်ဆိုတာ သိလောက်ပါပြီ။

မေး။ ။ဗုဒ္ဓဘာသာတိုင်း ဘာသာရေး အခမ်းအနား တွေမှာ ဆိုနေကြတဲ့ ဩကာသဟာ ကန်တော့ကြီးလား။ ဘုရားရှိခိုးလား။

ဖြေ။ ။နောက်နားမှာ ဩကာသ မှုကွဲ ငါးမျိုးကို ပြထားတယ်။ အဲဒီငါးမျိုးမှာ ပထမနှစ်မျိုးက ဩကာသ ကန်တော့ကြီး ဖြစ်တယ်။ ဒုတိယ နှစ်မျိုးကတော့ ဩကာသ ဘုရားရှိခိုး ဖြစ်တယ်။ တတိယ အမျိုးကတော့ ကန်တော့ ခန်းနဲ့ ဘုရားရှိခိုးနှစ်မျိုးကို ရောပြီး တစ်ချက်ခုတ် နှစ်ချက်ပြတ် ဖြစ်အောင် တီထွင်ထားကြတဲ့ ဩကာသ ရှိခိုးကန်တော့ကြီး ဖြစ်တယ်။ ဩကာသဟာ မူလကတော့ ပြစ်မှားမိတဲ့ အပြစ် တွေကို ပျောက်အောင် ကန်တော့တဲ့ ကန်တော့ကြီး ဖြစ်ပါ တယ်၊ ဩကာသ ဘုရားရှိခိုးတို့၊ ဩကာသ ဘုရားရှိခိုး ကန် တော့ကြီးတို့ ဆိုတာတွေက နောက်မှ ပြောင်းလဲလာတဲ့ တီထွင်ချက်တွေပဲ ဖြစ်တယ်။

မေး။ ။ရှိခိုးဦးချမပါပဲ ဝန်ချတောင်းပန် သည်းခံစေ တယ်ဆိုတာ ဘယ်လိုဟာမျိုးလဲ။

ဖြေ။ ။ကန်တော့တယ်၊ ဝန်ချတောင်းပန် သည်းခံစေတယ်ဆိုတာက မိမိက ကိုယ်ထိလက်ရောက် နှုတ်နဲ့ စိတ်နဲ့ ပြစ်မှားမိတဲ့ အပြစ်ကို ကုစားတဲ့သဘောပဲ၊ ပြစ်မှားတယ်ဆိုတာက ငယ်သူကသာ ကြီးသူကို ပြစ်မှားတာ မဟုတ်ဘူး။ ပုထုဇဉ်သဘာဝ အမှားနဲ့မကင်းနိုင်သေးတော့ ကြီးသူကလဲ ငယ်သူကို ပြစ်မှားနိုင်တာပဲ၊ ကြီးသူတွေရဲ့ လုပ်မှား ပြောမှားတွေကိုလဲ လောကမျက်မြင် မကြာခဏ ကြုံတွေ့နေရတာပဲ။ အဲဒီလို လူကြီးက လူငယ်ကို ပြစ်မှားမိတဲ့ အခါမှာလဲ လူကြီးက လူငယ်ကို ကန်တော့ ရမယ်။ ဒီလို ကြီးသူက ငယ်သူတွေကို ကန်တော့တဲ့အခါ သည်းခံပါရန် တောင်းပန်တဲ့အခါမှာ လက်အုပ်ချီပြီး ဒူးတုပ် ဦးချ ရှိခိုး ကန်တော့လို့ မရဘူး။ မိမိပြစ်မှားခဲ့တဲ့ ငယ်သူထံသွားပြီး မိမိပြုမှား ပြောမှားမိခဲ့သမျှကို နောင်တ သံဝေဂ ရကာ မာန်မာန နှိမ့်ချတဲ့အသံနဲ့ ငါ့ရှင် (သို့မဟုတ်) နာမည်ကို ခေါ်၍ သင့်အပေါ် ငါ ကိုယ်ထိလက်ရောက် ပြစ်မှားမိတယ်။ နှုတ်ဝစီဖြင့် ကြမ်းတမ်းရိုင်းပြစွာ ပြစ်တင်ကဲ့ရဲ့ ပြောဆို ပြစ်မှားမိခဲ့တယ်။ ဒီအမှား အတွက်လဲ ငါ နောင်တ သံဝေဂ ရပါပြီ။ နောင်ကို ဒီလို မပြစ်မှားမိအောင်လဲ စောင့်ထိန်းပါမယ်။ သတိထားပါမယ်။ ပြစ်မှားမိတဲ့ ငါ့ရဲ့ အပြစ်ကို ခွင့်လွှတ်သည်းခံပါလို့ တောင်းပန်ရမယ်။ ကိုယ့်ထက်ကြီးသူ မြတ်သူကိုလဲ အထက်ပါအတိုင်း ရှိခိုးဦးချမှုမပါပဲ ဝန်ချတောင်းပန် ကန်တော့လို့ ရတယ်။ ရှိခိုးကန်တော့တာက ပိုပြီးလေးနက်တာပေါ့၊ ကိုယ့်ထက်ငယ်သူကို ပြစ်မှားမိရင်လဲ ကန်တော့ရမယ်ဆိုတဲ့ အကြောင်းနဲ့ ကြီးသူ ငယ်သူ အပြန်အလှန် ကန်တော့နည်းကို ဝိသုဒ္ဓိမဂ် အဋ္ဌကထာ….မှာ



အတိအလင်းပဲ ပြထားတယ်။ လူကြီးက လူငယ်ကို ဝန်ချကန်တော့တဲ့ အစဉ်အလာဟာ မြန်မာ့ယဉ်ကျေးမှုမှာ ပျောက်ကွယ်သလောက် ဖြစ်နေတယ်။ ကြီးသူက ငယ်သူကို မပြစ်မှားဖို့ ပြစ်မှားမိရင်လဲ မာန်မာန နှိမ်ချတောင်းပန်ဖို့ သံသရာဝန်ကြီးကို အလေးခံသယ်မသွားဖို့ အထူးသတိပြုသင့်ကြပါတယ်။ ဓမ္မပဒ စိတ္တသူကြွယ်ဝတ္ထုမှာ ရဟန်းဖြစ်တဲ့ သုဓမ္မထေရ်က လူဝတ်ကြောင် စိတ္တသူကြွယ်ကို ပြစ်မှားမိ၍ ကန်တော့ သည်းခံစေရသည်ကို စံနမူနာ ယူနိုင်ကြပါစေ။

ဒီအချက်ကိုကြည့်ရင် ကန်တော့တာနဲ့ ရှိခိုးတာဟာ မတူဘူး။ ကန်တော့မှုဆိုတာက ကြီးသူငယ်သူ အပြန်အလှန် ကန်တော့ရပြီး ရှိခိုးတာကျတော့ ငယ်သူကသာ ကြီးသူ မြတ်သူကို ရှိခိုးရတယ်ဆိုတာ ထင်ရှားလောက်ပါပြီ။

မေး။ ။မိမိပြုမှားမိတဲ့ အပြစ်ကို သည်းခံဖို့ ကန်တော့တဲ့ အစဉ်အလာဟာ ပိဋကတ် ပါဠိတော်မှာ ရှိပါသလား။

ဖြေ။ ။ရှိပါတယ်။ တော်တော်များများ ရှိပါတယ်။ ဒါကို ဋီကာ ဆရာတွေက အစ္စယဒေသနာ=အပြစ်ကို ပြောကြား တောင်းပန်ခြင်း, ဝန်ချကန်တော့ခြင်းလို့ ခေါ်ပါတယ်။

၁—သံယုတ်ပါဠိတော်မှာ ဘုရားရှင်ကို ကဲ့ရဲ့ပြောဆိုမိတဲ့ နတ်သားတစ်စုက ဘုရားရှင်ထံ ဝန်ချ ကန်တော့ကြပါတယ်။ (သံ—၁-၂၂-၂၃)

၂—ဘုရားရှင် သိက္ခာပုဒ် ပညတ်ခြင်းနဲ့ ပတ်သက်ပြီး ကဲ့ရဲ့ ပြစ်မှားတဲ့ ရဟန်းတစ်ပါးက ဘုရားရှင်ကို ဝန်ချ

ကန်တော့ ပါတယ်။ (ထိ-၁-၂၃၉) အလား...
(မ-၁-၁၀၁)

၃—အရှင် အနုရုဒ္ဓါကို တပ်မက် ပြစ်မှားမိ ဖြားယော မိတဲ့ အမျိုးသမီးတစ်ဦးဟာ ရှင်အနုရုဒ္ဓါကို ဝန်ချ ကန်တော့ခဲ့ရပါတယ်။ (ဗိ-၂၊ ၂-၂၉)

၄—ခမည်းတော် ဗိမ္ဗိသာရကို သတ်မိသော အဇာတသတ် မင်းက ဘုရားရှင်ထံ ဝန်ချကန်တော့ခဲ့သည်။ (ဒီ-၁-၀၀)

မေး။ ပါဠိတော်မှာ အပြစ်ရှိလို့ ကန်တော့တဲ့အခါ ဘယ်လိုဆိုပြီး ကန်တော့ပါသလဲ။

ဖြေ။ အစ္စယော မံ ဘန္တေ အစ္စာဂမာ ယထာဗာလံ ယထာမူဠှံ ယထာ အကုသလံ (ယောယံပီတရံ ဓမ္မ ရာဇာနံ ဇီဝိတာဝေါရောပေသိ) တဿမေ ဘန္တေ ဘဂဝါ အစ္စယံအစ္စယတော ပဋိဂ္ဂဏှာတု၊ အာယတိံ သံဝရာယလို့ ဆိုပြီး ကန်တော့ပါတယ်။ ခမည်းတော် ဗိမ္ဗိသာရကို သတ်ပြီးတော့ အဇာတသတ်က ဘုရားကန်တော့ခန်း ဖြစ်ပါတယ်။ ပါဠိတော်လာ အဓိပ္ပာယ်အတိုင်း မြန်မာလို ကန်တော့မယ် ဆိုရင်တော့။

အရှင်ဘုရား၊ တပည့်တော်သည် မိုက်မဲသည့်အလျောက်၊ တွေဝေသည့်အလျောက်၊ မလိမ္မာသည့်အလျောက် အပြစ်သည် တပည့်တော်ကို လွှမ်းမိုးခဲ့ပါ၏။ (တပည့်တော်သည် တရားစောင့်သော တရားသဖြင့် မင်းပြုသော ခမည်းတော်ကို မင်းစည်းစိမ်ဟူသော အကြောင်းကြောင့် သတ်ခဲ့မိပါ၏)



မြတ်စွာဘုရားသည် ထိုတပည့်တော်၏ အပြစ်ကို နောင်အခါ စောင့်စည်းခြင်းငှာ အပြစ်ကို အပြစ်ဟု လက်ခံတော်မူပါ။ သည်းခံတော်မူပါလို့ ကန်တော့ရမယ်။ ပြစ်မှားပုံချင်း မတူတဲ့အတွက် လက်သည်းကွင်းထဲက အပြစ်ပေါ်ပြချက်ပဲ ကွဲလွဲတယ်။ အားလုံး ပါဠိတော် ကန်တော့ခန်းတွေဟာ အတူတူပဲ။

## မြန်မာစစ်စစ် ကန်တော့နည်း

"(အမေ) ခင်ဗျား၊ ကျွန်တော်ဟာ မိုက်မဲတွေဝေ မလိမ္မာတဲ့ အတွက် (အမေ့) အပေါ် ပြစ်မှားမိပါတယ်။ (အမေ့ကို မြန်အော်မိပါတယ်၊ အမေ့ရှေ့မှာ ကြမ်းကိုဆောင့် နင်းမိပါတယ်) နောင်ကို ဒီလို မအော်မိ၊ ကြမ်းမဆောင့်မိ အောင်လဲ စောင့်စည်း ထိန်းသိမ်းပါမယ်။ အမေဟာ ကျွန်တော့်ရဲ့ အပြစ်ကို ခွင့်လွှတ်သည်းခံပါ ခင်ဗျား။" ဟု ပြောပြီး ရှိခိုးကန်တော့ရမည်။

မေး။ ။ပါဠိတော်မှာ တိုက်ရိုက်လာတဲ့ ကန်တော့နည်း ရှိပါလျက်နဲ့ အဲဒီအတိုင်း မြန်မာလို ကန်တော့ကြီးကိုမရေးတဲ့ ဩကာသ ကန်တော့ကြီးကို ဘာဖြစ်လို့ တွင်ရသလဲ။

ဖြေ။ ။ပါဠိတော်လာ ကန်တော့နည်းက တစ်ဦး တစ်ယောက်သော ပုဂ္ဂိုလ်အပေါ် သီးသီးခြားခြား ပြစ်မှားမိတဲ့ အပြစ်ကို ဝန်ချတောင်းပန်နည်း ဖြစ်တယ်။ ဘယ်ပုဂ္ဂိုလ် အပေါ် ဘယ်အချိန်က ဘယ်နေရာမှာ ဘယ်လိုပြစ်မှားမိတဲ့ အပြစ်အတွက် ကန်တော့တယ်ဆိုတာ သေချာ တိကျတယ်။

မြန်မာဆရာတော်တွေ တိုက်တွန်းတဲ့ ဩကာသ ကန်တော့ကြီးကတော့ တစ်ဦးတစ်ယောက် အပေါ် တစ်ချိန်က တစ်နေရာမှာ ပြစ်မှားမိတဲ့ အပြစ်တစ်ခုအတွက် သီးသီးခြားခြား ကန်တော့တာ မဟုတ်၊ အစုတဝနဲ့ အစ မထင် သံသရာအဆက်ဆက်မှာ မိမိနဲ့ ဆက်ဆံ ပေါင်းသင်းခဲ့ရတဲ့ ပုဂ္ဂိုလ်အမျိုးမျိုးအပေါ် ကိုယ်ထိလက်ရောက်ဖြစ်ဖြစ်၊ နှုတ်နဲ့ စိတ်နဲ့ဖြစ်ဖြစ် ပြစ်မှားခဲ့တဲ့ အပြစ်တွေ အနန္တ ရှိနိုင်တယ်။ ဒီအပြစ်တွေဟာ သိသိသာသာ လွန်ကျူးခဲ့တာ ရှိသလို အမှတ်မထင် ပြုခဲ့ ပြောခဲ့တဲ့ အပြစ်တွေလဲ ဖြစ်နိုင်တယ်။ အစ မထင် သံသရာက ပါလာတဲ့ အပြစ်ကြွေးတွေ ဖြစ်တဲ့အတွက်နဲ့ အခုဘဝမှာလဲ ဘယ်အချိန်က ဘယ်သူ့အပေါ်မှာရယ်လို့ မသိ၊ အမှတ်မထင် ပြစ်မှားမိတဲ့ အပြစ်ကြွေးတွေ ဖြစ်တဲ့အတွက် ပြစ်မှားခံရတဲ့ ပုဂ္ဂိုလ်ကို ပြန်ကန်တော့ဖို့ဆိုတာ မဖြစ်နိုင်တော့ဘူး။ အဲဒီလို အပြစ်မှားခံ ပုဂ္ဂိုလ် မရှိတော့တဲ့အခါမှာ သူ့အစား လေးစားလောက်တဲ့ ပုဂ္ဂိုလ်နဲ့ ဘုရား တရား သံဃာ ရတနာသုံးပါးကို ကန်တော့ရင် အပြစ် ပြေပျောက်နိုင်တယ်။ တစ်နေကုန် စားသမျှ သံပရာတစ်ခြမ်းနဲ့ချေ ဆိုတဲ့ ဆိုရိုးစကားအတိုင်း ဒီဘဝ ဟိုဘဝ ပြုခဲ့သမျှ အပြစ်တွေကို တစ်ထိုင်တည်းနဲ့ ပြေပျောက်စေဖို့ အတွက် ဩကာသ ကန်တော့ကြီးကို စီစဉ်တိုက်တွန်းရခြင်း ဖြစ်တယ်။

မေး။ ။ပါဠိတော်လာ ကန်တော့နည်းအတိုင်း မဟုတ်ဘဲ ဩကာသ ကန်တော့ကြီးကို တိုက်တွန်းရတဲ့အကြောင်း ရှိပါသေးသလား။



ဖြေ။ ။ရှိပါတယ်။ ရှေးမှာ ကန်တော့တာနဲ့ ရှိခိုးတာကို ပြခဲ့တယ်။ ကန်တော့ရလို့ အပြစ်ပြေပျောက်တယ်၊ ရှိခိုးရလို့ ကုသိုလ်အသစ် ရရှိတယ်လို့ ပြခဲ့တယ်။ ဩကာသ ကန်တော့ကြီးဟာ ရတနာ သုံးပါးကို ရှိခိုးကန်တော့ရတဲ့အတွက် ကန်တော့မှု လုပ်ငန်း၊ ရှိခိုးမှုလုပ်ငန်း နှစ်ခုလုံး ပြီးသွားတယ်။ အလုပ်နှစ်ခု ပြီးသွားတဲ့အတွက် လွန်ကျူးမိတဲ့ အပြစ်ဟောင်း ပြေပျောက်ခြင်း၊ ရှိခိုးရတဲ့ ကုသိုလ်အသစ်ရခြင်းဆိုတဲ့ အကျိုးနှစ်မျိုး တစ်ပါတည်း ပြီးသွားတယ်။ တစ်ချက်ခုတ် နှစ်ချက်ပြတ် ဖြစ်သွားတယ်။ ဆိုးလေးဆယ်ထဲမှာပါတဲ့ အမှုသစန ဂုဏ္ဍာခ နည်းအရ ကျက်သင်ရင်းမှာ ဆရာကို ရေချိုးပေးခြင်း လုပ်ငန်းတစ်ခုပြီး ရောသဲ ရေချိုးပြီး၊ သရက်ပင်လဲ ရေလောင်းပြီးဆိုတဲ့ အကျိုးနှစ်ခု ပြီးသွားတယ်။ ဒါဟာ ပါဠိတော်လာ ကန်တော့ပုံနဲ့ မတူတဲ့ ဩကာသ ကန်တော့ကြီးရဲ့ ဒုတိယ ထူးခြားချက် ဖြစ်ပါတယ်။

မေး။ ။ပုဂ္ဂိုလ် တစ်ဦးတစ်ယောက်မှာ ပြုခဲ့တဲ့ အပြစ်ကို ရတနာသုံးပါးကို ကန်တော့ရုံနဲ့ ပြေပျောက်နိုင်တယ်ဆိုတာ ကျမ်းဂန်နဲ့ ညီရဲ့လား။

ဖြေ။ ။ညီပါတယ်။ အဇာတသတ်မင်းဟာ ခမည်းတော် ဗိမ္ဗိသာရမင်းကြီးကို သတ်ပြီးတဲ့နောက် မအိပ်နိုင် မစားနိုင် ဖြစ်နေတဲ့အခါမှာ ဘုရားရှင်ထံသွားပြီး ဝန်ချကန်တော့ခဲ့တယ်။ မြတ်စွာဘုရားကလဲ သည်းခံပါတယ်လို့ မိန့်ကြားပြီး "ဝုဍ္ဎိဟေသာ အရိယဿဝိနယေ" ဆိုလို့ အပြစ်ကို သိလို့ နောင်စောင့်ထိန်းရန် ကန်တော့ဝန်ချခြင်းဟာ ငါဘုရားရဲ့

အဆုံးမှာမ သာသနာတော်မှာ ကြီးပွားတိုးတက်ခြင်း လက္ခဏာ ဖြစ်တယ်လို့ ချီးမြှောက် ဟောကြားခဲ့တယ်။

ဓမ္မပဒ သိရိမာ ဝတ္ထုမှာ ဥတ္တရာ အလှူဒကာမကို ပြစ်မှားတဲ့ သိရိမာဟာ ဘုရားရှင်ကို ရှိခိုးကန်တော့ရာ ဘုရားရှင်က သည်းခံခွင့်လွှတ်တော်မူလို့ အပြစ် ပြေပျောက်သွားတယ်။

မြန်မာဆရာတော်ကြီးများဟာ အထက်ပါ ပါဠိတော် အဋ္ဌကထာတွေကို ကိုးကား ထောက်ထားပြီး ဩကာသ ကန်တော့ကြီးကို တီထွင်ကြခြင်း ဖြစ်ပါတယ်။ တစ်နေ့လုံး စားသမျှ သံပရာတစ်ခြမ်းနဲ့ ချေသလို ပုဂ္ဂိုလ်မရွေးပေါ်မှာ ပြုခဲ့တဲ့ အပြစ်မှန်သမျှတွေကို ဩကာသ ကန်တော့ကြီးနဲ့ ကန်တော့လိုက်ရုံနဲ့အကုန်ခြေပျောက်သွားတဲ့အတွက် ဩကာသ ကန်တော့ကြီးဟာ ဗုဒ္ဓဘာသာဝင်တွေ အတွက် အပါယ် တံခါးကို ပိတ်ပေးတဲ့ အာဗဓ် သော့ခလောက်ကြီးလို့ ဆိုနိုင်တယ်။

ကိုယ့်ထက်ငယ်တဲ့ ပုဂ္ဂိုလ်တွေကို ပြစ်မှားခဲ့စေကာမူ ဒီ ဩကာသ ကန်တော့မှုထဲမှာ အကျုံးဝင်သွားတဲ့ အတွက် တစ်ချက်ခုတ် နှစ်ချက်ပြတ် ဩကာသ ကန်တော့ကြီးကို တီထွင်တော်မူတဲ့ ဆရာတော်ကြီးတွေရဲ့ အမြော်အမြင် လေးနက်မှုကို ချီးကျူးပူဇော်ထိက်လှပေတယ်။

မေး။ ။တု့အဝေ ဝိမ္ဘိတာရကို သတ်မိတဲ့ ဒ.ဘာတသတ်ဟာ ဘုရားကို ကန်တော့တဲ့အတွက် အဲဒီ သတ်မိတဲ့ အပြစ်ဟာ ပြေပျောက်သွားပါသလား။

ဖြေ။ကန်တော့လို့ အပြစ် ပျောက်တယ် ဆိုပေမယ့် အမေကို သတ်ခြင်း၊ အဖေကို သတ်ခြင်း၊ ရဟန္တာကို သတ်



…၊ ဘုရားရှင်ကိုယ်မှ သွေးထွက်အောင်လုပ်ခြင်း၊ …သား …ခွဲခြင်း ဆိုတဲ့ ကြီးလေးသော အကုသိုလ် လုပ်ငန်းကြီး…ကို လုပ်ခဲ့တဲ့လူကျတော့ ကန်တော့တာနဲ့ လုံးဝ ပျောက် …ဘူး၊ အဲဒီ ပဉ္စာနန္တရိယကံလို့ခေါ်တဲ့ အကုသိုလ်ကံ …တော့ ဘယ်လိုကုသိုလ်မျိုး လုပ်လို့မှ လုံးဝ ပျောက်မသွား …။

ဒါပေမယ့် အဖေဖြစ်သူ ဘုရင်ကို သတ်မိတဲ့ အဇာတသတ် …စိတ်တွေ ဂယောင် ချောက်ချား ဖြစ်ပြီး မစားနိုင် …သောက်နိုင် ညအိပ်လို့မရ ဖြစ်နေရာက ဘုရားရှင်ထံ ရောက် …ကန်တော့ပြီးတဲ့အခါ တရားကို နာကြားလိုက်ပြီးတဲ့ …မှာတော့ စိတ်ဓာတ်ဟာ အေးငြိမ်းသွားပြီး ငြိမ်သက် …သော ရှိသွားတယ်။ စားနိုင် အိပ်နိုင် သွားတယ်။ ဘုရားကို ကြည်ညိုချီးမြှောက်တဲ့ မင်းကောင်းတစ်ပါး ဖြစ် …တယ်။ ဒါဟာ ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ် …တော့တဲ့အတွက် ရရှိတဲ့ အကျိုးကျေးဇူး ဖြစ်တယ်။

မေး။ ။သီလ မဆောက်တည်ခင် ဒါနမပြုခင် ဘာဝ… ကမ္မဋ္ဌာန်းမပွားခင် ဩကာသ ကန်တော့မှုကို ဆရာ… ကြီးတွေဟာ ဘယ်ရည်ရွယ်ချက်နဲ့ စီစဉ်ခဲ့ပါသလဲ။

ဖြေ။ ။သီလ ဆောက်တည်တယ်၊ အလှူဒါန ပြုတယ် …ဟာက လူချမ်းသာ၊ နတ်ချမ်းသာကို ရဖို့ဖြစ်တယ်။ ဘာဝနာ ကမ္မဋ္ဌာန်း စီးဖြန်းတယ်ဆိုတာက ချမ်းသာခြင်း မင်္ဂ… နိဗ္ဗာန်ကို ရဖို့ဖြစ်တယ်။ ဒီဒါန၊ သီလ၊ ဘာဝနာမှုတွေ… သူ့မှုလ သဘာဝအားဖြင့် လူ နတ် နိဗ္ဗာန် သုံးပါး… ချမ်းသာကို ပေးစွမ်းနိုင်တယ်။ ဒါပေမယ့် ဒီ ဒါန၊ …သီလ၊ ဘာဝနာ အားထုတ်သူဟာ ပဉ္စာနန္တရိယကံ၊ ရတနာ

သုံးပါး မိဘ ဆရာသမားတွေကို ပြစ်မှားခြင်းဆိုတဲ့ အပြစ်တွေ ရှိနေတဲ့အခါမှာ အဲဒီ အပြစ်ကြီးတွေက ကြားက ပိတ်ခံနေတဲ့အတွက် သူပြုတဲ့ ဒါန၊ သီလ၊ ဘာဝနာတွေဟာ [illegible] နတ် နိဗ္ဗာန် သုံးတန် ချမ်းသာကို မပေးစွမ်းနိုင်တော့ဘူး။ ဒါကြောင့် ဒီပြစ်မှားမှုတွေ ရှိနေတာကို သဂ္ဂန္တရာယ် နတ်ပြည်၊ ဗြဟ္မာ့ပြည်ကို မရောက်နိုင်တဲ့အပြစ်၊ မဂ္ဂန္တရာယ် မဂ်ဖိုလ် မရနိုင်တဲ့အပြစ်တွေ ရှိနေတယ်လို့ ဆိုရတယ်။ ဒီသဂ္ဂန္တရာယ် မဂ္ဂန္တရာယ်တွေ ရှိနေတဲ့ ပုဂ္ဂိုလ် အဖို့ ကုသိုလ်တွေ ဘယ်လောက်ပဲ ပြုပြု၊ နတ်ရွာ နိဗ္ဗာန်ကို မရောက်နိုင်တော့ဘူး။ ဘုရားရှင်ကိုယ်တိုင်နဲ့တွေ့ပြီး ဘုရားသာသနာ အလွန် ကြည်ညိုတဲ့ အဇာတသတ်မင်းဟာ ကုသိုလ်ကောင်းမှုတွေ ဘယ်လောက် လုပ်ခဲ့ပေမယ့် သေတဲ့အခါ လောဟကုမ္ဘီငရဲမှာ အနှစ်ခြောက်သန်း ခံရသလိုပါပဲ။

ဆီဖယောင်း စွန်းနေတဲ့ စက္ကူပေါ်မှာ မင်နဲ့စာရေးလို့ မထင်သလို သဂ္ဂန္တရာယ်၊ မဂ္ဂန္တရာယ် အပြစ်ကြီးတွေ ရှိနေတဲ့ လူဟာလဲ ကုသိုလ်ပြုလို့ အကျိုးမထင်ပါဘူး။ ဒါန၊ သီလ၊ ဘာဝနာ ကုသိုလ်တစ်ခုခု ပြုမယ့်လူဟာ ဒီကုသိုလ်ရဲ့ အကျိုးပေးကို တားမြစ်နိုင်တဲ့ သဂ္ဂန္တရာယ်၊ မဂ္ဂန္တရာယ် အပြစ်ကြီးတွေ ကင်းစင်နေဖို့ လိုပါတယ်။ မိမိရေးမယ့် စာရွက်မှာ ဆီ ဖယောင်း အစွန်းအကွက် မရှိဖို့ လိုသလိုပါပဲ။ ဒီအန္တရာယ်ကြီးနှစ်ခုနဲ့ အခြား အပြစ်ငယ် ကလေးများပါ ကင်းစင် ပပျောက်စေဖို့အတွက် ဒါန၊ သီလ၊ ဘာဝနာ ကုသိုလ် တစ်ခုခုကို ပြုမယ့်သူတွေကို ကုသိုလ်မပြုခင် ဩကာသ ကန်တော့ခန်းနဲ့ ကြိုတင် ကန်တော့ ခိုင်းခြင်း ဖြစ်ပါ



...ယ်။ ရှေးဆရာတော်ကြီးများ အမြော်အမြင်ကြီးမားတော်မူခဲ့ပါပေရဲ့။

မေး။ ကိုယ်၊ နှုတ်၊ စိတ်နဲ့ ပြစ်မှားမိတဲ့ အပြစ်တွေကို ဝန်ချကန်တော့တို့ ကျေပျောက်နိုင်ပါသလား။

ဖြေ။ ။ဒီအဓိပ္ပာယ်ရှိတဲ့ မေးခွန်းမျိုးကို [illegible] ကျမ်းမှာ အောက်ပါအတိုင်း ကျီးကန်ရှင်ကြီးက မေးထားပါတယ်။

ပြစ်မှားမိသည်၊ ကန်တော့မည်။

မြင်ခြည်ကုန်ခန်းပါလိမ့်မည်နည်း။ (အပိုဒ်-၇၁၇)

အထက်ပါ အမေးကို ကျီးသဲဆရာတော်က တိကနိပါတ် အင်္ဂုတ္တိုရ်အဋ္ဌကထာပါဠိကို ကိုးကား ဖြေထားပါတယ်။ အဲဒီ အဋ္ဌကထာပါဠိ မြန်မာပြန် အဓိပ္ပာယ်ကို ဖော်ပြပါမယ်။

မိခင်၊ ဖခင်၊ စေတီ၊ ဗောဓိပင်နှင့် ရဟန်း သံဃာတော် အပေါ် [illegible]စိတ်ဖြင့် ပြစ်မှားမိသည် ရှိသော် အကျွန်ုပ် ပြစ်မှားမိခဲ့သော အပြစ်ကို သည်းခံ ခွင့်လွှတ်တော်မူပါ ဟု တောင်းပန်ဝန်ချ ကန်တော့အံ့၊ ထိုသို့ ဝန်ချကန်တော့သည်နှင့် တစ်ပြိုင်နက် ထိုမကောင်းမှု ကံတို့သည် ပပျောက်ကုန်၏။ ကန်တော့ရသော ကုသိုလ်သည် ပြစ်မှားမိသော အကုသိုလ် အကျိုးပေးမှုကို တားမြစ်လိုက်သဖြင့် ပြစ်မှားမိတဲ့ အကုသိုလ်ဟာ အကျိုးမပေးတော့ဘဲ အဟောသိကံ ဖြစ်သွားတယ် (အသီးမသီးတဲ့ အမြိုပင်လို ဖြစ်သွားတယ်။)၊ ဒီလို ကန်တော့လိုက်တဲ့အတွက် ပြစ်မှားမိတဲ့ အပြစ်ဟာ နတ်ပြည်ရောက်မှုကိုလဲ မတားမြစ်နိုင်ပါဘူး။ မဂ်ဖိုလ်ရမှုကိုလဲ မတားမြစ်နိုင်ဘူး။

မေး။ ။ဖြစ်မှားမိတဲ့ အပြစ်ကို ဝန်ချ ကန်တော့... ပြေပျောက်သွားတဲ့ သာဓက ရှိပါသလား။

ဖြေ။ ။ရှိပါတယ်။ သောရေယျ သူဌေးသားဟာ ... သပ္ပာယ်ကြည်ညိုဖွယ် ကောင်းတဲ့ ရှင်ကစ္စည်းထေရ်ကို ... အခါ "ဒီမထေရ် ငါ့မယားလေးဖြစ်ရင် ကောင်းမှာပဲ ... မယားလေး ဒီမထေရ်လိုလှရင် ပိုချစ်မှာပဲ" ဟု စိတ်... ဖြစ်မှားမိတယ်။ သူဌေးသားဟာ ချက်ချင်း မိန်းမ... ပြောင်းသွားတယ်။ မိန်းမ ဘဝနဲ့ သိဟောင်းကျွမ်း... တွေ့ သိကုန်မှာစိုးလို့ တက္ကသိုလ်ပြည်ကို ထွက်ပြေးပြီး သူ... သားတစ်ယောက်နဲ့ အိမ်ထောင်ကျကာ သားနှစ်ယော... ရတယ်။ နောင်အခါမှ ကန်တော့လျှင် အပြစ်ပျောက်... သိ၍ ရှင်မဟာ ကစ္စည်းထေရ်ကို သွားရောက် ကန်တော... ယောကျ်ားပြန်ဖြစ်တဲ့အကြောင်း ဓမ္မပဒအဋ္ဌကထာမှာ ပြထား... တယ်။

နောက်ထပ်သာဓက တစ်ခုကိုတော့ ပါရာဇိကကဏ္ဍ ဝိသုဒ္ဓိ... အဋ္ဌကထာမှာ ပြထားတယ်။ ရဟန်းငယ်တစ်ပါးနဲ့ ရဟန်းကြီး... တစ်ပါး ဆွမ်းခံအတူ ကြွရာမှာ အိမ်တစ်အိမ်က ဆန်ပြု... တစ်ပန်းကန်စီ ရပါတယ်။ ရဟန်းကြီးက ဆာလောင်တာ... ကြီးလို့ လေနာထနေတာနဲ့ လူသူရှင်းတဲ့ တစ်နေရာမှာ... ထိုင်ပြီး ဆန်ပြုတ်ကို ဖုံးပေးလိုက်ပါတယ်။ ဒါကို ရဟန်းငယ်... မြင်တော့ "ဒီကိုယ်တော်ကြီးကလဲ အစားငန်းလိုက်တာ အရှ... မရှိဘူး"လို့ ကဲ့ရဲ့ရှုတ်ချလိုက်ပါတယ်။

ကျောင်းပြန်ရောက်တော့ ရဟန်းကြီးက ရဟန်းငယ်ကို... တယ်မဂ်ဖိုလ်အထိ ရပြီလဲလို့ မေးပါတယ်။ ရဟန်းငယ်က... သောတာပန်ဖြစ်ကြောင်း ပြန်ပြောတဲ့အခါ သင်အထက်မဂ်...



...ကို ဆက်အားမထုတ်နဲ့တော့။ ရဟန္တာကို ဖြစ်မှားမိ မဂ္ဂန္တရာယ်ဖြစ်နေပြီ။ အထက် မဂ်ဖိုလ် မရနိုင်တော့ဘူး ပြောပါတယ်။ ဒီတော့မှ ရဟန်းငယ်ဟာ ရဟန္တာကို ...မှားမိတဲ့အပြစ်ကို ခွင့်လွှတ်သည်းခံပါလို့ ဝန်ချတောင်း ...ရတယ်။ ဒါက တောင်းပန် ကန်တော့ရင် အပြစ်မှ ...ပျောက်တဲ့ သာဓကတွေ ဖြစ်တယ်။

ရန်သူတောင်မှ တောင်းပန်ရင် ကျေနပ်ရတယ် ဆိုတဲ့ ...မှာ အစဉ်အလာ လက်သုံးစကားနဲ့ အပြင်းအထန် ရန် ...ခဲ့ပါသ ဖြစ်ကြပြီးမှ ကြေရာကြေကြောင်း တောင်းပန ... ခွင့်လွှတ်ပြီး မိတ်ဆွေအဖြစ် ပေါင်းသင်းနေကြတဲ့ မျက် ...မြင် ဒိဋ္ဌ သာဓကတွေကို ကြည့်ရင်လဲ ဝန်ချကန်တော့ရင် အပြစ် ပျောက်တယ်ဆိုတာ ထင်ရှားပါတယ်။

မဖြစ်မှားမိ အောင်လဲ ဒေါသစိတ်ကို ထိန်းသိမ်းပါ။ စိတ်မထိန်းနိုင်လို့ ဖြစ်မှားမိရင်လဲ ဝန်ချကန်တော့ဖို့ ဝန်မလေးကြပါနဲ့လို့ သတိပေးလိုပါတယ်။

မေး။ ။ဖြစ်မှား ကျူးလွန်မိတဲ့ သူက ဝန်ချကန်တော့တာကို ကန်တော့ခံတဲ့ ပုဂ္ဂိုလ်က သည်းမခံ ခွင့်မလွှတ်နိုင်ဘူး ဆိုရင် ဘာဖြစ်မလဲ။

ဖြေ။ ။ဖြစ်မှားကျူးလွန်မိတဲ့လူက သူ့ရဲ့အပြစ်ကို သူသိလို့ ကြေရာကြေကြောင်း ဝန်ချတောင်းပန် ကန်တော့ပါလျက် ကန်တော့ခံပုဂ္ဂိုလ်က သည်းမခံ ခွင့်မလွှတ် အခဲမကျေဘူးဆိုရင် အဲဒီ ကန်တော့ခံ ပုဂ္ဂိုလ်ဟာ လူမိုက်ဖြစ်တယ်။ သည်းခံခွင့်လွှတ်တဲ့ ပုဂ္ဂိုလ်မှ ပညာရှိ သူတော်ကောင်း ဖြစ်တယ်လို့ တိက အင်္ဂုတ္တိုရ် ပါဠိတော်မှာ ဘုရားရှင် ဟောကြားထားပါတယ်။ ဘုရားရှင်နှင့် ရဟန္တာ အရှင်သူမြတ်တွေ

ဟာ တစ်ပါးသောသူရဲ့ အပြစ် ကြားသည်ကို သည်း
ကြောင်း ခွင့်တောင်း ကန်တော့သည်ကို ကျေကျေ
ခွင့်လွှတ်သည်းခံကြတဲ့ထုံးကို နှလုံးမူပြီး မိမိက ကန်
ပုဂ္ဂိုလ်ဖြစ်တဲ့အခါ သူတစ်ပါး၏ အပြစ်ကို ကျေကျေ
ခွင့်လွှတ် သည်းခံခြင်းဖြင့် ပညာရှိ အဖြစ် ခံယူနိုင်
အထူး သတိပြုကြရပါမယ်။

မေး။ ။ဩကာသ ကန်တော့ခန်းကို ဘယ်ခေတ် ဘယ်ဆရာတော် စီစဉ်ရေးသားခဲ့ပါသလဲ။

ဖြေ။ ။ဩကာသ ကန်တော့ခန်းကို ဘယ်ခေတ် ဘယ်ဆရာတော် ရေးသားခဲ့တယ်လို့ မှတ်တမ်း အထိုင် ရှာမတွေ့သေးပါဘူး။ ပုဂံပြည် အနော်ရထာစော ထက် သထုံမှ မွန်ရဟန်းတော် ရှင်အရဟံဟာ ထေရ ဗုဒ္ဓဘာသာ မျိုးစေ့ကို စတင်ချပေးတဲ့ ပုဂ္ဂိုလ်ဖြစ်တဲ့အ ဩကာသ ကန်တော့ခန်းကိုလဲ ရှင်အရဟံပင် စီစဉ်ရေး ခဲ့ပေလိမ့်မယ်လို့ ခန့်မှန်းကြပါတယ်။

မွန်လူမျိုးတွေထဲမှာ ဩကာသနဲ့စတဲ့ မွန် ကန်တော့ နဲ့ ကန်တော့တဲ့ ဓလေ့အလာဟာ ယခုတိုင် ရှိနေသေး အတွက် အထက်ပါ ခန့်မှန်းချက်ဟာ ဟုတ်လောက် ရှိပါတယ်။ ဒါပေမယ့် စကားလုံးဖွဲ့စည်းပုံနဲ့ ဝါကျတ ဆောက်ပုံကို ကြည့်ပြီး ပုဂံခေတ် မြန်မာစာ အရေးအသား မဟုတ်နိုင်ဘူးလို့ တချို့ပညာရှင်တွေက ယူဆကြတယ်။ မွန် မွန်ရဟန်းတော် ရှင်အရဟံမထေရ်က ရေး မွန်ဆရာတော် ကြီးများ စီစဉ်ရေးသားသည့် မွန်ကန်တော့ခန်းကို မှီငြမ်း ပြု၍ မြန်မာဘာသာဖြင့် တီထွင်ချက်ကို ပုဂံ၊ ပင်းယ၊ အင်းဝ



ကုန်းဘောင် မြန်မာဆရာတော် အစဉ်အဆက်တို့က ခေတ်နဲ့ ညီ ပြင်ဆင်ရေးသားလာခဲ့တယ်လို့ မှတ်ယူနိုင်ပါတယ်။

ဆရာတော် ခင်ကြီးပျော် ရေးသားတယ်လို့ တစ်ဆင့်ကြား မှတ်တမ်းတင်ထားချက် တချို့တော့ ရှိတယ်၊ သုတေသီ အများစုက လက်မခံကြပါဘူး။ ပင်းယခေတ် ပဲ့ရှုးကြီး ထရာဇာက ဩကာသ ဒီပနီပါဌ်ကို ရေးခဲ့တယ်ဆိုတော့ ဒီကန်တော့ခန်းဟာ ခင်ကြီးပျော် မတိုင်မီကတည်းက ရှိနှင့်ပြီး ဖြစ်ရမယ်လို့ ယူဆရပါမယ်။

မေး။ ။ကန်တော့ခြင်း ဘယ်နှစ်မျိုး ရှိသလဲ။

ဩကာသဟာ ဘာ ကန်တော့မျိုးလဲ။

ဖြေ။ ။ကိုယ်က ပြစ်မှားမိလို့ အပြစ်ပြေရာပြေကြောင်း ပြန်ကန်တော့တဲ့အခါမှာ ကန်တော့ပုံ ကန်တော့နည်းက သုံးမျိုးရှိတယ်။ တိုက်ရိုက်ကန်တော့နည်း နှစ်မျိုးနဲ့ ကိုယ်စား ကန်တော့နည်းက တစ်မျိုးဖြစ်တယ်။ ကြီးသူက ငယ်သူကို ပြစ်မှားမိတဲ့အခါကျတော့ ပြစ်မှားခံရတဲ့ လူငယ် ဂုဏ်ငယ် ထုတ် သွားပြီး မာန်မာနနှိမ့်ချတဲ့ အမူအရာ အသံ အနေ အထားနဲ့ ငါကတော့ သင့်ကို ပြစ်မှားမိတယ်။ ဒီအပြစ်ကို သည်းခံပါလို့ ဝန်ချတောင်းပန်ရမယ်၊ ဒါကို ခမာပန၊ သည်းခံစေခြင်း၊ အစ္စယဒေသနာ အပြစ်ကို ပြောကြား ကုစား ခြင်းလို့ ခေါ်တယ်။

ငယ်သူက ကြီးသူကို ပြစ်မှားမိတဲ့အခါကျတော့ အပြစ်မှား ခံရတဲ့ ပုဂ္ဂိုလ်ရှေ့မှာ အရိုအသေ ထိုင်ပြီး တပည့်တော် ကျွန်တော် ကျွန်မ ဒီအပြစ်ကို ပြစ်မှား ကျူးလွန်မိတယ်။ ဒီအပြစ်ကို သည်းခံခွင့်လွှတ်ပါဆိုပြီး ရှိခိုးကန်တော့ရတယ်။

ကိုယ်စား ကန်တော့တယ်ဆိုတာကတော့ ပြစ်မှားမိ သူဟာ ကန်တော့ခံနိုင်တဲ့ အခြေအနေမရှိဘူး။ သေ သေသွားမယ်၊ အဝေးရောက်ချင် ရောက်နေမယ်။ တစ် တလောကျတော့ အမှတ်တမဲ့ ဘယ်သူ့ကို ဘယ်တုန်း ဘယ်လိုပြစ်မှားမိမှန်း မသိတာလဲ ရှိတယ်။ အဲဒီလို အခါမျိုး ကျတော့ အပြစ်မှားခံရသူရဲ့ ကိုယ်စား ရတနာသုံးပါး ကန်တော့ရတယ်။ ဒါကြောင့် ဩကာသ ကန်တော့ကြီး ဒီလို ကိုယ်စား ကန်တော့တဲ့အခါမှာ ဆိုရတဲ့ ကန်တော့ကြီး ဖြစ်တယ်။

မေး။ ။ဩကာသမှ ဘယ်နှစ်မျိုးရှိသလဲ။

ဖြေ။ ဩကာသဟာ မူအမျိုးမျိုးရှိတယ်။ မူအမျိုးမျိုး ဆိုပေမယ့် ဩကာသ၊ ဩကာသစပြီး...ပထမ၊ ဒုတိယ တတိယအထိသာ ကွဲလွဲကြတာများတယ်။ ကျန်တာတွေ တော့ အတူတူလိုပဲ။ ဒီလိုရှေ့ပိုင်းမှာ ကွဲလွဲရတာတာ ရှေ့မှာ ရေးခဲ့တဲ့အတိုင်း မူလ ဩကာသ ကန်တော့ခန်းကို ဩကာသ ဘုရားရှိခိုးအဖြစ် ပြောင်းလိုက်တဲ့အတွက် ဖြစ်တယ်။ ဒီတော့ မူလကန်တော့ခန်း၊ ဩကာသကို ဖပြည့်အစုံ ရေး မယ်၊ နောက်မှ ကာလဒေသအလျောက် ပြင်ဆင် ပြောင်းလဲ တွေကိုတော့ ကွဲသွဲတဲ့ နေရာအထိပဲ မူကွဲအနေနဲ့ ရေးပြမယ်။ မူကွဲတွေကိုလဲ အားလုံး ရေးပြမနေဘဲ အသုံးများရာ မူကွဲ လောက်သာ ရေးပြမယ်။

## ဩကာသ ကန်တော့ခန်း

ဩကာသ၊ ဩကာသ၊ ဩကာသ၊ ကာယကံ၊ ဝစီကံ၊ မနောကံ တည်းဟူသော ကံသုံးပါးတို့တွင် တစ်ပါးပါး



သော ကံဖြင့် ပြစ်မှားမိသည်ရှိသော် (ကံကို ပြုမှားမိသည်ရှိ သော်) ထိုအပြစ်တို့ကို ပျောက်ပါစေခြင်း အကျိုးငှာ ပထမ၊ ဒုတိယ၊ တတိယ၊ တစ်ကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ်မြောက်အောင် ဘုရားရတနာ၊ တရားရတနာ၊ သံဃာရတနာ၊ ရတနာမြတ် သုံးပါးတို့ကို အရိုအသေ အလေးအမြတ် လက်စုံမိုး၍ ရှိခိုး ပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ပါ၏ အရှင်ဘုရား။

ကန်တော့ရသော ကုသိုလ်ကံ စေတနာတို့ကြောင့် အပါယ် လေးပါး၊ ကပ်သုံးပါး၊ ရပ်ပြစ်ရှစ်ပါး၊ ရန်သူမျိုးငါးပါး၊ ဗျသနတရားငါးပါးတို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းသည် ဖြစ်၍ အဆုံးစွန်သောဘဝ၌ မဂ်တရား၊ ဖိုလ်တရား နိဗ္ဗာန် တရားတော်မြတ်ကို ရလိုပါ၏ အရှင်ဘုရား။

## ကန်တော့ခန်းမူကွဲ

ဩကာသ၊ ဩကာသ၊ ဩကာသ၊ ကာယကံ၊ ဝစီကံ၊ မနောကံ သမ္မာဒေါသ စပ်သိမ်းသော အပြစ်တို့ကို ပျောက်ပါ စေခြင်း အကျိုးငှာ ပထမ၊ ဒုတိယ၊ တတိယ...

## ဩကာသ ဘုရားရှိခိုးမူကွဲ

ဩကာသ၊ ဩကာသ၊ ဩကာသ၊ ကာယကံ၊ ဝစီကံ၊ မနောကံ ကံသုံးပါးတို့ဖြင့် ဘုရားရတနာ၊ တရားရတနာ၊ သံဃာရတနာ...

## ဘုရားရှိခိုး မူကွဲ

ဩကာသ၊ ဩကာသ၊ ဩကာသ၊ ကာယဒွါရ၊ ဝစီ ဒွါရ၊ မနောဒွါရတည်း ဟူသော သုံးပါးသော ဒွါရတို့ဖြင့် ဘုရားရတနာ၊ တရားရတနာ၊ သံဃာရတနာ...

## ကန်တော့ရှိခိုးမှုကွဲ

ဩကာသ၊ ဩကာသ၊ ဩကာသ၊ ကာယကံ၊ မနောကံတည်း ဟူသော အပြစ်ခပ်သိမ်း ပပျောက် အသက်ရှည်စွာ အနာမဲ့ရေး ရန်ဘေးကင်းကြောင်း မင်္ဂလာ ဖြစ်ပါစေခြင်း အကျိုးငှာ ဘုရားရတနာ၊ ရတနာ၊ သံဃာရတနာ....

မေး။ ။ဩကာသ ကန်တော့ခန်းကို စီစဉ်တဲ့ တော်ရဲ့ ရည်ရွယ်ချက်က ဘာလဲ။

ဖြေ။ ။ဩကာသမှုကွဲ ငါးမျိုးမှာ ပထမနှစ်မျိုးက လာခဲ့သော အစဉ်လျှောက် အဆိုအနည်းငယ် ကွဲပြားပေမယ့် ရွယ်ချက်နဲ့ အဓိပ္ပာယ်က အတူတူပဲဖြစ်တယ်။ အခုမထင် က ပြီး အခုဘဝ၊ လွန်ခဲ့တဲ့ အတိတ်ကာလတွေမှာ ရ သုံးပါး ထူးရာမိဘနဲ့ အပေါင်းအသင်း မိတ်ဆွေသင်္ဂဟအ မှာ ကိုယ်နဲ့ စိတ်နဲ့ နှုတ်နဲ့ ဖြစ်မှား ကျူးလွန်မိတဲ့ အပြစ် တစ်ရာ ရှိကောင်းရှိမယ်၊ ကာယသုံးမျိုး၊ ရှိခဲ့ရင် ထို များ ပပျောက်ဖို့အတွက် ရတနာသုံးပါးကို ရှိခိုးကန်တော ကန်တော့ကြီး ဖြစ်တယ်။

ဒါနမှု၊ သီလမှု၊ ဘာဝနာမှု တစ်ခုခု လုပ်တယ်ဆို ကုသိုလ်ရဖို့ ဖြစ်တယ်။ ကုသိုလ်ဆိုတာလဲ လူနတ် နိဗ္ဗာန် တန်ခိုးသော အကျိုးကို ခံစားရဖို့ ဖြစ်တယ်။ ကုသိုလ် ဟာ ကာယကံ၊ ဝစီကံ၊ မနောကံ အပြစ်တွေကို အခြေ မယ်ဆိုရင် ပြုတဲ့ ကုသိုလ်ဟာ အကျိုး မဖြစ်ထွန်းဘူး။ ကြောင့် ကုသိုလ်တစ်ခုခု မပြုခင်မှာ မိမိမှာ ရှိကောင်းရှိနေ



အပြစ်တွေ ကင်းစင်နေဖို့အတွက် ရတနာသုံးပါးကို တော့ဖို့ ဒီဩကာသ ကန်တော့ကြီးကို စီစဉ်ထားခြင်း ဖြစ်။

မေး။ ။ဩကာသ ဘုရားရှိခိုးကို စီစဉ်တဲ့ ဆရာတော်ရဲ့ ယ်ချက်က ဘာလဲ။

ဖြေ။ ။ကန်တော့တယ်ဆိုတာက အပြစ်ပျောက်ဖို့ ကန် သာ။ ဒီအပြစ်ကလဲ တကယ်ရှိမရှိ အတတ် သိရတာ တ်ဘူး။ အပေါ်ပေါ်သောကဖြင့် ဖြစ်မှားမိသည် ရှိသော် ကိုက မသေချာတဲ့ သဘောကို ပြနေတယ်။ ဖြစ်မှားမိတဲ့ ရှိရင်တော့ ကန်တော့ရလို့ အပြစ် ပြေပျောက်နိုင်ပေ ဖြစ်မှားမိတဲ့ အပြစ်မရှိရင် ကန်တော့လို့ ဘာအကျိုးမှ မဟုတ်ဘူး။ ရတနာသုံးပါးကို ရှိခိုးပူဇော်တာကတော့ အကျိုးခံစားရမှာ ဖြစ်တယ်။ အကျိုးရမှု မသေချာတဲ့ ရည်မှန်းဆ ကန်တော့တာထက် အကျိုးရမှု သေချာတဲ့ ပူဇော်တာက ပိုကောင်းတယ်ဆိုပြီး ဩကာသ ကန်တော့ ကို ဩကာသ ဘုရားရှိခိုးအဖြစ် ပြောင်းလဲ စီစဉ်လိုက်ပုံ ယ်။

မေး။ ။ကာယဒွါရ၊ ဝစီဒွါရ၊ မနောဒွါရ တည်းဟူ သာ သုံးပါးသော ဒွါရတို့ဖြင့် ဩကာသ ဘုရားရှိခိုးကိုတီထွင် ဆရာတော်ရဲ့ အာဘော်က ဘယ်လိုလဲ။

ဖြေ။ ။ဩကာသ ကန်တော့ကြီးကို ဩကာသဘုရားရှိခိုး ပြောင်းခဲ့တဲ့ ဆရာတော်ရဲ့ မူရင်းမှာ ကာယကံ၊ ဝစီကံ၊ မနောကံတည်းဟူသော ကံသုံးပါးတို့ဖြင့်လို့ ထွင်ခဲ့ပုံရတယ်။

ယနေ့တိုင် အများစုကလဲ ဒီအတိုင်းပဲ ဆိုနေကြတယ်။ ဒါ ပေမယ့် ၁၂၁၇-ခုနှစ်လောက်တုန်းက အုတ်ဖိုမြို့ ရွှေဆံတော် စေတီအရှေ့ ဥပုသ်စရပ် တခုမှာ ဥပုသ်သည် တစ်ယောက် ကာ ကံ စေတီကံ မှန်တယ်၊ ကျ တစ်ယောက ကာယဒွါရ ဝစီဒွါရ မှန်တယ်ဆိုပြီး အငြင်းပွားကြတယ်။ ဒီကာသတစ်ယောက အုတ် ဆရာတော်ကြီးထံ သွားလျှောက်ထားကြတဲ့အခါ ဆရာတော် ကြီးက တိကအဋ္ဌကထာ ဝန္နနာသုတ်ကို ကိုးကားပြီး ဒွါရမြို ရှိခိုးတာ မှန်တယ်လို့ ဆုံးဖြတ်လိုက်တယ်။ ဒကာ အချို့က ကျေးသံလောထင် ဆရာတော်ဘုရားကြီးထံ သွားလျှောက်တဲ့ အခါ ကံမြင့် ရှိခိုးကန်တော့တာ မှန်တယ်လို့ ဆုံးဖြတ် လိုက်တယ်။ အဲဒီအချိန်ကစပြီး ဩကာသဟာ ကာယကံ ဝစီ ကံနဲ့တစ်မျိုး၊ ကာယဒွါရ ဝစီဒွါရနဲ့ တစ်မျိုးဆိုပြီး နှစ်မျိုး ကွဲခဲ့တယ်။

အဲဒီ ကံဒွါရကိစ္စ မပေါ်မီ အုတ်ဖို ဆရာတော်ကြီးနဲ့ ကျန် သံဃာတော် တစ်ပါးဟာ ဂါထာနဲ့ ဆက်ထားတဲ့ ရေ သိမ်ကိစ္စနဲ့ ပတ်သက်ပြီး ဂိုဏ်းကွဲနေတယ်။ ဘာဂိုဏ်းရယ်လို့ နာမည် သီးခြား မရှိသေးဘူး။ အုတ်ဖို ဆရာတော်ကြီးက ဩကာသ ဩကာသ ဩကာသ ကာယဒွါရ ဝစီဒွါရ စသဖြင့် ရှိခိုးလို့ ဒွါရဂိုဏ်းလို့ နာမည် တွင်လာပြီး ကျန်သံဃာ ဂိုဏ်းက ကာယကံ ဝစီကံနဲ့ ရှိခိုးလို့ ကံဂိုဏ်းဆိုပြီး တွင်လာ တယ်။ သုဓမ္မာဂိုဏ်း၊ ရွှေကျင်ဂိုဏ်းတွေကလဲ ကာယကံ ဝစီ ကံပဲ အသုံးများလို့ ဒွါရဂိုဏ်းက ကျန် သံဃာဂိုဏ်းအားလုံးကို ကံဂိုဏ်းလို့ ခေါ်တယ်။ ကံမှန်တယ်။ ဒွါရမှန်တယ် ဆိုတဲ့ ပြဿနာဟာ မင်းတုန်းမင်းလက်ထက် သုဓမ္မာသံဃာ အစည်း



ထိ ရောက်သွားတယ်။ သာသနာပိုင် မောင်းထောင် တော်က နှစ်မျိုးလုံး မှန်တယ်လို့ ဆုံးဖြတ်တယ်။ ဒါကြောင့် ဖြစ် ဒွါရနဲ့ ဖြစ်ဖြစ် မိမိတို့ကြိုက်ရာ မိမိတို့ရရာ ဩကာသ နိုင်တယ်။

မေး။ ။ဩကာသကို ဘုရားရှိခိုး ကန်တော့ကြီး ဖြစ် တီထွင်တဲ့ ဆရာတော်ရဲ့သဘောက ဘယ်လိုလဲ။

ဖြေ။ ။ဩကာသကို ကန်တော့ကြီး အနေနဲ့ ဆိုပြီး တော့ရင် အပြစ်ရှိရင် အပြစ်ပျောက်မယ်။ အပြစ်မရှိရင် မရဘူး။

ဩကာသကို ဘုရားရှိခိုး အနေဆိုပြီး ရှိခိုးပြန်ရင် ရှိခိုးတဲ့ ရမယ်။ ဖြစ်မှားမိတဲ့ အပြစ်ရှိရင် မပြေပျောက်ဘူး။

ဩကာသ ကန်တော့ကြီးနဲ့ ဘုရားရှိခိုး နှစ်မျိုးလုံးဟာ တစ်ဖက်လှည့် ဖြစ်နေတယ်။ အပြစ်လဲပျောက် လဲရအောင်ဆိုပြီး ဩကာသကန်တော့ခန်း ဘုရားရှိခိုး တီထွင်လိုက်တယ်။ ကာယကံစတဲ့ အပြစ်တွေပျောက်ဖို့ တော့ပါ၏။ အသက်ရှည်ခြင်း စတဲ့ အကျိုးတွေရဖို့ ရှိခိုး ပါ၏လို့ ရှိခိုးကန်တော့တယ်။

မေး။ ။ဩကာသ အမျိုးမျိုးထဲမှာ ဘယ်မူဟာ ပင်ရင်း လဲ။

ဖြေ။ ။ဩကာသအမျိုးမျိုးဟာ သူ့နည်းနဲ့ သူတော့ ရှိတာချည်းပဲ။ ဒါပေမယ့် ဩကာသ ကန်တော့ခန်း မူရင်းဖြစ်ဖို့ များတယ်။ အထက်အောက် မြန်မာပြည် ကြတာလဲ ကန်တော့ကြီး ဩကာသပဲ ဖြစ်ပါတယ်။ ထေရဝါဒ ဗုဒ္ဓဘာသာကို စောပြီး ကိုးကွယ်

နေကြတဲ့ မွန်လူမျိုးတွေရဲ့ ဩကာသကို ကြည့်ရင်လဲ ဘုရားရှိခိုး မဟုတ်ဘဲ ကန်တော့ခန်းဖြစ်တာ ထင်ရှားပါတယ်။ ဒါ့ပြင် သီလ ဘာဝနာ ကုသိုလ်ကံစုရဲ့ အဦးအစမှာ ပြုလုပ်တဲ့ ဩကာသဟာ သီးခြားကုသိုလ်တစ်ခုရဖို့ထက် ရမယ့် ကုသိုလ်တွေ အကျိုးပေးထက်သန်အောင် ပြုလုပ်သူမှာ အပြစ်ကင်းစေဖို့ ဆိုတာက ပိုပြီး အဓိက ကျပါတယ်။ ကန်တော့ခြင်း ဩကာသဟာ မှုရင်းဖြစ်ပုံ ရပါတယ်။ ဒါကြောင့် မှုရင်းဖြစ်ပုံရတဲ့ ဩကာသ ကန်တော့ခန်းကိုပဲ ဆက်လက် ရှင်းပြသွားမယ်။

မေး။ ။ကိုယ်၊ နှုတ်၊ စိတ်နှလုံးသုံးပါးမှာ တစ်ပါးပါးနဲ့ ပြစ်မှားပြီးတဲ့လူဟာ ဝန်ချကန်တော့ခြင်း မပြုရင် ဘာဖြစ်သလဲ။

ဖြေ။ ။ပုထုဇဉ်သဘာဝ လူလူချင်း ဆက်ဆံကြတဲ့နေရာမှာ တစ်ဦးကိုတစ်ဦးက အပြန်အလှန် ပြစ်မှားမိတတ်ကြတယ်။ မိမိပြစ်မှားမိတဲ့ အပြစ်ကို အပြစ်တစ်ခုအနေနဲ့ မရှုတဲ့လူ၊ အပြစ်ရှိမှန်း သိပေမယ့် ဝန်ချကန်တော့ခြင်း မရှိတဲ့လူကို လူမိုက်ဖြစ်တယ်လို့ အင်္ဂုတ္တိုရ် အစ္စယသုတ်မှာ ဟောထားတယ်။ ရေကြောင့်ဖြစ်တဲ့ နွံ ကို ရေနဲ့ပဲ ပြန်ဆေးရသလို စိတ်ကြောင့်ဖြစ်တဲ့ ပြစ်မှားမှုကိုလဲ မာန်မာန နှိမ့်ချတဲ့စိတ်နဲ့ပဲ ဝန်ချကန်တော့ရုံနဲ့ ပြေပျောက်နိုင်တယ်။

ငွေမကုန် လူမပန်းဘဲ ဝန်ချတောင်းပန်ရုံ လွယ်လွယ်လေးနဲ့ ပျောက်နိုင်တဲ့ အပြစ်တစ်ခုကို ဂုဏ်သိက္ခာအကျခံပြီး သူ့ကို ဘာလို့ ကန်တော့ရမှာလဲ ဆိုတဲ့ မာန်မာနလေးကြောင့် မကန်တော့ဘဲ သံသရာကြွေးအဖြစ်နဲ့ ဘဝသံသရာ အဆက်



ဆက် ဘယ်ဆောင်သွားမယ်ဆိုရင် ဒီထက် မိုက်တဲ့ လူဟာ လောကမှာ မရှိတော့ဘူး။

အပြစ်ကို အပြစ်ဟု ရှုတဲ့လူ၊ ထိုအပြစ်ကို ဝန်ချတောင်းပန်ကန်တော့ခြင်းဖြင့် ကုစားတဲ့လူဟာ ပညာရှိ သူတော်ကောင်းဖြစ်တယ်လို့ တိကအင်္ဂုတ္တိုရ် အစ္စယသုတ်မှာပဲ ဆက်ဟောထားတဲ့အတွက် ပုထုဇဉ်သဘာဝ လွန်ကျူးမိတဲ့ ပြစ်မှားမှုတွေကို မာန်မာန နှိမ့်ချကန်တော့ခြင်းဖြင့် သံသရာကြွေးကင်းသော ပညာရှိ သူတော်ကောင်းအဖြစ် ခံယူနိုင်ကြပါစေ။

မေး။ ။ဗုဒ္ဓဘာသာတွေဟာ ရတနာသုံးပါးကို ပြစ်မှားတဲ့လူ မရှိပါဘူး။ ဒါကြောင့် ရတနာသုံးပါးကို ကန်တော့တာဟာ အပိုဖြစ်မနေဘူးလား။

ဖြေ။ ။အရာရာကို ဝေဖန် ဆန်းစစ်ပြီးမှ လက်ခံတဲ့ခေတ်မှာ ဒီမေးခွန်းကို မကြာခဏ ကြားနေရတယ်။ အမှန်မှာတော့ ရတနာသုံးပါးကို ပြစ်မှားမိလို့ ကန်တော့တာ မဟုတ်ဘူး။ အိမ်ထောင်စုတစ်ခုအတွင်း၊ အလုပ်ဌာန ကျောင်းတွေနဲ့ ရပ်ကွက် မြို့ရွာ လူ့အဖွဲ့အစည်း တစ်ရပ်အတွင်းမှာ သိသင်တင် ဖြစ်ဖြစ်၊ မသိမသာဖြစ်ဖြစ် ပြစ်မှားကျူးလွန်မှုတွေကို ပြုလုပ်မိတတ်ကြပါတယ်။ ဒါ့ပြင် သားသမီးနဲ့ မိဘ ဆရာနဲ့ တပည့် ညီအစ်ကို မောင်နှမ လုပ်ဖော် ကိုင်ဖက် အချင်းချင်း ပြစ်မှားမိတဲ့ အပြစ်တွေပျောက်ဖို့ ပြစ်မှားခံရတဲ့ ပုဂ္ဂိုလ်ကိုယ်စား ဗုဒ္ဓဘာသာတွေရဲ့အမြတ်ဆုံး အလေးစားအပ်ဆုံးဖြစ်တဲ့ ရတနာသုံးပါးကို ကန်တော့ရခြင်း ဖြစ်တယ်။ ဒါကြောင့် ရတနာသုံးပါးကို မပြစ်မှားပေမယ့် ကန်တော့

တာဟာ အပိုမဟုတ်ပါဘူး၊ ဖြစ်မှားခံရတဲ့လူ မရှိတော့တဲ့ အခါ ဘယ်တုန်းက ဘယ်သူ့ကိုဖြစ်မှားမိတယ်လို့ မသိတဲ့ အခါ လေးစားအပ်တဲ့ ပုဂ္ဂိုလ် တစ်ယောက်ယောက်၊ ဒါမှ မဟုတ် ရတနာသုံးပါးကို ကန်တော့ရမယ်လို့ ရှေ့မှာ ညွှန်ကြားဖော်ပြထားခဲ့ပါပြီ။ ဒါကြောင့် ရတနာ သုံးပါးကို ကန်တော့တာဟာ မမှားပါဘူး။

မေး။ ။ကန်တော့ခန်းအစ ဩကာသ ဩကာသဆိုတာ ဘာအဓိပ္ပာယ်လဲ။

ဖြေ။ ဩကာသဆိုတဲ့ စကားလုံးဟာ ပါဠိစကားလုံး ဖြစ်တယ်။ ဒီဩကာသပုဒ်ဟာ အဓိပ္ပာယ်အမျိုးမျိုး ဖြစ်နိုင် ပေမယ့် ဒီနေရာမှာတော့ အခွင့်လို့ အဓိပ္ပာယ်ရှိတယ်။ ပါဠိ ကျမ်းဂန်တွေမှာ တစ်စုံတစ်ယောက် လျှောက်ထား မေးမြန်းချင် တဲ့အခါ "ဩကာသံကရောဟိ" "အခွင့်ပြုတော်မူပါ ဘုရား" "ဩကာသံဒေဟိ" "အခွင့်ပေးတော်မူပါဘုရား" လို့ ခွင့်ပန်ပြီးမှ မေးလျှောက်လေ့ ရှိတယ်။ အဲဒီ ပါဠိတော် အစဉ်အလာကို မှီငြမ်းပြုပြီး "ကရောဟိ" "ဒေဟိ" ဆိုတဲ့ ကြိယာကို ဖြုတ်ပြီး ဩကာသ ဩကာသ ဩကာသ ရှိခိုး ကန်တော့ပါရစေ ဘုရား၊ ရှိခိုး ကန်တော့ပါရစေ ဘုရား၊ ရှိခိုးကန်တော့ပါရစေ ဘုရားလို့ ကန်တော့ ခွင့်တောင်းခြင်း ဖြစ်တယ်။ နှစ်ကြိမ် သုံးကြိမ် ဆိုတာကတော့ ရိုသေလေးစား မှုကို ပြဖို့အတွက် ဖြစ်ပါတယ်။ ပိဋကတ်ပါဠိ ယဉ်ကျေးမှု ကို ယူပြီး သီဟိုဠ်ဘာသာတွေကလဲ "အဝကာသ" လို့ ခွင့် တောင်းကြပြီး မွန်လူမျိုးတွေကလဲ "ဩက္ကာသ-ဩက္ကာသ" လို့ ခွင့်တောင်းကြတယ်။ ဩကာသဆိုတဲ့ စကားလုံးဟာ ပါဠိဘာသာက ဆင်းသက်လာတဲ့ သီဟိုဠ်၊ မွန်၊



…ယဉ်ကျေးမှု စကားလုံး ဖြစ်တယ်လို့ မှတ်သားရ…

…မေး။ ။ရတနာသုံးပါးကို ရှိခိုးကန်တော့တာ နှုတ်…င်းဖို့ လိုသေးသလား။

…ဖြေ။ ။လိုပါတယ်။ ကန်တော့တယ်ဆိုတာက ကိုယ်က …ားမိလို့ ကိုယ့်အပေါ်မှာ ကျရောက်နေတဲ့ အပြစ်တွေကို …ကင်းဖို့ ဝန်ချကန်တော့ခြင်းဖြစ်တယ်။ ဒါကြောင့် ကန် …တော့ခံတဲ့ ပုဂ္ဂိုလ်က ကျေနပ်ခွင့်လွှတ် သည်းခံချင်အောင် …တော့ခွင့်တောင်းရခြင်း ဖြစ်တယ်။

…ဩကာသ ဩကာသ ကန်တော့ပါရစေ၊ ကန်တော့ခွင့် …ပါဆိုတဲ့ ခွင့်တောင်းခြင်းကို ရှေ့ဆုံးကထားတာကိုထောက်ပြီး …ဩကာသ ဆိုရိုးဟာ ကန်တော့ခန်း ဖြစ်တယ်။ ဘုရားရှိခိုး …၊ မဟုတ်ဘူးလို့ ရှေ့မှာဖော်ပြခဲ့ခြင်း ဖြစ်ပါတယ်။ …ကယ်၍သာ ရတနာသုံးပါးကို ရိုသေလေးစားလို့ ရှိခိုးမှု …ဝင်သက်ဆိုရင် ဩကာသ နိဒါန်း မျိုးပြီး ကန်တော့ခွင့် …တောင်းစရာမလိုဘူး။ အခုတော့ ကန်တော့ခန်းဖြစ်တဲ့အတွက် …ကာသ၊ ဩကာသ၊ ဩကာသလို့ ကန်တော့ခွင့်တောင်း …ခြင်းဖြစ်တယ်။ ပိဋကတွေထဲမှာလဲ ခွင့်တောင်းပြီးတော့မှ …ရှိခိုးတာ မတွေ့ရပါဘူး။ ဒါကြောင့် မှသ ဩကာသဟာ …ကန်တော့ခန်းလို့ မှတ်ယူကြရပါမယ်။

မေး။ ။ဩကာသမှာပါတဲ့ ကာယကံ၊ ဝစီကံ၊ မနောကံ …တာက ဘာလဲ။

ဖြေ။ ။ဩကာသ မှုကွဲပါးမျိုးမှာ ရှေ့နှစ်မျိုးက ကန် …တော့ခန်း၊ ဒုတိယနှစ်မျိုးကတော့ ဘုရားရှိခိုး၊ နောက်ဆုံး …က ရှိခိုးကန်တော့ကြီးဆိုပြီး သုံးမျိုးကွဲနေတာကို ပြောခဲ့ပြီ။

ကန်တော့ခန်းမှာပါတဲ့ ကာယကံ စသည်နဲ့ ဘုရားရှိခိုးမှာပါတဲ့ ကာယကံ စသည်ဟာ မတူဘူး။ ကန်တော့ခန်းမှာပါတဲ့ ကာယကံ၊ ဝစီကံ၊ မနောကံ ဆိုတာက ပြစ်မှားကျူးလွန် စေတနာကြောင့်ဖြစ်တဲ့ ကိုယ်၊ နှုတ်၊ စိတ်နဲ့ ပြစ်မှား ကျူးလွန်မှု အကုသိုလ် ဒုစရိုက်တွေ ဖြစ်တယ်။ ကိုယ်၊ နှုတ်၊ စိတ်နဲ့ ပြစ်မှားကျူးလွန်မိတဲ့ အပြစ်တွေ ပျောက်အောင် ရတနာသုံးပါးကို ကန်တော့ပါလို့ ဆိုလိုတယ်။ ဩကာသ ဘုရားရှိခိုးမှာပါတဲ့ ကာယကံ၊ ဝစီကံ၊ မနောကံ တွေကတော့ ဒူးပုဆစ်တုပ်ကာ လက်အုပ်ချီ ဝပ်ချပြီး ကိုယ်ကာယဖြင့် ရှိခိုးခြင်း၊ အစိန္တေယျ၊ အပ္ပမေယျစသည် ရွတ်ဆိုကာ နှုတ်ဖြင့် ရှိခိုးခြင်း၊ အရဟံစတဲ့ ဂုဏ်တော်တွေကို ဆင်ခြင်အောက်မေ့ နှလုံးသွင်းကာ စိတ်နဲ့ ရှိခိုးခြင်းဆိုတဲ့ ကုသိုလ်စေတနာတွေ ဖြစ်ပါတယ်။ ကိုယ်နဲ့ နှုတ်နဲ့ စိတ်နဲ့ ရတနာသုံးပါးကို ရှိခိုးပါတယ်လို့ ဆိုလိုပါတယ်။

မေး။ ။ကန်တော့ခန်းမှာပါတဲ့ ကာယကံ ဆိုတာ ဘာလဲ။

ဖြေ။ ။ကာယကံဆိုတာက ကာယကမ္မဆိုတဲ့ ပါဠိဘာသာက ဆင်းသက်လာတဲ့ စကားလုံးပဲ။ ကိုယ်ထိလက်ရောက် ပြုလုပ်မှုလို့ အဓိပ္ပာယ်ရတယ်။ (၁) သူတစ်ပါး အသက်ကို ကိုယ်ထိလက်ရောက် သတ်ခြင်း။ (၂) သူ့ဥစ္စာကို ခိုးခြင်း။ (၃) သူတစ်ပါးသားမယားကို ပြစ်မှားကျူးလွန်ခြင်း သုံးပါးကို ကာယကံ (၃)ပါး ကာယဒုစရိုက် သုံးပါးလို့ ခေါ်တယ်။ မိဘလူကြီး ဆရာသမားတွေကို မရိုမသေ ကိုယ်ထိလက်ရောက် ပြုမူခြင်း၊ မိဘ စသည်တို့အပေါ် ကျော်လွှားခြင်း၊ ကျော်လွှား၍ ပစ္စည်းများ ပေးယူခြင်း၊ ခြေဆောင့်ခြင်း၊ လက်သီး တုတ် ဓား စသည်ဖြင့် ခြိမ်းခြောက်ခြင်း၊ ကိုခုတ်ရိုက်နှက်ခြင်း စတဲ့ အပြုအမူတွေဟာ ကာယကံအပြစ်တွေ ဖြစ်တယ်။



မေး။ ။ကန်တော့ခန်းမှာပါတဲ့ ဝစီကံဆိုတာ ဘာလဲ။

ဖြေ။ ။ဝစီကံဆိုတာ ဝစီကမ္မဆိုတဲ့ ပါဠိစကားက ဆင်းသက်တဲ့ စကားဖြစ်တယ်။ နှုတ်ဖြင့်ပြောဆိုမှုလို့ အဓိပ္ပာယ်ရတယ်။ ဝစီကံက လေးပါးရှိတယ်။ (၁) မုသာဝါဒ ၊ လိမ်ပြောခြင်း၊ (၂) ပိသုဏာဝါစာ ကုန်းတိုက် ပြောဆိုခြင်း၊ (၃) ဖရုသဝါစာ ကြမ်းကြမ်းတမ်းတမ်း ရိုင်းရိုင်းပြပြပြောဆိုခြင်း၊ (၄) သမ္ဖပ္ပလာပဝါစာ အကျိုးမရှိသော စကားကို ပြောဆိုခြင်းဆိုပြီး လေးပါးရှိတယ်။ တစ်ဖက်သား အကျိုး ထိခိုက် ပျက်ပြားအောင်၊ စိတ်မချမ်းသာအောင် ဆဲ ရေး ခြိမ်းခြောက် ဖြစ်တင်ကဲ့ရဲ့ခြင်း၊ ဆရာ မိဘတွေကို ပြန်ပြောခြင်း၊ အော်ခြင်း၊ ခေါ်ခြင်းစတဲ့ အပြစ်တွေဟာ ဝစီကံအပြစ်တွေ ဖြစ်တယ်။

မေး။ ။ကန်တော့ခန်းမှာပါတဲ့ မနောကံဆိုတာ ဘာလဲ။

ဖြေ။ ။မနောကံဆိုတာ စိတ်ဖြင့်ပြစ်မှားခြင်း ဖြစ်တယ်။ မနောကံ (၃)မျိုးရှိတယ်။

(၁) အဘိဇ္ဈာ-သူတစ်ပါးစည်းစိမ်ကို မတရားကြံစည်မှု
(၂) ဗျာပါဒ-သူတစ်ပါးကို စိတ်ဖြင့် ပြစ်မှားမှု။
(၃) မိစ္ဆာဒိဋ္ဌိ-ကံ ကံ၏အကျိုးကို မယုံကြည်မှု-

ဆိုပြီး သုံးမျိုးရှိတယ်။ အကျဉ်းချုပ်အားဖြင့်တော့ လူတစ်ဖက်သား အကျိုးယုတ်စေဖို့ ကြံစည်တွေးတောမှု မှန်သမျှဟာ မနောကံ ဖြစ်တယ်။ ဆရာသမား မိဘတွေက ဆုံးမ

ပြောဆိုတဲ့အခါ နိုင်းစေကဲ့အခါ စိတ်ထဲမှာ မကျေ
(မကြည်မှု) တွေဟာ မနောကံအပြစ်တွေ ဖြစ်တယ်။ က
ကံ၊ ဝစီကံမဖြစ်အောင် သတိထား စောင့်ထိန်းလို့ ရပေ
မနောကံ မဖြစ်အောင် ထိန်းဖို့ကတော့ မလွယ်ဘူး၊
သဘောထား ရင့်ကျက်ဖို့လိုတယ်။

မေး။ ။ဩကာသ ဘုရားရှိခိုးမှာပါတဲ့ ကာယကံ
ကံ မနောကံဆိုတာ ဘာလဲ။

ဖြေ။ ။ဩကာသ ဘုရားရှိခိုးမှာပါတဲ့ ကာယကံ
ကံ၊ မနောကံဆိုတာက ဘုရား၊ တရား၊ သံဃာ ရတနာ
သုံးပါးကို ရိုသေ လေးစားသောအားဖြင့် ကိုယ်အင်္ဂါ
အပိုင်း တစ်ခုခုဖြင့် လက်အုပ်ချီခြင်း၊ ဦးညွှတ် အရိုအသေ
ခြင်း၊ ဦးချရှိခိုးခြင်းဟာ ကာယကံ၊ အစီရင်ခံ ဩကာ
သည်ကို နှုတ်မှဆိုခြင်းဟာ ဝစီကံ၊ စိတ်နှလုံးကြည်ညိုလေး
ဂုဏ်တော်တွေကို ဆင်ခြင် အောက်မေ့နေတာဟာ မနော
ဖြစ်တယ်။ ကိုယ်နှုတ် စိတ်သုံးပါးဖြင့် ရတနာသုံးပါးကို ရို
မှာ ရှိခိုးတဲ့ ကုသိုလ်စေတနာကို ကာယကံ၊ ဝစီကံ၊ မနော
လို့ ခေါ်တယ်။

မေး။ ။လက်အုပ်မိုး၍ဆိုတာ ဘယ်လိုဟာလဲ။

ဖြေ။ ။လက်အုပ်မိုး၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့
ကန်တော့ပါ၏ အစရှိဘုရားလို့ တစ်ဆက်တည်း ဆိုသွား
အတွက် ရှိခိုးခြင်းလုပ်ငန်း တစ်ခုတည်းလို့ ထင်ရတယ်။ အ
မှာတော့ လက်အုပ်မိုးတာ တစ်ခု၊ ရှိခိုးတာ တစ်ခု၊ ပူဇော်
တာ တစ်ခု၊ ဖူးမြော်တာတစ်ခု၊ မာန်လျှော့တာတစ်ခု တစ်မျိုး
ဖြစ်တယ်။ ဒါကြောင့် တစ်မျိုးစီခွဲ၍ ရှင်းပြမယ်။



လက်အုပ်မိုးတယ်၊ လက်အုပ် ချီတယ်ဆိုတာက ရိုသေ
လေးစားမှုကို ပြခြင်းတစ်မျိုး ဖြစ်တယ်။ လက်နှစ်ဖက်ကို
ကြာဖူး ကြာငုံသဏ္ဌာန် အုပ်ပြီး နဖူးအထက် ခေါင်းအထက်
ကို မြှောက်ထားခြင်း ဖြစ်တယ်။ အဲဒီလို လက်နှစ်ဖက်ကို နဖူး
အထက် ခေါင်းအထက်ကို ရောက်အောင် မြှောက်ပင့်ချီ
မ,ထားရလို့ လက်အုပ်မိုးတယ်၊ လက်အုပ်ချီတယ်လို့ ခေါ်
ရတယ်။ ရိုသေလေးစားရမယ့် ဘုရားဆင်းတု၊ စေတီပုထိုး၊
ရဟန်း သံဃာတွေကို မြင်တဲ့အခါ ပုဆစ်ဒူးတုပ်ပြီး ရှိခိုးလို့
ရအောင် အခြေအနေက မပေးဘူးဆိုရင် ဥပမာ လမ်းမှာ
ရဟန်း သံဃာတွေနဲ့ တွေ့တဲ့အခါ အဝေးမှာ စေတီကို လှမ်း
မြင်တဲ့အခါ ကားပေါ်၊ ရထားပေါ်၊ လှည်းပေါ်က ဘုရား၊
သို့မဟုတ် သံဃာတော်ကို လှမ်းမြင်တဲ့အခါ လက်အုပ်ချီပြီး
တော့ အရိုအသေ ပြုရတယ်။ ရှိခိုးတဲ့အခါ လက်အုပ်ချီမှု
ပါပေမယ့် လက်အုပ်ချီတဲ့အခါမှာတော့ ရှိခိုးမှု မပါဘူး။

မေး။ ။ရှိခိုးတယ်ဆိုတာ ဘာလဲ။ ရှိခိုးခြင်း ဘယ်နှစ်မျိုး
ရှိသလဲ။

ဖြေ။ ။ရတနာသုံးပါးကို ရှိခိုးချင်တဲ့ ပုဂ္ဂိုလ်ရဲ့ သန္တာန်
မှာ ဖြစ်ပေါ်လာတဲ့ ကုသိုလ်စေတနာကို ရှိခိုးတယ်လို့ ခေါ်
တယ်။ အဲဒီစေတနာ ဖြစ်ပေါ်လာတဲ့အခါမှာ ကိုယ်ထိ လက်
ရောက် ရှိခိုးခြင်း၊ နှုတ်ဖြင့် ရွတ်ဆို ရှိခိုးခြင်း၊ စိတ်ထဲမှာ
ဂုဏ်တော်တွေကို အောက်မေ့ကာ စိတ်ထဲမှာ ရှိခိုးခြင်း ဆို
ပြီး ရှိခိုးခြင်း သုံးမျိုးရှိတယ်။

မေး။ ။ဘယ်လိုရှိခိုးတာကို ကာယကံနဲ့ ရှိခိုးတယ်လို့
ခေါ်ပါသလဲ။

ဖြေ။ ။ယောကျ်ားဆိုရင် ဆောင့်ကြောင့်ထိုင်ပြီး၊ မိန်းမဆိုရင် ပုဆစ်တုပ် ကျုံ့ကျုံ့ထိုင်ပြီး လက်နှစ်ဖက်ကို ကြာသာဇွာန် အုပ်ပြီး၊ နဖူးပေါ်တင်ကာ လက်အုပ်ချီထားရမယ်။ ယောကျ်ားဆိုရင် ပထမဆုံး ကြမ်းပေါ် (မြေကြီးပေါ်မှာ) ဒူးတုပ် လိုက်ရမယ်။ ပြီးမှ လက်နှစ်ဖက်ကို ကြမ်းပြင် (မြေကြီး) ပေါ် ချလိုက်ရမယ်။ ပြီးမှ နဖူးကို ကြမ်းပြင် (မြေပြင်) မှာ ထိပြီး ဝပ်လိုက်ရမယ်။ အခုလို ဒူးနှစ်ဖက် လက်နှစ်ဖက် နဖူးဆိုတဲ့ ခန္ဓာကိုယ် အစိတ်အပိုင်းငါးမျိုး ကြမ်းပြင်ပေါ် (မြေကြီးပေါ်မှာ) တည်ရှိနေအောင် ရှိခိုးမှ အရိုအသေ ရှိခိုးရာ ရောက်တယ်။ ဒီလိုရှိခိုးတာကို "ပဉ္စင်္ဂပတိဋ္ဌိတဝန္ဒနာ ထိခြင်းငါးပါးနဲ့ ရှိခိုးတယ်လို့ ခေါ်တယ်။ ဒူး တံတောင်ဆစ် နဖူးတွေ ကြမ်းပေါ် မကျတဲ့ ပြားပြားဝပ် မရိုတဲ့ လက်နှစ်ဖက်နဲ့ ကြမ်းပြင်ကို ပုဆိန်ပေါက်သလို ရှိခိုးတာမျိုးကို ဒါက ပုဆိန်ပေါက် ရှိခိုးတာလို့ ခေါ်တယ်။ ရှိခိုးချင်လို့ ရှိခိုးရင်တော့ ထိခြင်းငါးပါးနဲ့ ရှိခိုးပါ။ ရှိမခိုးချင်ရင် ရှိခိုးလို့ ဖြစ်လောက်အောင် အခြေအနေမပေးရင် လက်အုပ်ချီ အရိုအသေ ပြုလိုက်ပါ။ ဝတ်ကျေ တမ်းကျေ ပုဆိန်ပေါက်တော့ ရှိမခိုးကြပါနဲ့၊ အဲဒီလို ထိခြင်းငါးပါးနဲ့ ရှိခိုးတာကို ကာယဝန္ဒနာ=ကိုယ်ထိလက်ရောက် ကာယကံမြောက် ရှိခိုးခြင်းလို့ ခေါ်တယ်။

မေး။ ။ဘယ်လိုရှိခိုးတာကို ဝစီဝန္ဒနာ=နှုတ်နဲ့ ရှိခိုးတယ်လို့ ခေါ်သလဲ။

ဖြေ။ ။ရတနာသုံးပါးကို ကြည်ညိုလေးစားတဲ့ စေတနာနဲ့ ဣတိပိသော ဘဂဝါ စတဲ့ ဘုရားဂုဏ်တော်၊ သွာက္ခာတော



ဘဂဝတာ ဓမ္မော စတဲ့ တရားဂုဏ်တော်တွေ၊ သုပ္ပဋိပန္နော ဘဂဝတော သာဝကသံဃော စတဲ့ သံဃာ့ဂုဏ်တော်တွေနဲ့ တခြားဂုဏ်တော်တွေ ဖော်ကျူးတဲ့ ဘုရားရှိခိုးတွေကို ရွတ်ဆို ချီကျူးမှုကို ဝစီဝန္ဒနာ = နှုတ်နဲ့ ရှိခိုးတယ်လို့ ခေါ်တယ်။ ဗုဒ္ဓဘာသာ မြန်မာတွေဟာ နှုတ်နဲ့ရှိခိုးမှု သက်သက်ကို ပြုလုပ်မှု မရှိပါဘူး။ ဂုဏ်တော် ဘုရားရှိခိုးတွေ မဆိုခင်နဲ့ ဆိုပြီးမှာ ကာယကံရှိခိုးမှုကိုပါ ပူးတွဲ လုပ်ကြတာချည်းပါပဲ။

ဝပ်ချ ဦးတိုက်မှုမပါဘဲ သွားလာရင်း စားပွဲမှာ ထိုင်ရင်း ဘုရားဂုဏ်တော်တွေ ရွတ်ဆိုပြီး ဝစီဝန္ဒနာ သက်သက်နဲ့လဲ ရှိခိုးလို့ ရပါတယ်။

မေး။ ။ဘယ်လို ရှိခိုးတာကို စိတ်နဲ့ ရှိခိုးတယ်လို့ ခေါ်သလဲ။

ဖြေ။ ။ရတနာသုံးပါးကို ကြည်ညို လေးစားကဲ့ စေတနာရှိပေမယ့် ကိုယ်ထိလက်ရောက် ထိခြင်း ငါးပါးနဲ့လဲ ရှိမခိုးဘူး။ ဂုဏ်တော်တွေကို နှုတ်နဲ့ ရွတ်ဆို ရှိခိုးခြင်းလဲ မလုပ်ဘူး။ ရတနာသုံးပါးရဲ့ ဂုဏ်တော်တွေကို စိတ်အာရုံထဲမှာ အဖန်တလဲလဲ အောက်မေ့ ကြည်ညိုနေတယ်။ ဒီလို စိတ်ထဲမှာ ကြည်ညိုနေတာကို မနောဝန္ဒနာ = စိတ်နဲ့ ရှိခိုးတယ်လို့ ခေါ်တယ်။

မေး။ ။ပူဇော်တယ်ဆိုတာ ဘာလဲ၊ ပူဇော်ခြင်း ဘယ်နှစ်မျိုး ရှိသလဲ။

ဖြေ။ ။ပူဇော်တယ် ဆိုတာက မိမိ ရိုသေလေးမြတ်တဲ့ ရတနာသုံးပါး၊ ဆရာသမားတွေကို ပစ္စည်းဝတ္ထု တစ်ခုခုနဲ့

လှူဒါန်း အရှိအသေပြုတာ တရားတော်အတိုင်း ကျင့်တ
ပူဇော်တယ်လို့ ခေါ်တယ်။

ပူဇော်မှုဟာ....

(၁) ပစ္စည်းဝတ္ထုနဲ့ ပူဇော်ခြင်း၊ အာမိသပူဇာနဲ့
(၂) တရားတော်နဲ့ ပူဇော်ခြင်း၊ ဓမ္မပူဇာ
ဆိုပြီး နှစ်မျိုးရှိတယ်။

ပန်း၊ ဆီမီး၊ အမွှေးတိုင်၊ ဆွမ်း၊ သင်္ကန်းတစ်ခုခု လှူ
ပူဇော်တာ အာမိသပူဇာ = ပစ္စည်း ဝတ္ထုနဲ့ ပူဇော်တယ်
ခေါ်တယ်။

တရားနဲ့ ပူဇော်ခြင်းဆိုတာက မြတ်စွာဘုရား ဟောထား
ခဲ့တဲ့ တရားတော်တွေအတိုင်း သက်တွေ ကျင့်ကြံအားထု
တာကို မြတ်စွာဘုရားကို တရားနဲ့ ပူဇော်တယ်လို့ခေါ်တယ်
မိဘဆရာသမားတွေ ပြောစကားကို နားထောင်ပြီး ဆို
မတဲ့အတိုင်း လိုက်နာ ကျင့်သုံး ကျင့်ကြံတာ။ မိဘ ဆ
သမားတွေကို စိတ်ချမ်းသာအောင် လုပ်ကိုင် ဆောင်ရွက်
ကိုလဲ မိဘဆရာသမားတွေကို တရားနဲ့ ပူဇော်တယ်လို့
သားနိုင်တယ်။

မေး။ ။ပူဇော်ခြင်း နှစ်ပါးမှာ ဘယ်ပူဇော်ခြင်း
မြတ်ပါသလဲ။

ဖြေ။ ။ပူဇော်ခြင်းနှစ်ပါးမှာ ပစ္စည်းနဲ့ ပူဇော်တာဟ
လဲ မှန်မြတ်တဲ့ ကုသိုလ်လုပ်ငန်းရပ် ဖြစ်ပါတယ်။ ဒါပေမ
ပစ္စည်းနဲ့ ပူဇော်တာထက် တရားနဲ့ပူဇော်တာက ပိုပြီး မြတ်
တယ်လို့ ပရိနိဗ္ဗာန်စံလုဆဲမှာ ဘုရားရှင် ကိုယ်တိုင်က အရှ
အာနန္ဒာကို ဟောခဲ့တယ်။



မြတ်စွာဘုရားကို ကုသိနာရုံ အင်ကြင်းတောမှာ ပရိနိဗ္ဗာန်စံလုဆဲ လဲလျောင်းနေစဉ် နောက်ဆုံး ပူဇော်ခြင်းအနေနဲ့ နတ်ဗြဟ္မာမင်း ပုဏ္ဏား သူဌေး သူကြွယ်တွေဟာ ပန်းနံ့သာစတဲ့ ပစ္စည်းနဲ့ အစွမ်းကုန် ပူဇော်ကြတယ်။

အဲဒီအခါမှာ မြတ်စွာဘုရားက ညီတော် အာနန္ဒာ၊ ယခုလူ နတ် ဗြဟ္မာတွေဟာ ငါဘုရားကို အမျိုးမျိုး ပူဇော်ပသနေကြတယ်။ ဤသို့ ပူဇော်ခြင်းဖြင့် ငါဘုရားကို ရိုသေလေးမြတ်သည်၊ မြတ်နိုးသည်၊ ပူဇော်ချီးမြှင့်သည်၊ ဆည်းကပ်သည် မမည်သေး။ ငါဘုရား ဟောတော်မူအပ်တဲ့ တရားတည်းဟူသော အဆုံးအမကို လိုက်နာ ကျင့်ကြံလျက်နေသောသူသည်သာလျှင် ငါဘုရားကို ရိုသေမြတ်နိုးစွာ ပူဇော်သည် မည်ပေ၏လို့ ဟောတော်မူခဲ့တယ်။ ဒါကြောင့် အစဉ်အလာ ပူဇော်ခဲ့တဲ့ အာမိသပူဇာကိုလဲ ပူဇော်ကြပါ။ ဘုရားအကြိုက်ဆုံး ဓမ္မပူဇာဖြင့် ပူဇော်နိုင်အောင်လဲ သတိပြုကြပါ။

မေး။ ။ဗုဒ္ဓဘာသာတွေ နေ့စဉ် ပြုလုပ်နိုင်တဲ့ ဓမ္မပူဇာလုပ်ငန်းတွေဟာ ဘာလဲ။

ဖြေ။ ။ဘုရားဂုဏ်တော် ၉-ပါး၊ တရားဂုဏ်တော် ၆-ပါး၊ သံဃာ့ဂုဏ်တော် ၉-ပါးကို ရွတ်ဆိုပြီး ဘုရားရှိခိုးတာ၊ ဂုဏ်တော်ပုတီးစိပ်တာ၊ အလုပ်ခွင်ထဲမှာ ရတနာသုံးပါးရဲ့ ဂုဏ်တွေကို စိတ်ထဲမှာ အောက်မေ့ ပွားများနေတာ၊ ဗုဒ္ဓါနုဿတိ၊ ဓမ္မာနုဿတိ၊ သံဃာနုဿတိ ဆိုတဲ့ အနုဿတိသုံးပါးဖြစ်တယ်။ သတ္တဝါတွေကို မေတ္တာပို့ခြင်း၊ သင်းရဲ့ ဒုက္ခရောက်နေသူကို ကိုယ်ချင်းစာ သနားခြင်း၊ ချမ်းသာစေ

သူတွေကို တွေ့မြင်ရလို့ ဝမ်းမြောက်ကြည်နူးခြင်းဟာ ဖြစ်တရား (၃) ပါး ဖြစ်တယ်။ ဒီအနုဿတိသုံးပါးနဲ့ ဖြစ်တရား (၃) ပါးဟာ သမထကမ္မဋ္ဌာန်း ၄၀ ထဲမှာ ပုဂ္ဂိုလ်မရွေး၊ နေရာမရွေး၊ အချိန်မရွေး ပွားများနိုင်တဲ့ ဓမ္မ လုပ်ငန်းတွေ ဖြစ်ပါတယ်။

မေး။ ။ဖူးမြော်တယ်ဆိုတာ ဘာလဲ။

ဖြေ။ ။မြော်တယ်ဆိုတာက မြော်ကြည့်တယ်၊ ရှုမျှော်ခင်းဆိုတဲ့ စကားက မြော်နဲ့အတူတူ ကြည့်ခြင်းလို့ အဓိပ္ပာယ်ရတယ်။ ဖူးတယ်ဆိုတာက လေးစားထိုက်တဲ့ ပုဂ္ဂိုလ်ကို သွားရောက် ကြည့်ရှုတာပဲ ဖြစ်တယ်။ ဘုရား သွားဖူးတယ်၊ ဆရာတော် သွားဖူးတယ်ဆိုတဲ့ ဝေါဟာရကို တော ပါ။ ဒါကြောင့် ဖူးနဲ့မြော်နဲ့ ပေါင်းလိုက်တော့ ရိုသေလေးစားထိုက်တဲ့ ဘုရားပုထိုးနဲ့ ဆရာတော် သံဃာတော်တွေကို သွားရောက် တွေ့ဆုံ ကြည့်ရှုတယ်လို့ အဓိပ္ပာယ်ရတယ်။

မေး။ ။မာန်လျှော့ ကန်တော့တယ်ဆိုတာ ဘာလဲ။

ဖြေ။ ။ကန်တော့တယ်ဆိုတာက ဝန်ချကန်တော့ခြင်းနဲ့ ရှိခိုးကန်တော့ခြင်းဆိုပြီး နှစ်မျိုးရှိတယ်။ ကိုယ်၊ နှုတ်၊ စိတ် တစ်ပါးပါးနဲ့ ဖြစ်မှား ကျူးလွန်မိတဲ့ အပြစ်တွေကို ကြေမှ ကြေကြောင်း ဝန်ချတောင်းပန် ကန်တော့ရာမှာ မာန်မာန ထောင်လွှား၊ မောက်မာမှုမရှိမှ ဝန်ချတောင်းပန် ကန်တော့ ရတယ်။ တချို့ကိုယ်က မှားမှန်းသိပေမယ့် မာန်မလျှော့နိုင်လို့ သေတပန်သက်ဆုံး ဝန်မချသွားခဲ့တာတွေလဲ ရှိတယ်။ ရှိခိုးကန်တော့ရာမှာလဲ မိဘရဲ့ ခန္ဓာကိုယ်မှာ အထွတ်မြတ်ဆုံး



ဖြစ်တဲ့ ဦးခေါင်းနဖူးကို ကြမ်းပြင် မြေပြင်နဲ့ထိပြီး ရှိခိုးဦးချတယ် ဆိုတာက မာန်မာန လျှော့သွားနိုင်လို့သာ ဖြစ်တယ်။ ကန်တော့ရာမှာ မာန်မာနကို လျှော့ချချိုးနှိမ်ပြီး ဝန်ချတောင်းပန် ကန်တော့ပါ၏။ ရှိခိုးဦးချ ကန်တော့ပါ၏လို့ ဆိုလိုတယ်။

...o...

# (၆)

# ဩကာသ ဆုတောင်းခန်း

မေး။ ။ကန်တော့ရသော ကုသိုလ်ကံ စေတနာတို့ကြောင့် က စ၍ ရပါလို၏ အရှင်ဘုရား အထိဟာ ဆုတောင်းတာဖြစ်တယ်လို့ ဆိုတယ်။ အပါယ်လေးပါးမှ လွတ်ဖို့ နိဗ္ဗာန်ရောက်ဖို့ ဆုတောင်းလို့ ရပါသလား။

ဖြေ။ ။အပါယ်လေးပါး ဆိုတဲ့ မကောင်းတဲ့ဘုံ ဘဝ အဖြစ်ဆိုးတွေမှ လွတ်မြောက်ဖို့နဲ့ ကောင်းမြတ်တဲ့ နိဗ္ဗာန်ကို ရဖို့ ဆုတောင်းရုံသက်သက်နဲ့ မရပါဘူး။ အပါယ်လေးပါးတွေ မကောင်းတဲ့ ဘုံဘဝအဖြစ်ဆိုးတွေကို ရောက်စေ ဖြစ်စေမယ့် အပြုအမူ အပြောအဆို အကြံအစည်တွေကို မပြု မပြော မကြံစည်မိအောင် ရှောင်ကြဉ် စောင့်ထိန်းခြင်းဖြင့် အပါယ်တွေ မကောင်းတဲ့ ဘုံဘဝဒုက္ခတွေက လွတ်မြောက်နိုင်ပါတယ်။

နိဗ္ဗာန်တွေ ကောင်းမြတ်တဲ့အရာကို ရဖို့ဟာလဲ ဆုတောင်းလို့ မရဘူး။ နိဗ္ဗာန် ရောက်စေနိုင်တဲ့ သီလ, သမာဓိ ပညာ ခေန်းသုံးဆင့်ကို လက်တွေ့ ကျင့်ကြံ အားထုတ်ခြင်းဖြင့်သာ နိဗ္ဗာန်ကို ရနိုင် ရောက်နိုင်တယ်။



…ဘာသာဘုရားဟာ၊ လူသားတွေအတွက် လမ်းညွှန်ကြီးသာ …တယ်။ အပါယ် ဆင်းရဲတောက်မယ့် လူကိုလဲ ကိုယ်တိုင် …နိုင်တဲ့ လူ့ပြည်, ဗြဟ္မာ့ပြည် နတ်ပြည် ရောက်အောင်လဲ …င်ပေးနိုင်ဘူး။ ဆင်းရဲဒုက္ခတွေက လွတ်ကင်းပြီး …သုခကို ခံစားနိုင်ဖို့အတွက် လူသားဟာ သူကိုယ်တိုင် …ားကိုယ်ကိုးစနစ်နဲ့ ကြိုးစားအားထုတ် ကျင့်ကြံယူရ

…။ ။ဘုရားရှင်ဟာ လူသားတွေအတွက် ဘာတစ်ခုမှ …ပေးနိုင်ဘူးဆိုရင် ဘာအတွက် ဘုရားရှင်ကို ကိုးကွယ် …ပ်၊ ရှိခိုးပူဇော်နေကြပါသလဲ၊ ကိုးကွယ် ဆည်းကပ်ဖို့ …ားသလား။

…။ ။ဘုရားရှင်ဟာ လူသားတွေအတွက် တစ်စုံတစ်ရာ …ပေးနိုင်တာ မှန်ပါတယ်။ ဒါပေမယ့် ဘုရားရှင်ပွင့် …သည်မှာ နှစ်ပေါင်း ၂၅၀၀-ကျော်ခဲ့ပါပြီ။ ဒီကာလ …၊ လူသားတွေဟာ ဘုရားရှင်ကို ကိုးကွယ် ဆည်းကပ် …ဇော်ခဲ့ကြပါတယ်။ ယနေ့တိုင်လဲ ကမ္ဘာအနှံ့ လူသား …ာ ရှိခိုးပူဇော်နေကြပါတယ်။ ဘုရားရှင်ကို ဘာကြောင့် …ဇော်နေကြသလဲလို့ မေးရင်တော့ တိတိကျကျ ဖြေဆို …ဗုဒ္ဓဘာသာဦးရေဟာ အတော်နည်းပါတယ်။

…ားရှင်ဟာ လူသားအတွက် ဆင်းရဲတွင်းက လွတ်အောင် …တင်နိုင်ဘူး။ ချမ်းသာသုခ ရအောင်လဲ မပို့ဆောင်ပေး …၊ လူသားဟာ သူ့အားသူကိုးစနစ်နဲ့ ဆင်းရဲလွတ်အောင် …ာတဲ့ သုခဘုံကိုရအောင် ကြိုးစားအားထုတ် …။ ဒီလို ကြိုးစား ရုန်းကန်နေတဲ့ နေရာမှာ ဆင်းတန်း …တိုး ကြိုးစားရုန်းကန်လို့ မရဘူး။ ဘုရားပွင့်တော်မမူမီက

လူသားတွေဟာ အစမထင် သံသရာ တစ်လျှောက်မှာ မီး… ရေနနတ်၊ လေနတ်၊ မိုးနတ်၊ တောစောင့်နတ်၊ မြစ်စော… တောင်စိုး သစ်ပင်ကြီးတွေ စတဲ့ အကောင်အထည် မ… သဘာဝနတ်ဘုရားတွေကို အားကိုးရာအဖြစ်နဲ့ ကိုးကွယ်… ထား ရှိခိုးပူဇော်ခဲ့ကြတယ်။ ဒါပေမယ့် အဲဒီ မီးနတ်၊ … စတဲ့ ဘုရားတွေဟာ လူသားတွေအတွက် ဘာတစ်ခု… မပေးနိုင်ပါဘူး။

ဂေါတမဘုရားရှင် ပွင့်လာတဲ့အခါမှာ သင်တို့ ကိုး… နေတဲ့ မီးနတ်၊ ရေနတ်တွေရော ဘုရားပါ သင်တို့အ… ကို ဆောင်မပေးနိုင်ဘူး။ သင်တို့ ဆင်းရဲက လွတ်မြော… ချမ်းသာသုခရအောင် သင်တို့သာ အားထုတ် ကြိုးစားရ… လို့ အမှန်တရားကို ဟောပြောတော်မူတယ်။ ဒီအခါမှာ … သားဟာ ဆင်းရဲလွတ်အောင် ဘယ်လိုနေထိုင်ပြောဆိုကြ… ရမယ်၊ နတ်ရွာနိဗ္ဗာန်ချမ်းသာကို ရအောင် ဘယ်လိုကျင့်… အားထုတ်ရမယ်ဆိုတာကို မသိနိုင်တဲ့ ယောင်လည်လည်ဖြစ်… တယ်။

ဒီအခါမှာ ဘုရားရှင်က ဒီလို နေထိုင်လုပ်ကိုင် ပြော… ကြံစည်တာဟာ ဆင်းရဲ လွတ်ကြောင်း၊ ချမ်း သာသု… ကြောင်း ဖြစ်တယ်လို့ နည်းကောင်း လမ်းမှန်ကို ညွှန်ပြတော်… မူခဲ့တယ်။ ဘုရားရှင် ညွှန်ပြတော် မူတဲ့အတိုင်း လူသား… ကျင့်ကြံ အားထုတ်ကြတဲ့အခါ ဘုရားရှင် ဟောတဲ့ အတိုင်း… ချမ်းသာသုခကို ရရှိကြတယ်။ ဆင်းရဲဒုက္ခတွေက ကင်းလွတ်… ကြတယ်။ ဒီလို ဆင်းရဲက ကင်းလွတ်ကြောင်း၊ ချမ်းသာသု… ရကြောင်း တရားလမ်းမှန်ကို ညွှန်ပြနိုင်တဲ့ ဆရာ တစ်ဆူအဖြ…



…ဘုရားတို့ပြန့်ဆောအားဖြင့် ကိုးကွယ် ဆည်းကပ်နေကြ… ဖြစ်တယ်။

… ဗုဒ္ဓဘာသာမှာ ဆုတောင်းလို့ မရဘူး။ ကိုယ် …အားထုတ်ယူမှ ရတယ်ဆိုရင် ဆုတောင်းဖို့ လိုပါသေး…

… ဆုတောင်းလို့ မရပေမယ့် ဆုတောင်းဖို့တော့ …တယ်။ ဒါပေမယ့် ဆုတောင်းရဲ့ သက်သက်နဲ့ လိုတဲ့ …ကို မရဘူးဆိုတာလဲ သိထားရမယ်။ ဆုတောင်းတယ် …က မိမိစိတ်မှာ ဖြစ်ပေါ်တဲ့ လိုအင်ဆန္ဒတစ်ခုကို နှုတ် … ပြောဆိုခြင်း ဖြစ်တယ်။ စိတ်ထဲမှာ ရှိတာကို နှုတ်က …ပြီး အဓိဋ္ဌာန်ပြုပြီးနောက် လက်တွေ့ကျင့်ကြံ အားထုတ် …တဲ့အခါ မူလစိတ်ထဲမှာ ဖြစ်ပေါ်ခဲ့တဲ့ အကျိုးတရားကို …သွားနိုင်တယ်။ ဒါကြောင့် လက်တွေ့ လုပ်ဆောင်မှုရဲ့ …သွားဖြစ်တဲ့ ဆုတောင်းခြင်းဟာ လိုအပ်ပါတယ်။

လောကမှာ လူသားတွေ မလိုလား မနှစ်သက်တဲ့ အပါယ် …ပါး၊ ကပ်သုံးပါးစတဲ့ အကျိုးတရားတွေ ရှိတယ်။ ဒီ …ပါယ်လေးပါး၊ ကပ်သုံးပါးစသည်မှ လွတ်ရပါလို၏ လို့ …ကြာမကြာ ဆုတောင်းနေခြင်းဖြင့် ဒီအပါယ်လေးပါး၊ ကပ် …ပါးနဲ့ ကြုံတွေ့ရမှာကို ကြောက်လန့်မှု သံဝေဂရမယ်။ …လို မကြာခဏဆုတောင်းလို့ မကြာခဏ သတိရပြီး ကြောက် …လာတဲ့အခါမှာ ဒီအပါယ်လေးပါး စသည်ကို ရောက်စေ …မယ့် မကောင်းတဲ့ အပြုအမူ အပြောအဆို အကျင့်အကြံတွေ …က ရှောင်ကြဉ်မယ်။

ဥပရိပဏ္ဏာသ အဋ္ဌကထာမှာ ပြဆိုတာက "ကောင်းမှုပြုပြီး ဆုတောင်းမှု ဖြစ်ချင်တဲ့ဘုံမှာ လိုချင်တဲ့ချမ်းသာကို ရ ဘယ်။ ဆုမတောင်းရင် ဒီကုသိုလ်ကြောင့် ဘာဖြစ်မယ် မသေချာဘူး (မသိမမြင်ဘူး)။ လိုချင်တာတွေ ဆုတော ပြီး ကုသိုလ်ကောင်းမှုကို လက်တွေ့မလုပ်ပြန်ရင်လဲ တော တဲ့အတိုင်း မဖြစ်ဘူး။ ဒါကြောင့် ကုသိုလ်ကောင်းမှုလဲ ပြု ပါ။ ကုသိုလ်ပြုပြီးရင်လဲ မိမိလိုရာဆုကို တောင်းကြပါ တိုက်တွန်းထားပါတယ်။ ဒီဥပရိပဏ္ဏာသ အဋ္ဌကထာ တို တွန်းချက်ဟာ ဗုဒ္ဓဘာသာဝင်တိုင်း သတိပြုသင့်တဲ့ အချ ဖြစ်ပါတယ်။ ကုသိုလ်ကောင်းမှုလဲ ပြုကြပါ။ ဆုလဲ တော ကြပါ။

မေး။ "ကောင်းတဲ့အလုပ်ကိုလုပ်ရင် ကောင်းတဲ့အကျိ ကို ရမယ်ဆိုပြီ၊ ကုသိုလ်တစ်ခုခုပြုပြီး ဘာဖြစ်လို့ ဆုတော နေကြသလဲ၊ ဆုတောင်းတာ အပို ဖြစ်မနေဘူးလား။ ဆု တောင်းဖို့ လိုပါသေးသလား။

ဖြေ။ "ကုသိုလ်ကောင်းမှုတစ်ခုခု ပြုပြီးရင် ဆုတောင်း လိုတာလဲ ရှိတယ်၊ မလိုတာလဲ ရှိတယ်။ အဘိဓမ္မာသဘော အရ ကုသိုလ်တရားကို ၂၁ မျိုးခွဲတယ်။ ကာမာဝစရကုသို က (၈) မျိုး၊ မဟဂ္ဂုတ်ကုသိုလ်က (၉) မျိုး၊ မဂ်ကုသိုလ်က (၄) မျိုး ဖြစ်တယ်။ မဟဂ္ဂုတ်ဈာန်ကုသိုလ် ၉-မျိုးကို ပြုလု ရရှိသူဟာ ဆုတောင်းနေစရာ မလိုဘူး။ သေရင် ဗြဟ္မာ့ဘုံ ၂၀ မှာ ဈာန်ချမ်းသာကို ခံစားရမယ်။ ပထမဈာန်ကုသိုလ် ရသူက ပထမဈာန်ဗြဟ္မာ့ဘုံ၊ စတုတ္ထဈာန်ရတဲ့သူက စတု ဈာန် ဗြဟ္မာ့ဘုံမှာ ဈာန်ချမ်းသာကို ခံစားရတယ်။ ဝိပဿန ကျင့်လို့ မဂ်ကုသိုလ် ၄-ပါးရတဲ့သူဟာလဲ ဖိုလ်ကုသိုလ် ၄



အကျိုးခံစားရမယ်။ သောတာပတ္တိမဂ် ကုသိုလ်ရတဲ့သူက သောတာပတ္တိဖိုလ်၊ အရဟတ္တမဂ် ရတဲ့ သူက အရဟတ္တဖိုလ် အကျိုးခံစားတယ်။ ကာမာဝစရကုသိုလ် ၈-မျိုးကို ပြုလုပ် တဲ့သူကတော့ လူ့ဘုံနဲ့ နတ်ပြည် ၆-ထပ်လို့ ခေါ်တဲ့ သုဂတိ ၇-ဘုံမှာ လူချမ်းသာ နတ်ချမ်းသာကို ခံစား ရမယ်။ ဒီလိုခံစားရတဲ့နေရာမှာ ဘယ်ကုသိုလ်ဟာ ဘယ်ဘုံ မှာ ခံစားရမယ်လို့ ပိုင်းခြားကန့်သတ်မှု မရှိဘူး။ ကာမာ ဝစရကုသိုလ်တစ်ခုဟာ လူ့ဘုံ စာတုမဟာရာဇ် တာဝတိံသာ တဲ့ သုဂတိ ၇-ဘုံလုံးမှာ ဖြစ်နိုင်တယ်။ လူ့ဘဝတစ်ခုတည်း မှာလဲ လူချမ်းသာတွေက အမျိုးအစားအားဖြင့် မရေမတွက် နိုင်အောင် များပြားတယ်။ နတ်ပြည်မှာလဲ နတ်ချမ်း သမယ့် ချမ်းသာသုခ မပုကြဘူး။ ဘုံဘဝ ၇-ခုမှာ မရေမတွက်နိုင်တဲ့ သုခတွေရှိတဲ့အနက်ထဲက ယခု ယခု ပြုရ သာ ကုသိုလ်ကောင်းမှု ကံကြောင့် ဘယ်ဘုံမှာ ဘယ်လို ချမ်းသာသုခတွေ ခံစား စံစားရပါလို၏လို့ တိကျတဲ့ဘုံဌာနနဲ့ တိကျတဲ့ ချမ်းသာကို ထုတ်ဖော် ဆုတောင်းဖို့ လိုတယ်။ ဇောတိကသူဌေးအလောင်းဟာ ကုသိုလ်ပြုပြီး သူပိုင်တဲ့ပစ္စည်း ကို သူမပေးတဲ့ မြက်ပင်၊ဝါးခြမ်းစိပ်မျှ မယူနိုင်ပါစေနှင့်ဟု ဆု တောင်းခဲ့လို့ ယခု ဇောတိက သူဌေးဖြစ်တဲ့အခါ သူ့ပစ္စည်း ကို ဘယ်သူမှခိုးယူလို့ မရဘူး။ အဂ္ဂသာဝကဆု၊ ဧတဒဂ်ဆု တွေကို အတိတ်ဘဝက တောင်းခဲ့ကြတဲ့အတွက် ယခု ဘုရားရှင် လက်ထက်မှာ တောင်းတဲ့ဆုနဲ့ ပြည့်စုံကြတာ ပိဋကတ်တော် မှာ နေရာအများတွေ့နိုင်တယ်။ ဒါကြောင့် ကုသိုလ်ကောင်းမှု တစ်ခုခု ပြုပြီးရင် မိမိလိုတဲ့ဆုကို တောင်းသင့်တယ်လို့ မှတ် ကြရမယ်။

မေး။ ။ကပ်သုံးပါးဆိုတာ ဘာလဲ။

ဖြေ။ ။ကပ်ဆိုတာ ပါဠိလို ကပ္ပကို မြန်မာလို ကပ် ခေါ်တယ်။ အကြီးအကျယ် ပျက်စီးခြင်းလို့ အဓိပ္ပာ တယ်။ ဒီပျက်စီးခြင်း ကပ်သုံးမျိုး ရှိတယ်။ စစ်ပြ နိုင်ငံတွေမှာ သေနတ်၊ စိန်ပြောင်း၊ အမြောက်၊ ဗုံး ကျည်လက်နက်တွေကို ထိမှန်ပြီး လူအများ သေကြေန ကို သတ္ထန္တရကပ် ဆိုက်တယ်လို့ ခေါ်ပါတယ်။ လက် ထိမှန်၍ လူအများ သေကြေပျက်စီးခြင်းလို့ အဓိပ္ပ ပါတယ်။

ကျောက်ရောဂါ၊ ဝမ်းရောဂါ၊ ပလိပ်ရောဂါတဲ့ ရော ဆိုးကြီးတွေဟာ ရပ်ကွက် တစ်ကွက်၊ မြို့ရွာနယ်ပယ် တ တိုင်းပြည် တစ်ခုလုံးမှာ ကျရောက်ဖြစ်ပျက်ပြီး လူအ သေကြေပျက်စီးရတာကို ရောဂန္တရကပ် ဆိုက်ရောက်တ ခေါ်ပါတယ်။ ရောဂါဆိုးတွေ ကျရောက်ပြီး လူအမ သေကြေပျက်စီးခြင်းလို့ အဓိပ္ပာယ်ရပါတယ်။

မိုးခေါင်၍ဖြစ်စေ၊ ရေကြီး၍ဖြစ်စေ၊ စပ်မက်လှ မစိုက်ပျိုးနိုင်သောကြောင့် ဖြစ်စေ၊ စိုက်ပျိုးပြီး စပါး များ၊ ကြွက်ငှက် ပိုးမွှား ဖျက်ဆီး၍ ဖြစ်စေ၊ အစာရေ ငတ်မွတ် ခေါင်းပါးခြင်းကို ဒုဗ္ဘိက္ခန္တရကပ် ဆိုက်တယ် ခေါ်တယ်။ ငတ်မွတ်ခေါင်းပါးလို့ လူအများ သေ ပျက်စီးခြင်းလို့ အဓိပ္ပာယ်ရပါတယ်။

မေး။ ။ရပ်ပြစ်ရှစ်ပါးဆိုတာ ဘာလဲ။

ဖြေ။ ။ရပ်ပြစ်ရှစ်ပါး ဆိုတာက အပြစ်ရှိတဲ့ အရ (၈)ပါးကို ခေါ်တယ်။ ထိုအရပ်၊ ထိုဘဝ(၈)မျိုးသို့ ရော နေလျှင် မဂ်ဖိုလ်နိဗ္ဗာန်ကို ရောက်အောင် တရားအားထု



ရန် အခွင့်အခါ မရလို့ အပြစ်ရှိတဲ့ အရပ်၊ အပြစ်ရှိတဲ့ ဘဝ လို့ ဆိုရတယ်။ ပါဠိတော်မှာ အက္ခဏလို့ ခေါ်တယ်။ မဂ်ဖိုလ်နိဗ္ဗာန်ကို မရနိုင်တဲ့ကာလ(ဒေသ) လို့ ဆိုလိုတယ်။

အပါယ်လေးပါး ရှိတဲ့အနက် အသူရကာယ်ကို ပြိတ္တာ အမျိုးအစားထဲ ထည့်ပြီး....

(၁) ငရဲ၊

(၂) တိရစ္ဆာန်၊

(၃) ပြိတ္တာ၊

(၄) အသညသတ်နဲ့ အရူပဗြဟ္မာဘုံ၊

(၅) သာသနာ မရောက်နိုင်တဲ့ နယ်စွန်နယ်ဖျား လူရှိင်း ဒေသ၊

(၆) သာသနာကို မယုံကြည်တဲ့ မိစ္ဆာဒိဋ္ဌိလူမျိုး ဖြစ်ခြင်း၊

(၇) တရားတော်ကို နားလည်နိုင်သောဉာဏ် မရှိသူဖြစ် ခြင်း၊

(၈) ဘုရားမပွင့်တဲ့အခါ လူလာဖြစ်ခြင်း၊

အဲဒီ အရပ်ရှစ်မျိုးမှာ ရောက်နေတဲ့ သတ္တဝါတွေဟာ တရားတော်ကို နာကြားခွင့် မဂ်ဖိုလ်နိဗ္ဗာန် ရောက်ကြောင်း တရားကို အားထုတ်ခွင့်မရတဲ့အတွက် ထိုဒေသတွေကို ရောက် မှာကို ဗုဒ္ဓဘာသာဝင်တွေ ကြောက်ကြတယ်။ ဒါကြောင့် ဒီဩကာသ ဆုတောင်းထဲမှာ ထည့်ပြီး ဆုတောင်းထားခြင်း ဖြစ်တယ်။

မေး။ ။ရန်သူမျိုးငါးပါးဆိုတာ ဘာလဲ။

ဖြေ။ ။(၁) ရေ (၂) မီး (၃) ခိုးသူ (၄) အမွေခံသားဆိုး၊ (၅) မင်းဆိုး၊ ဤငါးမျိုးကို ရန်သူမျိုး ငါးပါးလို့ ခေါ်တယ်။

မေး။ ။ဝိပတ္တိတရား လေးပါးဆိုတာ ဘာလဲ။

ဖြေ။ ။(၁) ကာလဝိပတ္တိ=မင်းဆိုး မင်းညစ် အုပ်စိုးသော ခေတ်နှင့် ကြုံရခြင်း။

(၂) ဂတိဝိပတ္တိ= အပါယ်လေးဘုံ၌ ဖြစ်နေရခြင်း။

(၃) ဥပဓိဝိပတ္တိ= ရုပ်ဆင်းအင်္ဂါ လက္ခဏာ ဖောက်ပြန်ချွတ်ယွင်းခြင်း။

(၄) ပယောဂဝိပတ္တိ=ကောင်းသော အမှုကိစ္စ၌ အားထုတ် လို့ မရခြင်းဟု ဝိပတ္တိခေါ် ဖောက်ပြန် ချွတ်ယွင်း ပျက်စီးမှုဟာ လေးမျိုးရှိတယ်။

မေး။ ။ဗျသနတရား ငါးပါးဆိုတာ ဘာလဲ။

ဖြေ။ ။ပျက်စီးဆုံးပါးခြင်းကို ဗျသနတရားလို့ ခေါ်တယ်။

(၁) ဉာတိဗျသန=ဆွေမျိုးများ၏ ပျက်စီးခြင်း။
(၂) ဘောဂဗျသန=စည်းစိမ်ဥစ္စာ ပျက်စီးခြင်း။
(၃) ရောဂဗျသန=အနာရောဂါ ဖြစ်၍ ကျန်းမာမှု ပျက်စီးခြင်း။
(၄) ဒိဋ္ဌိဗျသန=မှားသောအယူကို ယူခြင်း။
(၅) သီလဗျသန= အကျင့်သီလ ပျက်စီးခြင်း။

မေး။ ။မဂ်တရားဆိုတာ ဘာလဲ။



ဖြေ။ ။မဂ်တရားဆိုတာ သောတာပတ္တိမဂ်၊ သကဒါဂါမိမဂ်၊ အနာဂါမိမဂ်၊ အရဟတ္တမဂ် ၄-ပါးကိုလဲ ခေါ်တယ်။ ဒီလေးပါးကို လောကုတ္တရာကုသိုလ် ၄-ပါးလို့လဲ ခေါ်တယ်။ အဲဒီ မဂ်ကုသိုလ် ၄-ပါးရတဲ့ ပုဂ္ဂိုလ်ကို မဂ္ဂဋ္ဌာန် လေးယောက်လို့ ခေါ်တယ်။

မေး။ ။ဖိုလ်တရားဆိုတာ ဘာလဲ။

ဖြေ။ ။ဖိုလ်တရားဆိုတာ သောတာပတ္တိဖိုလ်၊ သကဒါဂါမိဖိုလ်၊ အနာဂါမိဖိုလ်၊ အရဟတ္တဖိုလ် လေးပါးဖြစ်တယ်။ ဒီဖိုလ်လေးပါးကိုရနေတဲ့ ပုဂ္ဂိုလ်လေးယောက်ကို ဖလဋ္ဌာန် လေးယောက်လို့ ခေါ်တယ်။ တစ်ယောက်ချင်းခေါ်တော့ အစဉ်အတိုင်း သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်၊ ရဟန္တာလို့ ခေါ်တယ်။

မေး။ ။မဂ်လေးပါးနဲ့ ဖိုလ်လေးပါးကို ပေါင်းလိုက်တော့ ဘယ်လိုခေါ်သလဲ။

ဖြေ။ ။မဂ်စိတ်လေးပါးနဲ့ ဖိုလ်စိတ်လေးပါးကို ပေါင်းလိုက်တော့ လောကုတ္တရာစိတ် ၈-ပါးလို့ ခေါ်တယ်။ မဂ္ဂဋ္ဌာန် လေးယောက် ဖလဋ္ဌာန်လေးယောက် ပေါင်း (၈) ယောက်ကို အရိယာပုဂ္ဂိုလ် ၈-ယောက်လို့လဲ ခေါ်တယ်။ အရိယာသံဃာ ၈-ပါးလို့လဲ ခေါ်တယ်။ ပရမတ္ထသံဃာ ၈-ပါးလို့လဲခေါ်တယ်။ သံဃာတော် ၈-ပါးလို့လဲခေါ်တယ်။ (သံဃံ သရဏံ ဂစ္ဆာမိမှာ သံဃာရဲ့ ဒီပရမတ္ထသံဃာ ၈-ပါးကို ယူရတယ်။)

မေး။ ။နိဗ္ဗာန်တရားဆိုတာ ဘာလဲ။

ဖြေ။ ။နိဗ္ဗာန်ဆိုတာ နိဗ္ဗာန= နိဗ္ဗာနဆိုတဲ့ ပါဠိ ပြောင်းလာတဲ့ စကားဖြစ်တယ်။ နိ=ကင်းခြင်း မရှိဘူး+ဝ =လိုချင်တပ်မက်မှုအကျာ+နိဗ္ဗာန=လိုချင်တပ်မက်မှု တဏှာ သဖြင့် ဆင်းရဲဒုက္ခလဲ မရှိတော့ဘဲ အေးငြိမ်း ချမ်းသာမှု နိဗ္ဗာန်လို့ ခေါ်တယ်။ နိဗ္ဗာန်ဟာ ဗုဒ္ဓဘာသာဝင်တို့အတွက် အမြတ်ထားကာ အလိုလားအပ်ဆုံးဖြစ်တဲ့ နောက်ဆုံးပန်းတိုင် ဖြစ်တယ်။

မေး။ ။မဂ် ၄-ပါး ဖိုလ်လေးပါး နိဗ္ဗာန် ၉-မျိုး ဘယ်လို ခေါ်သေးသလဲ။

ဖြေ။ ။မဂ်-၄ပါး၊ ဖိုလ် ၄-ပါး၊ နိဗ္ဗာန် ၉-မျိုး လောကုတ္တရာတရား ၉-ပါးလို့ ခေါ်တယ်။ ဓမ္မ=တရားတော် လို့လဲ ခေါ်တယ်။ ဒါ ၉-မျိုးထဲကို ပိဋကသုံးပုံ ပရိယတ် တစ်ပါး ထပ်ဖြည့်ပြီး ဓမ္မ=တရားတော် ၁၀-ပါးလို့လဲခေါ် တယ်။ (ဓမ္မ ဘုရားဂုဏ်တော်မှာ ဓမ္မအရ ဒီတရား ၁၀-ပါး ကို ယူရတယ်။)

မေး။ ။လောကုတ္တရာ ကိုးပါးကို ဆုတောင်း ယူလို့ မရ၊ ကျင့်ကြံအားထုတ်မှ ရတယ်ဆိုရင် ဘယ်တရားတွေ ဘယ် လို အားထုတ်ရမလဲ။

ဖြေ။ ။ရှေးဦးစွာ သီလ ဖြူစင်အောင် စောင့်ထိန်းရ မယ်၊ ပြီးတော့ သမာဓိ တည်ကြည်အောင် သမထဘာဝနာ ကို အားထုတ်ရမယ်။ သမာဓိ အားကောင်းလာတဲ့ အခါ ရုပ်နာမ်တရားတွေရဲ့ မမြဲမှု၊ ဆင်းရဲမှု၊ အစိုးမရမှုကို သုံးသပ် ဆင်ခြင်ကာ ဝိပဿနာ ဘာဝနာကို ပွားများရမယ်။ တရား အားထုတ်နည်း အကျယ်ကို သိချင်ရင် ဝိသုဒ္ဓိမဂ် မြန်မာပြန်



ဆင်းတွေကို ဖတ်ရမယ်။ လက်တွေ့ တရားအားထုတ်ချင် ရိပ်သာတစ်ခုခုကိုသွားပြီး ဆရာတော်ထံ ချဉ်းကပ်၍ လ ကောင်းကောင်းနဲ့ အားထုတ်ကြရမယ်။ သီလ၊ မာဓိ၊ ပညာဆိုတဲ့ အဆင့်သုံးဆင့်ကို အစဉ်အတိုင်း အားထုတ်သွားရင် မဂ်ဖိုလ်နိဗ္ဗာန် အကျိုးထူးကို ခံစားရ မယ်။

မေး။ ။လူတွေက ကြာသည်နှင့် ရှိခိုးကန်တော့ပြီးတဲ့ ခါ ဘုန်းတော်ကြီးများက ဆုပေးကြတယ်၊ ဆုဟာ ပေး လို့ ရပါသလား။

ဖြေ။ ။ဆုတောင်းခန်းမှာ ပြခဲ့တဲ့အတိုင်းပဲ ဆုဟာ ဘုန်းတော်ကြီးများကလဲ ပေးလို့မရ တောင်းလို့မရသလို ဘုန်းတော်ကြီးများကလဲ ပေးလို့မရ ပါဘူး။ လူ နတ် နိဗ္ဗာန် သုံးတန်သော ကောင်းကျိုးတရားကို ရယူချင်တဲ့သူဟာ ထိုတန်းတွေကို ရရာရကြောင်း ကောင်းမှု ကုသိုလ်တွေကို လက်တွေ့ကျင့်ကြံ အားထုတ်မှသာ ရမှာ ဖြစ်တယ်။

မေး။ ။ဘုန်းကြီးတွေက ဆုပေးပေမယ့် ပေးတိုင်းမရ ဘူးဆိုရင် ဘာဖြစ်လို့ ဆုပေးတဲ့ အစဉ်အလာကို ရှေးဆရာ တော်ကြီးများ တီထွင်ခဲ့ပါသလဲ။

ဖြေ။ ။ဆုပေးတယ်ဆိုတဲ့ ဝေါဟာရက တွင်ကျယ်နေ ပေမယ့် အမှန်မှာတော့ ဆုပေးတာ မဟုတ်ပါဘူး။ ဒီလို ရတနာသုံးပါး ဆရာသမားတွေကို ရှိခိုးရတဲ့ အတွက် ဒီအကျိုး-ဒီအကျိုးတွေကို ရနိုင်တယ်လို့ နည်းညွှန်လမ်းပြ ဟောပြောတာပဲ ဖြစ်ပါတယ်။ တစ်နည်းအားဖြင့်တော့ ရှိခိုး ကန်တော့တဲ့ ပုဂ္ဂိုလ် တောင်းတဲ့ဆုတွေဟာ ပြည့်စုံပါစေလို့

ထပ်ဆင့် အနှုတ်ပေးတာပဲ ဖြစ်တယ်။ တစ်နည်းအားဖြင့် တစ်စုံတစ်ခုကို ရရှင်လုပ်ချင်နေတဲ့ ပုဂ္ဂိုလ်ကို လုပ်ဖြစ်အောင် အားပေးတိုက်တွန်းတဲ့ သဘောပဲ ဖြစ်တယ်။

နောက်တောင်းခံမှာ ဆုဟာ တောင်းလို့ မရပေမယ့် တကယ်ရစေမယ့် လက်တွေ့ လုပ်ဆောင်မှုကို နှိုးဆော်… သလို ဖြစ်လို့ ဆုတောင်းလိုက်တာလည်း ဆုဟာ ပေး… မရပေမယ့် ဆုပေးခံရတဲ့ပုဂ္ဂိုလ်က စိတ်ဆုတွေကို လိုချင်… ဖြစ်လာပြီး လက်တွေ့ လုပ်ဆောင်ချင်တဲ့စိတ်ကို နှိုးဆွပေး… ရောက်လို့အတွက် စိန်းဆွချက်အရ လက်တွေ့ တကယ် … အောင် တကယ် အကျိုးရနိုင်တဲ့အတွက် ဆုဟာ ပေးသင့်… တယ်။ ဆုပေးမှုဟာ တိုက်ရိုက် အကျိုးမရစေပေမယ့် အရ… သွယ်ဝိုက်တဲ့နည်းနဲ့ အကျိုးရစေတာကို မြော်မြင်ပြီး … ဆရာတော်များက ဆုပေးတဲ့ အစဉ်အလာကို ထိန်းသိမ်းထား… ခဲ့ကြ ဖြစ်ပါတယ်။

မေး။ ဘုန်းကြီးက ဆုပေးပြီးတဲ့အခါ ပေးတဲ့ဆု… ပြည့်စုံရပါလို၏ ဆုရွေးဘုရားလို့ ဆိုသလောက ပြည့်စုံနိုင်ပါ… မလား။

ဖြေ။ ဆုဟာ တောင်းလို့လဲမရ ပေးလို့လဲမရဘူး ဆိုရင် ပေးတာလို့ ခံယူလို့လဲ အလုပ်ရမလဲ။ ဒါပေမယ့် အထက်မှာ ပြခဲ့တဲ့အတိုင်း ဆရာတော် ညွှန်ပြတဲ့အတိုင်း ကြိုးစားပါမယ်လို့ ဝန်ခံတဲ့သဘော မှတ်ယူပြီး ကြိုးစားရင် အကျိုးကို ခံစားရနိုင်ပါတယ်။

…၀…



(၇)

# သီလခန်း

မေး။ ကန်တော့ပြီးရင် သီလခံရတယ်။ သီလခံပုံကို အစအဆုံး ဖော်ပြပါ။

ဖြေ။ လူ – အဟံဘန္တေ တိသရဏေန သဟ ပဉ္စသီလံ ဓမ္မံ ယာစာမိ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

ဒုတိယမ္ပိ အဟံဘန္တေ … မေ ဘန္တေ။

တတိယမ္ပိ အဟံဘန္တေ … မေ ဘန္တေ။

ဘုန်းကြီး – ယမဟံ ဝဒါမိ တံ ဝဒေထ။

လူ – အာမ ဘန္တေ

ဘုန်းကြီး – နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ (တစ်ခေါက်)

လူ – နမော တဿ … သမ္မာသမ္ဗုဒ္ဓဿ။ (သုံးခေါက်)

ဘုန်းကြီး – ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။
ဓမ္မံ သရဏံ ဂစ္ဆာမိ။
သံဃံ သရဏံ ဂစ္ဆာမိ။

လူ — ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။
ဓမ္မံ သရဏံ ဂစ္ဆာမိ။
သံဃံ သရဏံ ဂစ္ဆာမိ။

ဘုန်းကြီး — ဒုတိယမ္ပိ ဗုဒ္ဓံ သရဏံ……

လူ — ဒုတိယမ္ပိ ဗုဒ္ဓံ သရဏံ……

ဘုန်းကြီး — တတိယမ္ပိ ဗုဒ္ဓံ သရဏံ……

လူ — တတိယမ္ပိ ဗုဒ္ဓံ သရဏံ……

ဘုန်းကြီး — တိသရဏဂမနံ ပရိပုဏ္ဏံ။

လူ — အာမ ဘန္တေ။

ဘုန်းကြီး — ပါဏာတိပါတာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

လူ — (လိုက်ဆို)။

ဘုန်းကြီး — အဒိန္နာဒါနာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။

လူ — (လိုက်ဆို)

ဘုန်းကြီး — ကာမေသုမိစ္ဆာစာရာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

— လူ (လိုက်ဆို)

ဘုန်းကြီး — မုသာဝါဒါ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

လူ — (လိုက်ဆို)

ဘုန်းကြီး — သုရာမေရယ မဇ္ဇပမာဒဋ္ဌာနာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

လူ — (လိုက်ဆို)



ဘုန်းကြီး = တိသရဏေန သဟ ပဉ္စသီလံ သာဓုကံ ကတွာ ဓမ္မံ အပ္ပမာဒေန သမာဒေထ။

လူ = အာမ ဘန္တေ။

မေး။ ။အဟံဘန္တေက……မေ ဘန္တေ အထိ ဘာလို့ ခေါ်သလဲ။ ဘာအဓိပ္ပာယ်ဆိုလိုသလဲ။

ဖြေ။ ။အဟံဘန္တေက……မေ ဘန္တေ အထိကို သီလတောင်းလို့ ခေါ်တယ်။ အဓိပ္ပာယ်ကတော့ အရှင်ဘုရား၊ တပည့်တော်ဟာ သရဏဂုံသုံးပါးနှင့်တကွ ငါးပါးသီလကို တောင်းခံပါတယ်။ တပည့်တော်အား ချီးမြှောက်မှုစသော အားဖြင့် သီလပေးတော်မူပါဘုရားလို့ ဆိုလိုတယ်။

မေး။ ။သီလကို မြန်မာလိုတောင်းရင်ကော မရဘူးလား။ ဘာဖြစ်လို့ ပါဠိဘာသာနဲ့ စီစဉ်ထားသလဲ။

ဖြေ။ ။အထက်အတိုင်း မြန်မာလို ဖြစ်ဖြစ် တပည့်တော်ကို သရဏဂုံ ၃-ပါးနဲ့ ငါးပါးသီလ ပေးတော်မူပါလို့ အရပ်သုံးစကားနဲ့ဖြစ်ဖြစ် သီလ တောင်းလို့ ရပါတယ်။ ဒါပေမယ့် ဘာသာရေးဆိုင်ရာ လုပ်ဆောင်မှုဖြစ်တဲ့အတွက် ခန့်ညားလေးနက်မှု ရှိအောင်လို့ ဘာသာရေး အခမ်းအနား အားလုံး ညီညီညာညာဆိုလို့ ဘုရားရှင် တရားဟောတော်မူတဲ့ ပါဠိဘာသာနဲ့ စီစဉ်ပေးထားတာ ဖြစ်ပါတယ်။

မေး။ ။ သီလဟာ တောင်းလို့ ပေးလို့ ရပါသလား၊ ဘုန်းကြီးက သူ့မှာရှိတဲ့သီလကို ထုတ်ပေးတာလား၊ တောင်းတယ်၊ ပေးတယ်ဆိုတဲ့ စကားကို ဘယ်လို မှတ်ရမလဲ။

ဖြေ။ ။သီလဟာ တောင်းလို့ ပေးလို့ မရပါဘူး၊ ကိုယ်တိုင် ရှောင်ကြဉ်စောင့်ထိန်းရတဲ့ အမှု ဖြစ်ပါတယ်။ ဘုန်းကြီးကလဲ သူ့မှာရှိတဲ့ သီလကို ခွဲဝေ ပေးကမ်းလိုက်တာ မဟုတ်ပါဘူး။ ဘာသာရေးကိစ္စ ဖြစ်တဲ့အတွက် ခန့်ထည် ကျ မှန်မှန်ကန်ကန် တိတိကျကျဖြစ်ဖို့ သီလဆောက်တည်ဖို့ ဆောက်တည်နည်းကို ဘုန်းကြီးက ရှေ့က ချပေး ဆိုပေးတာ ဖြစ်ပါတယ်။ လူတွေကလဲ အဲဒီလို ချပေး ဆိုပေးပါ ဘုရားလို့ တောင်းပန်တာ ဖြစ်ပါတယ်။ ဒါကြောင့် သီလ တောင်းတယ်ဆိုတာ ရှေ့က ဆိုပေးဖို့ တောင်းပန်တာ ဖြစ်ပြီး သီလပေးတယ်ဆိုတာကလဲ ရှေ့က ဆိုပေးတာသာ ဖြစ်တယ်လို့ မှတ်ယူနိုင်ပါတယ်။

မေး။ ။လူက သီလပေးဖို့ တောင်းပန်ပြီးတဲ့ အခါ ဘုန်းကြီးက "ယမဟံ ဝဒါမိ တံ ဝဒေထ(သီလယူသူ တစ်ယောက်တည်းဆိုရင် တံ ဝဒေဟိ)ဆိုတာ ဘာအဓိပ္ပာယ်လဲ။

ဖြေ။ ။လူက သီလယူဖို့ ဆိုပေးပါလို့ တောင်းပန်တော့ ဘုန်းကြီးက ပါဠိဘာသာနဲ့ "ယမဟံ ဝဒါမိ တံ ဝဒေထ=မြန်မာလိုတော့ အရှင် ငါဆိုတဲ့အတိုင်း လိုက်ဆိုကြ" လို့ တိုက်တွန်းတာ ဖြစ်တယ်။ သီလယူတဲ့လူ တစ်ယောက်တည်းဆိုရင်တော့ ယမဟံ ဝဒါမိ တံဝဒေဟိ ငါဆိုတဲ့အတိုင်း လိုက်ဆိုလို့ ဆိုလိုတယ်။

မေး။ ။ဘုန်းကြီးက ယမဟံ ဝဒါမိ တံ ဝဒေထဆိုတော့ လူက အာမ ဘန္တေဆိုတာ ဘာအဓိပ္ပာယ်လဲ။

ဖြေ။ ။ဘုန်းကြီးက ငါဆိုတဲ့အတိုင်း လိုက်ဆိုကြလို့ ဆိုတဲ့အခါ လူက မှန်လှပါ၊ လိုက်ဆိုပါမည် ဘုရားလို့ ဝန်ခံတဲ့စကား ဖြစ်တယ်။



…။ ။အဟံဘန္တေ စသည်ဖြင့် သီလ မတောင်းဘဲ …သီလဆောက်တည်လို့ မရဘူးလား။

…။ ။သရဏဂုံသီလကို မတောင်းဘဲ ဆောက်တည် …ပါတယ်။ ဘုရားရှင်လက်ထက် သရဏဂုံ ဆောက် …ကြတာလဲ တောင်းခံပြီး ဆောက်တည်တာ မဟုတ်ပါ …ဘုရားရှင်ဟောတဲ့တရားတော်ကို သဘောကျပြီး ဘုရား …ကြည်ညိုလေးစားစိတ် ဖြစ်ပေါ်လာတဲ့အခါ ယနေ့ …ပြီး တစ်သက်ပတ်လုံး ဘုရား၊ တရား၊ သံဃာကို ကိုး …ကွယ်ပါ၏လို့ ဆောက်တည်လိုက်တာပဲ။ တစ်ချိန် …က ဗုဒ်ဂိုဏ်းနဲ့ ဘန်းဂိုဏ်းဆိုပြီး နှစ်မျိုး ကွဲခဲ့ဖူးတယ်။ …ဂိုဏ်းဆိုတာက အစဉ်အလာအတိုင်း သီလ ယူတဲ့အခါ …ဘန္တေက စ ဆိုတဲ့ ဂိုဏ်းပေါ့။ ဗုဒ်ဂိုဏ်းဆိုတာက အဟံ …စတဲ့ သီလတောင်းတာ အပိုသက်သက် အချိန်ဖြုန်း …၊ ဘုရားလက်ထက်ကလဲ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိက စ တာ …ပြီး ကျမ်းဂန်အထောက်အထားနဲ့ အစဉ်အလာကို တော် …ဂိုဏ်း ဖြစ်တယ်။ မှန်ပေမဲ့သော်လဲ အစဉ်အလာကို …သိမ်းလိုတဲ့ ဗုဒ္ဓဘာသာဝင် အများစုက လက်မခံကြတဲ့ …က် အခုအခါမှာ ဗုဒ်ဂိုဏ်းဟာ မရှိတော့ပါဘူး။ အခု …ားကျင့်သုံးနေတဲ့ အဟံဘန္တေကစ တဲ့ အစီအစဉ်ဟာလဲ …တာ မဟုတ်လို့ သရဏဂုံ သီလပေးတဲ့ ဘုန်းကြီးဆီမှာ …ယူခြင်းဖြင့် သီလနဲ့ စပ်တဲ့ တရားတော်တွေလဲ နာကြား …အောင် ဆရာတော်ကြီးများ စီစဉ်ခြင်း ဖြစ်ပါတယ်။ …ဏ်းသမားတွေ ပြောသလို အဟံဘန္တေဟာ အချိန်ဖြုန်း … မဟုတ်ပါဘူး။ ဒါကြောင့်လဲ ဗုဒ်ဂိုဏ်းဟာ ပျောက် …ားပြီး ဘန်းဂိုဏ်းသာ ဆက်လက်တည်နေတာ ဖြစ်ပါတယ်။

မေး။ ။ဘုန်းကြီးထံ သီလမယူဘဲ ဘုရားရှေ့မှာ ယူတဲ့အခါ အာမဘာဇန္တဆိုဖို့ လိုသေးသလား။

ဖြေ။ ။ဘုရားထံမှာ သီလဆောက်တည်တဲ့ အခါ သရဏဂုံနဲ့ သီလကို ရွတ်ချပေးတဲ့ ပုဂ္ဂိုလ်လဲ မရှိဘူး၊ ဆိုတဲ့အတိုင်း၊ လိုက်ဆိုကြလို့ ပြောတဲ့ တိုက်တွန်းတဲ့ ပုဂ္ဂိုလ် လဲ မရှိတဲ့အတွက် မှန်ပါ လိုက်ဆိုပါမယ်လို့ အဓိပ္ပာယ်ရ အာမဘာဇန္တကို ဆိုစရာ မလိုတော့ဘူး။

မေး။ ။နမောတဿဆိုတာ ဘာလဲ။

ဖြေ။ ။နမောတဿစတဲ့ ပါဠိက သရဏဂုံလဲ မဟုတ် ဘူး။ ငါးပါးသီလလဲ မဟုတ်ဘူး။ ဗုဒ္ဓဘာသာဝင်တွေ ဘာ သာရေးလုပ်ငန်း ဆောင်ရွက်တဲ့အခါ အထူးသဖြင့် ပေပုရ မှာ စာရေးတဲ့အခါ၊ စာအုပ်တွေ ပုံနှိပ်နိုင်တဲ့အခါ အစမှာ ရှိခိုးရတဲ့ မဟာဘုရားရှိခိုးကြီး ဖြစ်တယ်။ နမောတဿဟာ သံယုတ်၊ မဇ္ဈိမ ပဏ္ဏာသ၊ သုတ်မဟာဝါ၊ အင်္ဂုတ္တိုရ် ပါဠိ တော်တွေမှာလာတဲ့ ဓနဉ္စာနီ ပုဏ္ဏေးမ၊ ဗြဟ္မာယုပုဏ္ဏား၊ သိကြားမင်းနှင့် အာရာမဒဏ္ဍပုဏ္ဏားတို့ရဲ့ ဘုရားရှိခိုးဥဒါန်း ဖြစ်တယ်။

သရဏဂုံသုံးပါး ငါးပါးသီလ မဆောက်တည်ခင်မှာ ဘုရားကို ပထမရှိခိုးခိုင်းတာ ဖြစ်တယ်။ နမောတဿ မဟာ ဘုရားရှိခိုးကြီးရဲ့ မြန်မာလို အဓိပ္ပာယ်ကတော့ "ပူဇော် အထူးကို ခံယူတော်မူထိုက်သော တရားအလုံးစုံကို ကိုယ်တိုင်ဘက်ကြင် အမှန်မျှ သိတော်မူသော မြတ်စွာဘုရားကို ရှိခိုး ပါ၏"လို့ ဆိုလိုတယ်။



မေး။ ။ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ ကစပြီး တတိယမ္ပိ သံဃံ သရဏံဂစ္ဆာမိအထိကို ဘာလို့ခေါ်သလဲ။ မြန်မာလို ဘယ်လို ဆိုလိုသလဲ။

ဖြေ။ ။ဗုဒ္ဓံ သရဏံ ဂစ္ဆာမိစသည်ကို သရဏဂုံသုံးပါး ကိုးကွယ် ဆည်းကပ်ခြင်းလို့ ခေါ်တယ်။ ဘုရားရှင်ကို ကိုး ကွယ် ဆည်းကပ်ပါ၏။ တရားတော်ကို ကိုးကွယ်ဆည်းကပ် ပါ၏။ သံဃာတော်ကို ကိုးကွယ်ဆည်းကပ်ပါ၏လို့ မြန်မာလို စိတ်ထဲမှာသိပြီး ဆိုရမယ်။

ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးကို ယုံကြည်လေး စားစွာနဲ့ စိတ်စေတနာပါပြီး ကိုးကွယ်ဆည်းကပ်မှ သရဏဂုံ ဆောက်တည်ရာရောက်တယ်။ ဘုန်းကြီးဆိုပေးလို့ လိုက်ဆို တာမျိုး၊ ကိုယ့်ဘာသာရထားလို့ အလွတ်ဆိုတာမျိုးဆိုရင် တော့ အကျိုးမများလှဘူး။ ဘာသာရေးဆိုင်ရာ ပါဠိတွေ လိုက်ဆိုတဲ့အခါ ဆိုလိုရင်းအနက်အဓိပ္ပာယ်ကိုသိမှ ကျေးဇူး များတယ်။

မေး။ ။သရဏဂုံသုံးပါးကို ဘာဖြစ်လို့ သုံးကြိမ်ထပ် ဆိုသလဲ။

ဖြေ။ ။သုံးကြိမ်ထပ်ဆိုတာ အထူးလေးနက်စေချင်လို့ ဖြစ်တယ်။ တစ်ကြိမ်တစ်ခါဆိုတာကတော့ စိတ်မပါ လက်မပါ ဆိုတဲ့ ကျတန်းကျဘဲဆိုတာလဲ ဖြစ်နိုင်တယ်။ အခု သရဏဂုံ ဆောက်တည်တဲ့လူကတော့ သူကယ့် ယုံယုံကြည်ကြည် စိတ်ပါလက်ပါ ကိုးကွယ်ဆည်းကပ်ခြင်း ဖြစ်တယ်ဆိုတာ ပြသစေချင်လို့ သူ့ရဲ့ ကိုးကွယ်ဆည်းကပ်မှုကို လေးနက်စေချင် လို့ သုံးကြိမ်ထပ်ဆိုခြင်းဖြစ်တယ်။ ဘာသာရေးကိစ္စတွေမှာ

သုံးကြိမ်ထပ်ဆိုမှုန်သမျှဟာ လေးနက်စေချင်လို့ ဖြစ် လို့ မှတ်ရမယ်။

မေး။ ။သရဏဂုံနဲ့ပတ်သက်ပြီး အခြေခံသိစရာ နှစ်မျိုးရှိသလဲ။

ဖြေ။ ။သရဏဂုံနဲ့ ပတ်သက်ပြီး သိစရာအခြေခံ ( မျိုးရှိတယ်။

(က) သရဏ-ကိုးကွယ်ရာ၊
(ခ) သရဏဂုံ-ကိုးကွယ်ရာဟု သိသောစိတ်၊
(ဂ) သရဏဂုံတည်သူ၊
(ဃ) သရဏဂုံအပြား၊
(င) သရဏဂုံအကျိုး၊
(စ) သရဏဂုံညစ်နွမ်းခြင်း၊
(ဆ) သရဏဂုံပျက်စီးခြင်း၊

ဒီ ၇-မျိုးကို အကျဉ်းသိထားရမယ်။

မေး။ ။သရဏ=ကိုးကွယ်ရာဆိုတာ ဘာလဲ။

ဖြေ။ ။ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးဟာ ကိုးကွယ်ဆည်းကပ်သူတို့ရဲ့ ကြောက်ရွံ့ခြင်း၊ ထိတ်လန့်ခြင်း၊ အပါယ်ဆင်းရဲ၌ ဖြစ်ခြင်းစတဲ့ ဆင်းရဲဒုက္ခတွေကို ပ ပျောက် ချမ်းသာကို ရောက်စေတတ်လို့ သရဏ=ကိုးကွယ် ရာလို့ ခေါ်တယ်။

မေး။ ။သရဏဂုံ ကိုးကွယ်ဆည်းကပ်မှုဆိုတာ ဘာလဲ။

ဖြေ။ ။အများအားဖြင့် ဗုဒ္ဓဘာသာတွေက သရဏဂုံ ဂစ္ဆာမိ ဆိုတဲ့ စာပိုဒ်သုံးခု၊ သို့မဟုတ် ဒီစာပိုဒ် သုံးခုကို နှုတ်က ရွတ်ဆိုတာကို သရဏဂုံဆောက်တည်တာ ဖြစ်တယ်လို့ ထင်နေကြတယ်။ အမှန်မှာတော့ ဘုရား



ရား၊ သံဃာ၊ ရတနာသုံးပါးဟာ ဆင်းရဲ ပယ်ဖျောက် မ်းသာရောက်စေတဲ့ ဝတ္ထုမှန် သုံးပါး ဖြစ်တယ်လို့ ယုံ ကြည်တဲ့ သဒ္ဓါ၊ သိမှတ်နားလည်တဲ့ ပညာကို သရဏဂုံ၊ မဟုတ် ကိုးကွယ်ဆည်းကပ်မှုလို့ ခေါ်တယ်။ ဘုန်းကြီးက ပေးလို့ ဖြစ်စေ၊ မိရိုးဖလာ အလွတ်ရထားလို့ ဖြစ်စေ၊ သရဏံ ဂစ္ဆာမိ စသည်ဆိုတဲ့အခါ ယုံကြည်မှု သဒ္ဓါတရား အသိဉာဏ်နဲ့ မယှဉ်တဲ့ ဉာဏဝိပ္ပယုတ် သရဏဂုံလို့ ခေါ် ယ်၊ ဆင်းရဲ ပယ်ဖျောက် ချမ်းသာ ရောက်စေတတ်သော ဝတ္ထုမှန် သုံးပါးဖြစ်ကြောင်းကို ယုံလဲယုံကြည်မယ်၊ သိရှိ နားလည်မှုလဲ ရှိမယ်ဆိုရင်တော့ ယုံကြည်မှုသဒ္ဓါ၊ သိနား လည်မှု ပညာနှစ်ပါးကို အသိဉာဏ်နဲ့ ယှဉ်တဲ့ ဉာဏသမ္ပယုတ် သရဏဂုံလို့ ခေါ်တယ်။

မေး။ ။ဘယ်လိုလူမျိုးကို သရဏဂုံတည်တဲ့လူလို့ ခေါ် သလဲ။

ဖြေ။ ။ရတနာသုံးပါးဟာ ဘေးရန် ပယ်ဖျောက် ချမ်းသာရောက်စေတတ်တဲ့ ဝတ္ထုမှန် သုံးပါး ဖြစ်တယ်လို့ ယုံကြည် သိမှတ် ဆည်းကပ်ကိုးကွယ်သူကို လောကီသရဏဂုံ တည်ဆောက်တဲ့လူလို့ ခေါ်ပြီး ဝိပဿနာကမ္မဋ္ဌာန်း အား ထုတ်မှု ရရှိတဲ့ မဂ်စိတ် လေးပါးကိုရတဲ့ အရိယာပုဂ္ဂိုလ် ရှစ်ယောက်ကို လောကုတ္တရာ သရဏဂုံတည်တဲ့လူလို့ ခေါ် တယ်။

မေး။ ။သရဏဂုံ ဘယ်နှစ်မျိုးရှိသလဲ။

ဖြေ။ သရဏဂုံဟာ...
(၁) လောကီသရဏဂုံ၊
(၂) လောကုတ္တရာ သရဏဂုံ၊

လို့ နှစ်မျိုးရှိတယ်။ ရတနာသုံးပါးဟာ ကြောက်စိတ် ကင်းပျောက် ချမ်းသာစေတတ်တဲ့ ဝတ္ထုမှန် သုံးပါးဖြစ်တယ်လို့ ယုံကြည် သိမှတ်တဲ့ သဒ္ဓါ၊ ပညာဦးဆောင်တဲ့ စိတ်အစဉ်ဟာ အများဆောက်တည်နေကြတဲ့ လောကီသရဏဂုံ ဖြစ်ပြီး ဝိပဿနာကမ္မဋ္ဌာန်း အားထုတ်မှုရတဲ့ မဂ်စိတ် လေးခုဟာ လောကုတ္တရာသရဏဂုံ ဖြစ်တယ်။

မေး။ ။သရဏဂုံ ဆောက်တည်တဲ့ အတွက် ဘယ်လို အကျိုးတွေ ရသလဲ။

ဖြေ။ ။လောကီသရဏဂုံကို ဆောက်တည်ရတဲ့အတွက် ယခုဘဝမှာ ကြောက်ရွံ့ ထိတ်လန့်ခြင်း ကင်းတယ်။ စိတ်ကြည်လင်တယ်။ စည်းစိမ်ဥစ္စာလာဘ်သပ်ပကာ တိုးတယ်။ သေတဲ့အခါမှာ အပါယ်လေးဘုံ မရောက်ဘဲ လူ့စည်းစိမ်၊ နတ်စည်းစိမ်ကို ခံစားရတယ်။ လောကုတ္တရာသရဏဂုံ ၄-ပါးကတော့ ဗိုလ်လေးပါးအကျိုးကို ခံစားရတယ်။ ဝဋ်ဒုက္ခမှ ကင်းပြီး နိဗ္ဗာန်ချမ်းသာကို ရရှိခံစားနိုင်တယ်။

မေး။ ။ဘယ်အခါမှာ သရဏဂုံဟာ ပျက်စီးပါသလဲ။

ဖြေ။ ။လောကုတ္တရာသရဏဂုံကတော့ တစ်ခါရပြီးရင် ဘယ်တော့မှ မပျက်စီးတော့ပါဘူး။ နိဗ္ဗာန်ရတဲ့အထိ ဘဝအဆက်ဆက် တည်မြဲသွားတယ်။ တစ်ဆင့်ထက်တစ်ဆင့် မြင့်တက်ပြီး နိဗ္ဗာန်တိုင် ရောက်သွားနိုင်ပါတယ်။ လောကီသရဏဂုံကတော့ အခြားဘာသာကို ကူးပြောင်း ကိုးကွယ်တဲ့အခါ ဘဝတစ်ပါး ပြောင်းသွားကွယ်လွန်တဲ့အခါ ပျက်စီးပါတယ်။

မေး။ ။သရဏဂုံဟာ ဘာ့ကြောင့် ညစ်နွမ်းရပါသလဲ။



ဖြေ။ ။လောကုတ္တရာ သရဏဂုံကတော့ ဘယ်အခါမှာမှ ညစ်နွမ်းပါဘူး။ ယခု လူအများ ဆောက်တည်နေကြတဲ့ လောကီသရဏဂုံကတော့ ရတနာသုံးပါးဟာ ကိုးကွယ်ဆည်းကပ်စရာ ဟုတ်မှဟုတ်ပါ့ရဲ့လား။ ရတနာသုံးပါးကို ကိုးကွယ်လို့ရော အကျိုးကျေးဇူး ရှိပါ့ရဲ့လားလို့ သံသယစိတ်တွေ ဝင်လာတဲ့အခါ ညစ်နွမ်းတယ်။ ဒါကြောင့် သရဏဂုံ မညစ်နွမ်းအောင် အမြဲတမ်း ဖြူစင်လတ်ဆတ်နေအောင် ရတနာသုံးပါးကို အမြဲတမ်း ယုံကြည်ကိုးစားစိတ်ရှိဖို့ လိုအပ်တယ်။

မေး။ ။လောကီသရဏဂုံဟာလဲ တစ်ခါ ဆောက်တည်ထားရင် ဘာသာပြောင်းမှ သေမှပျက်စီးတယ်ဆိုရင် အခု ဗုဒ္ဓဘာသာတွေ နေ့စဉ်ဆောက်တည်နေတော့ အပိုဖြစ်မနေဘူးလား။ ကျမ်းဂန်တွေမှာလဲ တစ်ကြိမ်ပဲ ဆောက်တည်တယ် မဟုတ်လား။

ဖြေ။ ။တစ်ကြိမ်ဆောက်တည်ထားတဲ့ လောကီသရဏဂုံဟာ ဘာသာပြောင်းမှ၊ သေမှပျက်စီးတာ မှန်ပါတယ်။ ကျမ်းဂန်တွေမှာလဲ ယနေ့မှစ၍ အသက်ထက်ဆုံး ဘုရား၊ တရား၊ သံဃာကို ကိုးကွယ်ဆည်းကပ်ပါ၏လို့ တစ်ကြိမ်သာ ဆောက်တည်တာ မှန်ပါတယ်။ ဒါကြောင့် တစ်ခါဆောက်တည်ပြီးရင် ထပ်မဆောက်တည်လဲ ရပါတယ်။ ဒါပေမယ့် ဗုဒ္ဓဘာသာတွေ သရဏဂုံကို အကြိမ်ကြိမ် ဆောက်တည်တဲ့ အတွက် အပြစ်မရှိပါဘူး။ တစ်ကြိမ်ဆောက်တည်တဲ့အတွက် တစ်ခါပဲ ကုသိုလ်ရမယ်။ အခု အကြိမ်ကြိမ် ဆောက်တည်တဲ့ အတွက် အကြိမ်ကြိမ် ကုသိုလ်ရပါတယ်။ ပဋ္ဌာန်း ၂၄-ပစ္စည်းမှာ အာသေဝနပစ္စည်းဆိုတာ ရှိတယ်။ ကုသိုလ်ကောင်းမှုကို ထပ်

ခါ ထပ်ခါ ပြုလုပ်ခြင်း၊ ဆစ်ခါလုပ်ထားတဲ့ ကုသိုလ်ကို ထပ်ခါ ထပ်ခါ သတိရ ပွားများနေခြင်းဖြင့် ကုသိုလ်ဟာ အင်အားကြီးမားလာတယ်။ ဒီလို ကုသိုလ်အင်အား ကြီးမား လာအောင်လို့ သရဏဂုံကို အထပ်ထပ် တည်ဆောက်စေတာ ဖြစ်ပါတယ်။

မေး။ ။သရဏဂုံတည်တဲ့လူဟာ ဘယ်လိုအကျိုး ခံစား ရမလဲ။

ဖြေ။ ။ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်တဲ့သူဟာ အပါယ် မလားဘူး။ သေရင် နတ်ပြည်ရောက်တယ်လို့ ဓမ္မ ပါဠိတော်မှာ ဘုရားဟောထားတယ်။

ရှင်မောဂ္ဂလာန် တာဝတိံသာနတ်ပြည်ရောက်လို့ သိကြား မင်းနဲ့ နတ်တွေ လာဖူးတဲ့အခါ ရှင်မောဂ္ဂလာန်က သရဏဂုံ တည်တဲ့လူဟာ သေရင် နတ်ပြည်ရောက်တယ်။ အဲဒီ နတ် သားဟာ အခြားနတ်သားတွေထက် အသက်၊ အရောင်အဝါ၊ အခြံအရံ၊ ချမ်းသာ၊ အစိုးရခြင်း၊ ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ၊ ဒီ ၁၀-ပါးတို့ဖြင့် အခြား နတ်သား တို့ထက် လွန်ကဲတယ်လို့ ရှင်မောဂ္ဂလာန်က ဟောတယ်။

မေး။ ။ဗုဒ္ဓဘာသာတွေ သေတဲ့အခါ ဘာကြောင့် သရဏဂုံ တင်ကြသလဲ။

ဖြေ။ ။အထက်ပုဒ်မှာ ဖြေတဲ့အတိုင်း ဗုဒ္ဓဘာသာ ဝင် တစ်ယောက်ရဲ့ လောကီသရဏဂုံဟာ သေတာနဲ့တစ်ပြိုင် နက် ပျက်စီးသွားတယ်။ အသိစိတ်မရှိတဲ့ အလောင်းကောင် ကြီးကတော့ သရဏဂုံ မရပါဘူး။ သေတဲ့လူဟာ ပြိတ္တာဖြစ်



နေလို့ တရားလာနာရင်တော့ ကုသိုလ်ရပါတယ်။ သာဓု ခေါ်နိုင်ပါတယ်။

မေး။ ။ကြောက်ရွံ့ထိတ်လန့်ဖွယ်ရာ တစ်ခုခုနဲ့ တွေ့ကြုံ တဲ့အခါ ဘုရားဂုဏ်တော်ကို အောက်မေ့ရွတ်ဖတ်သရဇ္ဈာယ် ရင် အကြောက်ပြေပါသလား။ ဘာကြောင့်ပါလဲ။

ဖြေ။ ။သံယုတ္တနိကာယ် ဓဇဂ္ဂသုတ်မှာ ဘုရားရှင်ရဲ့ အရဟံ သမ္မာ...စတဲ့ ဂုဏ်တော်တွေကို အောက်မေ့တဲ့ လူ တွေမှာ ကြောက်ခြင်း၊ ကြက်သီးထခြင်းတွေ ပျောက်ကင်း တယ်။ ဘာကြောင့် ဒီလိုပျောက်ကင်းရသလဲဆိုတော့ ဘုရား ရှင်ဟာ ရာဂကင်းတယ်။ ဒေါသ မောဟတွေ ကင်းပြီး ကြောက်ရွံ့ထိတ်လန့်မှု လုံးဝမရှိတော့လို့ ဖြစ်တယ်လို့ ဘုရား ရှင် ကိုယ်တော်တိုင် အကြောင်းပြချက်တွေနဲ့ ဖြေဆိုထားပါ တယ်။

မေး။ ။သရဏဂုံပြီးတော့ ဘုန်းကြီးက "သရဏဂမနံ ပရိပုဏ္ဏံ" ဆိုတာ ဘာအဓိပ္ပာယ်လဲ။

ဖြေ။ ။"သရဏဂမနံ ပရိပုဏ္ဏံ" ဆိုတဲ့ ပါဠိက မြန်မာ လိုတော့ သရဏဂုံဆောက်တည်မှု ပြီးဆုံးပြီလို့ ဆိုလိုတယ်။ လူတွေက "အာမ ဘန္တေ" ဆိုတာက မှန်ပါ ပြီးစီးကြောင်း ပါဘုရားလို့ ဝန်ခံတာဖြစ်တယ်။ ဘုန်းကြီးဆီမှာ သီလ မယူဘဲ ဘုရားမှာယူတာဆိုရင် အာမ ဘန္တေ ဆိုစရာမလိုဘူး။

မေး။ ။ပါဏာတိပါတာစတဲ့ ငါးပုဒ်ကို ဘာလို့ ခေါ် သလဲ။

ဖြေ။ ။ပါဏာတိပါတာစတဲ့ ငါးပုဒ်ကို ငါးပါးသီလ လို့ ခေါ်တယ်။ တစ်သက်ပတ်လုံး စောင့်ထိန်းရတဲ့ သီလ

ဖြစ်လို့ နိစ္စသီလလို့ ခေါ်တယ်။ သူတော်ကောင်းတို့ အမြဲ အလေးဂရုပြုရလို့ ဂရုဓမ္မသီလလို့လဲ ခေါ်တယ်။

မေး။ ။ပါဏာတိပါတာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိဆိုတဲ့ ပါဠိက ဘာဆိုလိုသလဲ။

ဖြေ။ ။အဲဒီပါဠိက သူတစ်ပါးအသက်ကို သတ်ခြင်းမှ ရှောင်ကြဉ်ကြောင်း ဖြစ်သော သိက္ခာပုဒ်ကို ငါဆောက်တည်ပါ၏လို့ ဆိုလိုတယ်။

မေး။ ။အဒိန္နာဒါနာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိဆိုတဲ့ ပါဠိက ဘာဆိုလိုသလဲ။

ဖြေ။ ။အဲဒီပါဠိက သူတစ်ပါးမပေးသော ဥစ္စာပစ္စည်းကို ခိုးယူခြင်းမှ ရှောင်ကြဉ်ကြောင်းဖြစ်သော သိက္ခာပုဒ်ကို ဆောက်တည်ပါ၏လို့ ဆိုလိုတယ်။

မေး။ ။ကာမေသုမိစ္ဆာစာရာစတဲ့ ပါဠိက ဘာဆိုလိုသလဲ။

ဖြေ။ ။သူတစ်ပါးသားမယားနှင့် ဖောက်ပြားကျူးလွန်ခြင်းမှ ရှောင်ကြဉ်ကြောင်း ဖြစ်သော သိက္ခာပုဒ်ကို ဆောက်တည်ပါ၏လို့ ဆိုလိုတယ်။

မေး။ ။မုသာဝါဒါ စတဲ့ပါဠိက ဘာကို ဆိုလိုသလဲ။

ဖြေ။ ။မဟုတ်မမှန်ပြောဆိုခြင်းမှ ရှောင်ကြဉ်ကြောင်း ဖြစ်သော သိက္ခာပုဒ်ကို ဆောက်တည်ပါ၏လို့ ဆိုလိုတယ်။

မေး။ ။သုရာမေရယစတဲ့ ပါဠိရဲ့ အဓိပ္ပာယ်က ဘာလဲ။

ဖြေ။ ။အရက်သေစာ သောက်စားမူးယစ်ခြင်းမှ ရှောင်ကြဉ်ကြောင်းဖြစ်သော သိက္ခာပုဒ်ကို ဆောက်တည်ပါ၏လို့ ဆိုလိုပါတယ်။



မေး။ ။ဝေရမဏီသိက္ခာပဒံ သမာဒိယာမိဆိုတဲ့ စကားရဲ့အဓိပ္ပာယ်ကို မြန်မာစကားစစ်စစ်နဲ့ ရှင်းပြပါ။

ဖြေ။ ။သူတစ်ပါးအသက် မသတ်ဘူး၊ သူတစ်ပါးဥစ္စာ မခိုးပါဘူးလို့ ဘုန်းကြီးဆီမှာ ဘုရားဆီမှာ ကတိပြုထားတယ်။ သတ်ရမယ့်သတ္တဝါ၊ ခိုးစရာပစ္စည်းတစ်ခုခုကို တွေ့တဲ့အခါ ဘုန်းကြီးရှေ့မှာ ဘုရားရှေ့မှာ ဆောက်တည်ထားတဲ့ကတိကို သတိရပြီး မသတ်ဘူး၊ မခိုးဘူး။ ဘာဖြစ်လို့ မသတ် မခိုးတာလဲ မေးရင် ဘုန်းကြီးရှေ့၊ ဘုရားရှေ့မှာ ကတိပြုဆောက်တည်ထားလို့ ဖြစ်တယ်လို့ ဖြေလိမ့်မယ်။ ဒါကြောင့် ပါဏာတိပါတာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိစတဲ့ သိက္ခာပုဒ်တွေဟာ ကျင့်ဝတ်တွေဟာ သတ်မှု ခိုးမှုတွေကို ရှောင်ကြဉ်ခြင်းရဲ့ အကြောင်းဖြစ်တယ်။ ဒါကြောင့် ရှောင်ကြဉ်ကြောင်းဖြစ်သော သိက္ခာပုဒ်ကို ဆောက်တည်ပါ၏လို့ ဆိုလိုတယ်။

မေး။ ။သူ့အသက်သတ်ရင်ဘာဖြစ်တတ်သလဲ၊ မသတ်ရင် ဘာအကျိုးရှိသလဲ။

ဖြေ။ ။သူ့အသက်သတ်ရင် အပြစ်၊ မသတ်ရင်အကျိုး ရှိပုံကို ရှေးဆရာတော်ကြီး ရေးထားတဲ့ လင်္ကာလေးနဲ့ ရေတွက်ပြမယ်။ လင်္ကာလေးကို အရကျက်မှတ်ထားလိုက်ပါ။

ပါဏာတိပါတ်၊ သူ့အသက်က၊ ချို့တဲ့အင်္ဂါ ၁။ မွဲပြာရုပ်သွင် ၂။ အားအင်ချို့ယွင်း ၃။ လျင်ခြင်းလည်းဝေး ၄။ ဘေးကိုကြောက်တတ် ၅။ အသတ်ခံရ ၆။ အနာများလျက် ၇။ ခြွေရံပျက်၍ ၈။ အသက်တိုလျ ၉။ ပြစ်များစွသည်၊ ရှောင်က အပြန် အကျိုးတည်း။

| သတ်သူ | ရှောင်သူ |
| --- | --- |
| ၁။ ကိုယ်လက်အင်္ဂါ ချွတ်ယွင်းခြင်း | ၁။ ကိုယ်လက်အင်္ဂါ ပြည့်စုံခြင်း၊ |
| ၂။ ရုပ်ဆင်းမလှခြင်း၊ | ၂။ ရုပ်ဆင်း လှပ စိုပြည်ခြင်း၊ |
| ၃။ ခွန်အားနည်းပါးခြင်း၊ | ၃။ ခွန်အား တောင့်တင်းခြင်း |
| ၄။ လေးကန်ထိုင်းထိုင်းခြင်း၊ | ၄။ ပေါ့ပါး လျင်မြန်ခြင်း၊ |
| ၅။ ကြောက်တတ် လန့်တတ်ခြင်း၊ | ၅။ ရဲရင့်သတ္တိရှိခြင်း၊ |
| ၆။ သူတစ်ပါးအသတ်ခံရခြင်း၊ | ၆။ သူတစ်ပါးအသတ် မခံရခြင်း၊ |
| ၇။ ရောဂါထူပြောခြင်း၊ | ၇။ ကျန်းမာ ရွှင်လန်းခြင်း၊ |
| ၈။ ခြွေရံနည်းပါးခြင်း၊ | ၈။ ခြွေရံပေါများခြင်း၊ |
| ၉။ အသက်တိုခြင်း၊ | ၉။ အသက်ရှည်ခြင်း၊ |

မေး။ ။ခိုးခြင်းအပြစ် ရှောင်ခြင်းအကျိုးများကို ဖော်ပြပါ။

ဖြေ။ ။အဒိန္နာဒါ ခိုးမိပါမူ၊ ဥစ္စာနည်းမဲ့ ဆင်းရဲတတ်ဘိ၊ လိုရှိမရ၊ ဘောဂပျက်စီး၊ ရေမီးသူခိုး၊ မွေခံဆိုးနှင့်၊ မင်းဆိုးဘေးပြား၊ ရန်မျိုးငါးကြောင့်၊ ပျက်ပြားဥစ္စာ၊ ဖြစ်များစွာသည်၊ ရှောင်ခါသော်ဖြစ် အကျိုးတည်း။



| ခိုးသူ | မခိုးသူ |
| --- | --- |
| ၁။ ဥစ္စာမဲ့တတ်ခြင်း၊ | ၁။ ဥစ္စာပေါများခြင်း၊ |
| ၂။ ဆင်းရဲတတ်ခြင်း၊ | ၂။ ချမ်းသာတတ်ခြင်း၊ |
| ၃။ လိုရာမရခြင်း၊ | ၃။ လိုရာကိုရတတ်ခြင်း၊ |
| ၄။ စီးပွားပျက်ခြင်း၊ | ၄။ စီးပွားတိုးတက်ခြင်း၊ |
| ၅။ ရန်သူမျိုးငါးပါးနှင့် ကြုံတတ်ခြင်း။ | ၅။ ရန်သူမျိုးငါးပါး ဘေးမှကင်းလွတ်ခြင်း။ |

မေး။ ။သူ့မယားသားမယား လွန်ကျူးသူ အပြစ်ရှောင်ကြဉ်သူ အကျိုးများကို ဖော်ပြပါ။

ဖြေ။ ။မိစ္ဆာစာရ၊ ကျူးလွန်ကလည်း၊ မုန်းကြသူများ၊ ရန်ပွားရှိ၊ ရှားပါးလာဘ်ညတ်၊ ချမ်းသာဆိတ်၏၊ ဣတ္ထိ ဖြစ်ကျက်၊ မျိုးယုတ်ခါခါ၊ မျက်နှာမလှ၊ အရှက်ရလျက်၊ [illegible]ကျကခြေ၊ ယွင်းတွေချို့သိမ်၊ စိုးရိမ်များစွာ၊ ချစ်သူ [illegible]သည်၊ ရှောင်ခါသော်မြန် အကျိုးတည်း။

| ကျူးလွန်သူ | ရှောင်ကြဉ်သူ |
| --- | --- |
| ၁။ မုန်းသူများ၏၊ | ၁။ ချစ်သူများ၏၊ |
| ၂။ ရန်သူများ၏၊ | ၂။ ရန်သူကင်းရှင်း၏၊ |
| ၃။ လာဘ်လာဘနည်း၏၊ | ၃။ လာဘ်လာဘ ပေါများ၏၊ |
| ၄။ ကိုယ်စိတ်ဆင်းရဲ၏၊ | ၄။ ကိုယ်စိတ်ချမ်းသာ၏၊ |
| ၅။ မိန်းမဖြစ်၏၊ | ၅။ ယောကျ်ားဖြစ်၏၊ |
| ၆။ ကျားမ မဟုတ် ပဏ္ဍုက်ဖြစ်၏။ | ၆။ ပဏ္ဍုက်အဖြစ်မှလွတ်၏။ |

| | |
|---|---|
| ၇။ အမျိုးယုတ်၏။ | ၇။ အမျိုးမြတ်၏။ |
| ၈။ အရက်တကွဲကြူး၏။ | ၈။ အရက်တကွဲမဖြစ်ရ |
| ၉။ အင်္ဂါချို့ယွင်း၏။ | ၉။ အင်္ဂါပြည့်စုံ၏။ |
| ၁၀။ စိုးရိမ်နေရ၏။ | ၁၀။ စိုးရိမ်မှုကင်း၏။ |
| ၁၁။ ချစ်သူနှင့်ကွဲတတ်၏။ | ၁၁။ ချစ်သူနှင့် ပေါင်းရ… |

မေး။ ။မုသားပြောသူ၊ ရှောင်သူတို့ မည်သို့ ထူး[illegible] မည်နည်း။

ဖြေ။ ။မုသားစကား၊ ပြောဆိုငြားမူ၊ စကားမ[illegible] သွားမညီတည်း၊ ပုပ်ညှီပါးစပ်၊ ခြောက်ကပ်ကိုယ်ရေ၊ [illegible] မနောက်၊ ပုံယွင်းဖောက်၏၊ မရောက်ဩဇာ၊ နှုတ်လျှာ[illegible] ထော်၊ လျှပ်ပေါ်လော်လီ၊ စိတ်မတည်သည်၊ ရှောင်[illegible] အပြန် အကျိုးတည်း။

| မုသားပြောသူ | မုသားရှောင်သူ |
|---|---|
| ၁။ စကားမပီ၊ ဆွံ့အ၏။ | ၁။ စကားပီသ ပြတ်သား… |
| ၂။ သွားများမညီညွတ်။ | ၂။ သွားများညီညာလှ… |
| ၃။ အာပုပ်စော်နံ၏။ | ၃။ အာခံတွင်းမွှေး၏။ |
| ၄။ အသားအရေ ခြောက်ကပ်၏။ | ၄။ အသားအရေ စိုပြည်… |
| ၅။ မျက်စိ၊ နား စသော ဣန္ဒြေများ နောက်ကျုကျု ရှိ၏။ | ၅။ ဣန္ဒြေများ ကြည်လ… ပြတ်သား၏။ |



| | |
|---|---|
| [illegible] ပုံပန်းမလှပမပြေပြစ်။ | ၆။ ပုံပန်းလှပပြေပြစ်သည်။ |
| [illegible] ဩဇာအာဏာမတည်။ | ၇။ ဩဇာအာဏာရှိ၏။ |
| [illegible] နှုတ်အာကြမ်း၏။ | ၈။ နှုတ်ချိုသာ၏။ |
| [illegible] စိတ်ဓာတ်မတည်။ လော်လီ ဖောက်ပြားတတ်၏။ | ၉။ စိတ်ဓာတ် တည်ကြည် နိုင်မာ၏။ |

မေး။ ။အရက် သောက်ခြင်း အပြစ်၊ မသောက်ခြင်း [illegible]ကျိုးများကို ဖော်ပြပါ။

ဖြေ။ ။သေရည်သောက်လင့်၊ သင့်မသင့်၌၊ ရေးခွင့် [illegible]သိ၊ ပျင်းရိ မေ့ရှု၊ ကျေးဇူးမဆပ်၊ ဟိရောတ္တပ်ကင်း၊ [illegible]င်းများထို၊ အကုသိုလ်ကို၊ မငြိုလွယ်စွာ၊ ပြုကျင့်ရာသည်၊ ရှောင်ခါအပြန် အကျိုးတည်း။

| အရက်သောက်သူ | အရက်ရှောင်သူ |
|---|---|
| ၁။ အရေးအခွင့် သင့် မသင့် မသိ။ | ၁။ အရေးအခွင့်ကို သိ၏။ |
| ၂။ ပျင်းရိတတ်၏။ | ၂။ မပျင်းရိတတ်။ |
| ၃။ မှုးရူးမေ့လျော့တတ်၏။ | ၃။ မမေ့ မလျော့ သတိကောင်း၏။ |
| ၄။ ကျေးဇူးမသိတတ်။ | ၄။ ကျေးဇူးသိတတ်၏။ |
| ၅။ အရက်အကြောက်နည်း၏။ | ၅။ အရှက် အကြောက် ရှိ၏။ |
| ၆။ မကောင်းမှုများ ပြုလွယ်၏။ | ၆။ မကောင်းမှုပြုခဲ၏။ |

မေး။ ။၅-ပါး၊ ၈-ပါး၊ ၁၀-ပါး သီလတွေ
ဘုရားမပွင့်တဲ့ သာသနာပမှာလဲ ရှိတယ်ဆိုတာ မှန်ပါသလား

ဖြေ။ ။မှန်ပါတယ်။ ၅-ပါး၊ ၈-ပါး၊ ၁၀-ပါး သီလတွေဟာ ဘုရားပွင့်ရာကာလမှာရော၊ ဘုရားမပွင့်တဲ့ အခါမှာရော ရှိတယ်။ ဘုရားမပွင့်တဲ့အခါ ပစ္စေကဗုဒ္ဓါ ကမ္မဝါဒီ ရဟန်း၊ ပုဏ္ဏား၊ စကြာဝတေးမင်းတွေဟာ ၅-ပါး၊ ၈-ပါး၊ ၁၀-ပါးသီလကိုပဲ ဆောက်တည်ပေးပါတယ်။ ရသေ့၊ ဗိုလ်တွေဟာလဲ ငါးပါးသီလကို ကျင့်ကြံဖို့ ဟောပါတယ်။ ဘုရားပွင့်တော်မူတဲ့အခါမှာ ဒီ ၅-ပါး၊ ၈-ပါး၊ ၁၀-ပါး သီလတွေဟာ ကိုယ်ချင်းစာတရား အပေါ်မှာ အခြေခံတာ တဲ့ ကျင့်ဝတ်ဖြစ်တဲ့အတွက် ဘုရားရှင်များကလဲ ဆက်သက် ဟောကြားခြင်း ဖြစ်ပါတယ်။ ဒါကြောင့် ၅-ပါးသီလကို ဘာသာရေး ကျင့်ဝတ်အနေနဲ့ မဟုတ်ဘဲ ကိုယ်ချင်းစာတရား အပေါ် အခြေခံတဲ့ ကမ္ဘာသုံး ကိုယ်ကျင့်တရားတွေ အဖြစ် လက်ခံကျင့်သုံးနေကြတာ ဖြစ်ပါတယ်။

မေး။ ။ငါးပါးသီလ ခံယူပြီးနောက် ဘုန်းကြီးက တိသရဏေန သဟ ပဉ္စသီလံ သာဓုကံ ကတွာ အပ္ပမာဒေန သမ္ပာဒေထလို့ ဆိုတာ ဘာအဓိပ္ပာယ်လဲ။

ဖြေ။ ။သရဏဂုံသုံးပါးနှင့်တကွ ငါးပါးသီလကို မမေ့ မလျော့ ကောင်းစွာ စောင့်ထိန်းကြလို့ တိုက်တွန်းတာ ဖြစ်တယ်။ အဲဒီအခါမှာ လူတွေက "အာမဘန္တေ—ဆရာတော် အမိန့်ရှိ မှာကြားတဲ့ အတိုင်း၊ ဂရုပြု စောင့်ထိန်းပါမည် ဘုရား" လို့ ကတိပြု လျှောက်ထားရတယ်။ ဘုရားမှာ သီလယူတဲ့အခါ စောင့်ထိန်းကြပါလို့ တိုက်တွန်းသူ မရှိလို့ အာမဘန္တေ ဆိုစရာမလိုဘူး။ ဗုဒ္ဓဘာသာဝင်အချို့ ဘုရား



မှာ သီလခံတဲ့အခါမှာလဲ အာမဘန္တေကို သုံးနေရာလို့ ထည့်ဆိုနေကြတယ်။ ထည့်ဆိုလို့ အပြစ်မရှိပေမယ့် ကိုယ်ဆိုတဲ့စကားကို ကိုယ်နားမလည်ရာ ရောက်တဲ့အတွက် ထည့်မဆိုဖို့ သတိပြုရမယ်။

မေး။ ။သီလကျိုးတယ်၊ ပေါက်တယ်၊ ပြောက်တယ်၊ ကျားတယ်ဆိုတာ ဘာလဲ။

ဖြေ။ ။အစ၊ အလယ်၊ အဆုံး သိက္ခာပုဒ်ပျက်တာကို သိက္ခာပုဒ်ကျိုးတယ်လို့ ခေါ်တယ်။ အလယ် သိက္ခာပုဒ် ပျက်တာကို သိက္ခာပုဒ် ပေါက်တယ်လို့ ခေါ်တယ်။ သိက္ခာပုဒ် စဉ်အတိုင်း၊ နှစ်ပါး၊ သုံးပါးပျက်တာကို သိက္ခာပုဒ် ပြောက်ထင်တယ်လို့ ခေါ်တယ်။ အကြား၊ အကြား သိက္ခာပုဒ်တွေ ပျက်တာကို ကျားတယ်လို့ ခေါ်တယ်။ ဒါကြောင့် ဘုန်းတော်ကြီးများက သာဓုကံ ကတွာ=မကျိုး၊ မပြောက်၊ မပေါက်၊ မကျားရအောင် ကောင်းစွာ ဂရုစိုက်၍ အပ္ပမာဒေန သမ္ပာဒေထ=မမေ့မလျော့ စောင့်ရှောက်ကြပါလေလို့ သတိပေး တိုက်တွန်းစကား မှာကြားခြင်း ဖြစ်တယ်။ သိက္ခာပုဒ်တွေကို အစ၊ အလယ်၊ အဆုံး ဘယ်နေရာကမှ မပျက်စီးစေနဲ့လို့ ဆိုလိုတယ်။

မေး။ ။သီလဆိုတာ ဘာလဲ။

ဖြေ။ ။သူ့အသက် သတ်ခြင်းစသည်မှ ရှောင်ကြဉ်လိုတဲ့ စိတ်ရဲ့သန္တာန်မှာဖြစ်တဲ့ ရှောင်မယ်ဆိုတဲ့ စေတနာဟာ သီလ ဖြစ်တယ်။ သူ့အသက်သတ်ခြင်း၊ စသည်မှ ရှောင်ကြဉ်တဲ့ စိတ်ရဲ့ ရှောင်ကြဉ်မှု ဝိရတီစေတသိက်ဟာ သီလဖြစ်တယ်။ မိမိသန္တာန်မှာ အကုသိုလ် ဒုစရိုက်တွေ မဖြစ်ရအောင် ပိတ်ဆို့ စောင့်စည်းမှုဟာ သီလဖြစ်တယ်။ သီလ ဆောက်တည်ထားတဲ့

သူဟာ သူဆောက်တည်ထားတဲ့ ၅-ပါး၊ ၈-ပါး၊ ၁၀-ပါး သိက္ခာပုဒ်တွေကို မလွန်ကျူးခြင်းဟာ သီလဖြစ်တယ်။

မေး။ ။ဘာကြောင့် သီလလို့ ခေါ်သလဲ။

ဖြေ။ ။ဩကာသအဖွင့်မှာ ပြခဲ့တဲ့ ကာယကံ ကျူးလွန်မှု သုံးပါးကို ကိုယ်ထိလက်ရောက် မကျူးလွန်မိအောင်၊ ဝစီကံ လွန်ကျူးမှုလေးပါးကို နှုတ်မှမြွက်ဟ မကျူးလွန်မိအောင် ကောင်းစွာ သိမ်းဆည်းသို့မှီး ထားတတ်သောကြောင့် လည်းကောင်း၊ သမာဓိ ပညာစတဲ့ ကုသိုလ်တရားတွေဟာ သီလတည်းဟူသော မူလအခြေခံပေါ်မှာ ရပ်တည်ဖြစ်သွားရတဲ့အတွက် သမာဓိပညာစတဲ့ ကုသိုလ်တရားတွေကို ဆောင်ပင့်ထားတတ်သောကြောင့် လည်းကောင်း သီလလို့ ခေါ်တယ်။

မေး။ ။သီလဟာ ဘယ်နှစ်မျိုးရှိသလဲ။

ဖြေ။ ။သီလတွေကို အမျိုးပေါင်းများစွာ ခွဲခြားပြထားတယ်။ ဒါပေမယ့် ဒီနေရာမှာတော့ ဗုဒ္ဓဘာသာ မြန်မာ အရပ်သားတွေနဲ့ ဆိုင်တဲ့ သီလအမျိုးအစားကိုပဲ ဖော်ပြမယ်။

လူအရပ်သား ဆောက်တည်တဲ့ သီလဟာ ၅-ပါးသီလ၊ ၈-ပါးသီလ၊ ၁၀-ပါးသီလဆိုပြီး ၃-မျိုးရှိတယ်။ ဒါပေမယ့် ၁၀-ပါး သီလက ရွှေငွေမကိုင်ရတဲ့အတွက် လူအရပ်သားတွေ ဆောက်တည်လေ့ မရှိကြဘူး။ ရှင်သာမဏေများအတွက် သီးခြားလိုပဲ ဖြစ်နေပြီ။ ၅-ပါး သီလကတော့ ဗုဒ္ဓဘာသာ အရပ်သားမှန်သမျှ အမြဲမပြတ် တစ်သက်ပတ်လုံး စောင့်ထိန်းတဲ့ သီလ ဖြစ်တယ်။ ၈-ပါး သီလကတော့



ဥပုသ်နေ့တွေမှာမှ ကျင့်သုံးနိုင်တဲ့ ပုဂ္ဂိုလ်တွေ ကျင့်သုံးကြတဲ့ သီလဖြစ်တယ်။ ဒါကြောင့် အရပ်သားတွေနဲ့ ဆိုင်တဲ့ ၅-ပါး သီလနဲ့ ၈-ပါးသီလဆိုင်ရာ သိမှတ်ဖွယ်ရာတွေကိုပဲ ဒီစာအုပ်မှာ ဖော်ပြသွားပါမယ်။

မေး။ ။ငါးပါး၊ ရှစ်ပါးသီလ ဆောက်တည်သူချင်း ကုသိုလ် အတူတူရကြပါသလား။

ဖြေ။ ။သီလစောင့်သူချင်း တူပေမယ့် ကုသိုလ်အတူတူ မရကြပါဘူး။ သီလဆောက်တည်သူရဲ့ စိတ်စေတနာအလျောက် အနိမ့်၊ အလတ်၊ အမြတ် ၃-မျိုး ကွာခြားတယ်။ ဘယ်သူဟာ သီလ အတော်မြဲတဲ့ လူပဲလို့ ဘေးလူတွေက အထင်ကြီးအောင် အချီးမွမ်းခံရအောင် စောင့်ထိန်းတဲ့ သီလဟာ အနိမ့်စား ဖြစ်တယ်။ လူ့ပြည် နတ်ပြည်မှာဖြစ်ပြီး စည်းစိမ်ဥစ္စာ ခံစားနိုင်ဖို့ ရည်ရွယ်ဆောက်တည်တဲ့ သီလဟာ အလတ်စား ဖြစ်တယ်။ သီလစောင့်သုံးခြင်းဟာ အရိယာ သူတော်ကောင်းတွေရဲ့ အကျင့်ဖြစ်သည်ဟုခံယူပြီး စောင့်ထိန်းတဲ့သီလဟာ အမြတ်စား ဖြစ်တယ်။ စောင့်ထိန်းရတာချင်း အတူတူ အလတ်စား၊ အမြတ်စား သီလမျိုးဖြစ်အောင် စောင့်ထိန်းဖို့ အထူးလိုအပ်တယ်။

မေး။ ။၁၀-ပါး သီလကို လူရော သာမဏေပါ စောင့်သုံးနိုင်တယ်ဆိုတော့ ၁၀-ပါး သီလ ဆောက်တည်ပုံခြင်းဟာ အတူတူပါပဲလား။

ဖြေ။ ။လူနဲ့ သာမဏေတို့ ၁၀-ပါး သီလ စောင့်ထိန်းပုံချင်း မတူပါ။ သာမဏေများမှာ သရဏဂုံ သုံးပါးကို ဆောက်တည်ပြီးတာနဲ့ ၁၀-ပါး သီလဟာ အလိုလို ဆောက်တည်ပြီးသား ဖြစ်ပါတယ်။ ရဟန်းခံတဲ့အခါ ဉတ္တိစတုတ္ထ

ကမ္ဘာ ါစာ အဆုံးမှာ နှစ်ရာ့နှစ်ဆယ် ရှနစ်သွယ်သော သိက္ခာ ပုဒ်တွေကို မဆောက်တည်ဘဲ စောင့်ထိန်းရသလို သာမဏေ တွေမှာ သရဏဂုံ ဆောက်တည်ပြီးတာနဲ့ ၁၀-ပါး သီလပါ အလိုလို ဆောက်တည်ပြီး ဖြစ်သွားပါတယ်။ သီလိုတာ သာမဏေမှန်ရင် ၁၀-ပါးသီလဟာ မစောင့်မနေရ နိစ္စသီလ ဖြစ်ပါတယ်။

လူတွေကတော့ သရဏဂုံ ဆောက်တည်ပြီးရုံနဲ့ ၁၀-ပါး သီလခံယူပြီး မဖြစ်ပါဘူး။ သီးခြားဆောက်တည်ယူမှ ရပါ တယ်။ ဒါကြောင့် ၁၀-ပါးသီလ ဆောက်တည်ခြင်းဟာ မတူပါဘူး။

မေး။ ။သီလ၏ အကျိုးတရားတွေဟာ ဘာတွေလဲ။

ဖြေ။ ။ငါးပါးသီလမှာ သီလတစ်ပါးကို စောင့်ထိန်း လို့ ရရှိတဲ့အကျိုး၊ မစောင့်ထိန်းလို့ လွန်ကျူးလို့ ရရှိမယ့် အပြစ်တွေကို ယှဉ်တွဲပြထားတယ်။ အချုပ်မှာက သီလအားလုံး ဆိုင်တဲ့အကျိုး ဖြစ်တယ်။

ထာနန္ဒာ၊ အပြစ်မရှိကောင်းသော သီလ အကျင့်တို့သည် စိတ်နှလုံးရဲ့ ကြည်သာ ရွှင်လန်းခြင်း အကျိုးရှိကုန်၏လို့ ဘုရားရှင် ဟောထားတယ်။

ပြီးတော့ သီတင်းသုံးတော် မိတ်သင်္ဂဟတို့ရဲ့ ကြည်ညိုခံရ သူ၊ မေတ္တာပို့ခံရသူ၊ အလေးပြုခံရသူ၊ အချီးမွမ်းခံရသူ ဖြစ် ချင်ရင် သီလကို ပြည့်ကျင့်စောင့်ထိန်း ရမယ်လို့ ဘုရားရှင် ဟောထားတယ်။

ကိဓလသာ အညစ်အကြေးကို ဂင်္ဂါယမုနာ မြစ်ရေနဲ့ ဆေးလို့ မစင်၊ သီလရေစင်နဲ့ ဆေးမှ စင်ကြယ်နိုင်တယ်။



ရှားစတဲ့ အပူမီးကို မိုးရေ မြစ်ရေနဲ့ ငြိမ်းသတ်လို့မရ။ သီလ ရေစင်နဲ့သာ ပက်ဖျန်းမှ ငြိမ်းအေးနိုင်တယ်။

သီလဟာ နတ်ပြည်တက်ရန် တစ်ခုတည်းသော စောင်း တန်း။ နိဗ္ဗာန်ဝင်ရန် တစ်ခုတည်းသော တံခါးပေါက် ဖြစ် တယ်။

သီလရှိသူမှာ အောက်ပါအကျိုး ၅-ပါးကို ရနိုင်တယ်။

(က) စည်းစိမ်ဥစ္စာ ကြွယ်ဝတယ်။
(ခ) ဂုဏ်သတင်း ကျော်စောတယ်။
(ဂ) ပရိသတ်ထဲ ရဲရဲရင့်ရင့် ကပ်နိုင်တယ်။
(ဃ) မတွေမဝေ သေရတယ်။
(င) သေပြီး နတ်ပြည်ရောက်တယ်။

စသည်ဖြင့် သီလရဲ့အကျိုး အမျိုးမျိုး ပြောကြားထား တယ်။

မေး။ ။သရဏဂုံနဲ့ ငါးပါးသီလ မြဲတဲ့လူကို သိကြား မင်းက ရှိခိုးတယ်ဆိုတာ မှန်ပါသလား။

ဖြေ။ ။မှန်ပါတယ်။ သံယုတ်ပါဠိတော် ဂဟဋ္ဌသုတ်မှာ

၁။ ကုသိုလ်ကောင်းမှုပြုခြင်း၊
၂။ သီလရှိခြင်း၊
၃။ ရတနာသုံးပါး ကိုးကွယ်ဆည်းကပ်ခြင်း၊
၄။ တရားနှင့်အညီ သားမယားကို လုပ်ကျွေးခြင်း—

ဆိုတဲ့ ကျင့်ဝတ်လေးပါးနဲ့ ပြည့်စုံတဲ့ ပုဂ္ဂိုလ်ကို သိကြား မင်းက ရှိခိုးပူဇော်တယ်လို့ ဟောထားပါတယ်။

မေး။ ။ဥပုသ်စေ့ဆိုတာ ဘာလဲ၊ ဥပုသ်စောင့်တယ် ဆိုတာ ဘာလဲ။

ဖြေ။ ။ဥပုသ်နေ့ဆိုတာက ပါဠိလို ဥပေါသထ ဖြစ်လာတဲ့ စကားဖြစ်တယ်။ မြန်မာလိုတော့ ကျင့်သုံးခြ လို့ အဓိပ္ပာယ်ရတယ်။ လူတွေဟာ ငါးပါးသီလကို နေ့ မပြတ် စောင့်ထိန်းကြရတယ်။ ငါးပါးသီလဟာ ကျ ကျင့်စဉ် သီလဖြစ်တယ်။ ရိုးရိုးငါးပါးသီလထက် ထူးခြာ အရိယာသံဃာ ပုထုဇဉ် ရဟန်းသာမဏေတွေ ရှောက် ဆောက်တည်ကျင့်ကြံတဲ့ သီလတွေထဲက မေထုန်မှုမပြု၊ ညစ မစား၊ ပွဲလမ်းမကြည့်၊ ပန်းနံ့သာမခြယ်၊ မြင့်ရာမြတ်ရာမှာ မနေခြင်းဆိုတဲ့ လေးပါးကို အရိယာသံဃာတော် သာမဏေ များလို အမြဲမဟုတ်တောင်မှ ဥပုသ်နေ့လို့ အများသတ်မှတ် စောင့်သုံးကြတဲ့ နေ့တစ်နေ့နဲ့ တစ်ညမှာတော့ ရှောင်ကြ မယ်၊ ဒီရှစ်ပါးသီလနဲ့ ပြည့်စုံအောင် ကျင့်ကြံမယ်ဆို အကျင့်သီလနဲ့ ပြည့်စုံပြီးနေတာကို ဥပုသ် စောင့်တယ်လို့ ခေါ်တယ်။ အများ အညီအညွတ် သတ်မှတ်ပြီး ရှစ်ပါးသီ ဥပုသ်စောင့်နေကြတဲ့ နေ့ကို ဥပုသ်နေ့လို့ ခေါ်တယ်။

မေး။ ။တစ်လမှာ ဥပုသ်နေ့ ဘယ်နှစ်ရက် ရှိသလဲ။

ဖြေ။ ။ဥပုသ်နေ့က ၃-မျိုး ရှိတယ်။

၁။ ရိုးရိုးဥပုသ်၊ ၂။ နိုးကြားတဲ့ဥပုသ်၊ ၃။ ပါဋိဟာ ရိယဥပုသ် ၃-မျိုး ဖြစ်တယ်။

ရိုးရိုးဥပုသ်က လဆန်း ၈-ရက်၊ ၁၄-ရက်နဲ့ လပြည့်၊ လဆုတ် ၈-ရက်၊ ၁၄-ရက်နဲ့ လကွယ်ဆိုပြီး ၆-ရက်ရှိတယ်။ အဲဒီ ၆-ရက်ထဲက ၁၄-ရက်နေ့ ဥပုသ်ကိုတော့ အချို့ဒေသ သက်ကြီးဝါကြီးတွေကပဲ စောင့်ပါတယ်။ အခုအခါမှာ ဒီလဆန်း၊ လဆုတ် ၁၄-ရက်ကို ဥပုသ်နေ့မှန်း သိတဲ့ လူ



တောင်မှ မရှိသလောက် ဖြစ်နေပြီ။ ဒါကြောင့် ရိုးရိုးဥပုသ်ဟာ စာအရ ၆-ရက်၊ လက်တွေ့ လက်ခံကျင့်သုံးတာက ၄-ရက် ဖြစ်တယ်။

နိုးကြားတဲ့ဥပုသ်ဆိုတာက ရိုးရိုးဥပုသ် ၆-ရက်မှာ ရှေ့တစ်ရက် အကြို နောက်တစ်ရက် အပို့နဲ့ နိုးနိုးကြားကြား ထက်ထက်ကြွကြွ စောင့်တဲ့ ဥပုသ်ဖြစ်တယ်။ ဒီဥပုသ်မျိုးကိုတော့ အခုအခါ စောင့်တဲ့လူ မရှိသလောက် ဖြစ်နေပါပြီ။

ပါဋိဟာရိယ ဥပုသ်ဆိုတာက ဥပုသ်နေ့အဖြစ် သတ်မှတ်ချက် မရှိဘူး၊ ၁၅-ရက်၊ တစ်လ၊ ၄၅-ရက် စသည် ကာလ ပိုင်းခြားပြီး ဒီရက်အတွင်း ဥပုသ်ဆက်တိုက် စောင့်မယ်လို့ ပိုင်းခြားပြီး စောင့်တာပဲ။ ဒီဥပုသ်မျိုးကိုတော့ အခုခေတ် အချို့ပုဂ္ဂိုလ်တွေ စောင့်ကြပါတယ်။ အချို့ ကမ္မဋ္ဌာန်းရိပ်သာတွေမှာ တရားဝင်တဲ့ နေ့ကစပြီး ထွက်တဲ့နေ့အထိ ၈-ပါးသီလ စောင့်ရတာဟာ ဒီပါဋိဟာရိယ ဥပုသ်မျိုးပါပဲ။

မေး။ ။ဥပုသ်နေ့မဟုတ်တဲ့ ဥပုသ်စောင့်လို့မရဘူးလား။ စောင့်ရင် အပြစ်ရှိပါသလား။

ဖြေ။ ။ဥပုသ်နေ့ မဟုတ်တဲ့ ဥပုသ်စောင့်လို့ဖြစ်ပါတယ်။ အပြစ် မရှိပါဘူး။ ကုသိုလ်ရပါတယ်။ အထက်မှာ ဥပုသ်နေ့တွေ ကန့်သတ်ပြထားတာက ထိုခေတ် ထိုအခါမှာ လူတွေ စောင့်သုံးလေ့ရှိတဲ့ ရက်တွေကို ကန့်သတ်ပြတာပါ။ လူတွေရဲ့ ကုသိုလ်ကောင်းမှုကို မှတ်တမ်းယူတဲ့ စတုမဟာရာဇ် နတ်မင်းကြီးများရဲ့ လျှောက်ထားချက်အရ လူတွေဟာ ၈-ရက်၊ ၁၄-ရက်၊ ၁၅-ရက်နဲ့ ပါဋိဟာရိယခေါ် နေ့ရက်တွေမှာ ဥပုသ်စောင့်ကြတယ်လို့ တာဝတိံသာနတ်တွေ ပြောလေ့ရှိကြောင်းကိုသာ ဘုရားရှင်က ဟောပြထားခြင်း ဖြစ်တယ်။

အခြားရက်တွေမှာ မစောင့်ရ၊ ဒီရက်တွေမှာမှ စောင့်ရမယ်လို့ ဘုရားဟောထားချက် မရှိဘူး။

သံဃာတော်တွေ ဥပုသ်နေ့မဟုတ်ရင် ဥပုသ်မပြုရ၊ ပြုလျှင် ဒုက္ကဋ်အာပတ် သင့်စေ (အပြစ် ဖြစ်စေလို့) ပညတ်ထားတယ်။ ဒါကြောင့် လူတွေလဲ ဥပုသ်နေ့မဟုတ်ဘဲ ဥပုသ်စောင့်ရင် အပြစ်ရှိတယ်လို့ တချို့ကျမ်းတွေမှာ ရေးထားတယ်။ ဒီလို ရေးထားတာဟာ "စေတနာတော်နည်း၌ မလိမ္မာသောကြောင့်သာ ဖြစ်သည်" ဟု တိပိဋကဓရ ဆရာတော် အရှင်ဝိစိတ္တသာရက မဟာဗုဒ္ဓဝင်မှာ ဆုံးဖြတ် ထား တယ်။ ဒါကြောင့် ဘယ်နေ့မဆို ဥပုသ်စောင့်လို့ ရပါတယ်။ ယခုအခါ ရုံးပိတ်တဲ့တနင်္ဂနွေနေ့မှာ ဥပုသ်စောင့်တာဟာ အပြစ်မရှိဘူး။ ဥပုသ်စောင့်ချင်ပေမယ့် တာဝန်နဲ့ ဝတ္တရား အသက်မွေးဝမ်းကျောင်းအတွက် ရုံးတက်နေတဲ့သူအဖို့ တနင်္ဂနွေနေ့မှာ ဥပုသ်စောင့်ကြတာဟာ ခေတ်နဲ့ညီတဲ့ ဥပုသ်နေ့တစ်နေ့ ဖြစ်တယ်လို့ ယူဆနိုင်ပါတယ်။

မေး။ ။ဥပုသ် ဘယ်နှစ်မျိုး ရှိသလဲ။

ဖြေ။ ။တိကအင်္ဂုတ္တိုရ်မှာ သီလယူပြီးနောက် ဆင်ခြင်နှလုံးသွင်းကွဲပြားပုံကို ကြည့်ပြီး —

(၁) ဂေါပါလဥပုသ်=နွားကျောင်းသားဥပုသ်။
(၂) နိဂဏ္ဌဥပုသ်=တက္ကတွန်းဥပုသ်။
(၃) အရိယာဥပုသ်=စင်ကြယ်သောဥပုသ်—

ဆိုပြီး ၃-မျိုးရှိတယ်လို့ ဟောထားတယ်။

နွားကျောင်းသား ဥပုသ်ဆိုတာက နွားကျောင်းသားတွေဟာ ဒီနေ့တော့ နွားတွေကို ဒီတောမှာကျောင်းပြီး ဒီချောင်းမှာ ရေတိုက်တယ်၊ နက်ဖြန်ကျရင်တော့ ဘယ်တောမှာ



ကျောင်းပြီး ဘယ်ချောင်းမှာ ရေတိုက်ကြမယ်လို့ စီစဉ်သလို ပဲလို ဥပုသ်သည်တွေဟာလဲ ဒီနေ့တော့ ဘာဟင်း၊ ဘာမုန့် စားပြီး နက်ဖြန်၊ သို့မဟုတ် နောက်ဥပုသ်မှာ ဘာဟင်း ကျွေးစားမယ်လို့ အစားအသောက်ကောင်းတွေ စားဖို့စဉ်းစားနေတဲ့ ဥပုသ်မျိုးကို နွားကျောင်းသားဥပုသ် (ဂေါပါလဥပုသ်)လို့ ခေါ်တယ်။

တက္ကတွန်းဥပုသ်ဆိုတာက တိတ္ထိတက္ကတွန်းတွေ စောင့်သုံးတဲ့ ဥပုသ်မျိုး ဖြစ်တယ်။ ဘယ်နှစ်မိုင် အတွင်းမှာ ရှိတဲ့ သတ္တဝါတွေကိုတော့ မသတ်ကောင်း၊ ဒီမိုင် သတ်မှတ်ချက် ပြင်ပမှာရှိတဲ့ သတ္တဝါကိုတော့ သတ်ကောင်းတယ်လို့ နှိမ်ချိုက်မှုပြုလို့ရအောင် ကြံဖန်စောင့်သုံးတဲ့ သီလမျိုး ဖြစ်တယ်။

အရိယာဥပုသ် စင်ကြယ်တဲ့ဥပုသ်ဆိုတာက ဘုရား ဂုဏ်တော်စသည်ကို အဖန်ဖန်နှလုံးသွင်းပြီး မိမိစိတ်မှာ ကိလေသာ အညစ်အကြေး စင်ကြယ်အောင် စောင့်သုံးတဲ့ ဥပုသ်မျိုး ဖြစ်တယ်။ ဒီဥပုသ်သုံးမျိုးထဲမှာ နွားကျောင်းသားဥပုသ်၊ တက္ကတွန်းဥပုသ်မျိုး မဖြစ်စေဘဲ အရိယာဥပုသ်မျိုး ဖြစ်အောင်စောင့်ဖို့ သတိပြုကြရမယ်။

မေး။ ။အရိယာဥပုသ်ဟာ ဘယ်နှစ်မျိုး ရှိသလဲ။

ဖြေ။ ။အရိယာဥပုသ်ဟာ ၆-မျိုး ကွဲပြားတယ်။

(၁) ရှစ်ပါးသီလ ခံယူပြီး ဘုရားရှင်ရဲ့ အရဟံစတဲ့ ဂုဏ်တော်တွေကို ဆင်ခြင်အောက်မေ့နေတဲ့ ဥပုသ်ကို ဗြဟ္မဥပုသ်လို့ ခေါ်တယ်။

(၂) ရှစ်ပါးသီလခံပြီး တရားတော်ရဲ့ သွာက္ခာတ ဂုဏ်တော်တွေကို အဖန်ဖန် နှလုံးသွင်းနေ ဥပုသ်ကို ဓမ္မဥပုသ်လို့ ခေါ်တယ်။

(၃) သံဃာတော်ရဲ့ သုပ္ပဋိပန္နစတဲ့ ဂုဏ်တော်တွေ အောက်မေ့ဆင်ခြင်နေတဲ့ ဥပုသ်ကို သံဃ ဥပု လို့ ခေါ်တယ်။

(၄) ရှစ်ပါးသီလခံယူပြီး သီလရဲ့ ဂုဏ်ကျေးဇူးကို အဖ ဖန် နှလုံးသွင်းနေတဲ့ ဥပုသ်ကို သီလဥပုသ်လို့ ခေါ်တယ်။

(၅) နတ်တွေ ဖြစ်ရှာတွေဟာ သဒ္ဓါ၊ သီလ၊ သုတ၊ စာဂ ပညာဆိုတဲ့ ဂုဏ်ကျေးဇူးတွေ ရှိကြလို့ နတ်ပြည် ဖြစ်ရှာပြည်မှာ ဖြစ်ကြရသည်။ ငါ့မှာလဲ ဒီစင်ကြယ် မွန်မြတ်တဲ့ သီလစတဲ့ ဂုဏ်ကျေးဇူးတွေ ရှိပေသည် ဟု နတ်ဖြစ်ရှာတို့ကို စံထားကာ စောင့်သုံး ဥပုသ်ကို ဒေဝတာဥပုသ်လို့ခေါ်တယ်။

(၆) ရှစ်ပါးသီလကိုခံယူကာ ရဟန္တာ ပုဂ္ဂိုလ်တွေဟာ သူ့အသက်ကို လုံးဝမသတ်တဲ့ အမြဲ ကြင်နာ သနားတော်မူကြသလို ငါလဲ သတ်ဖြတ် ညှဉ်းဆဲ ခြင်းမရှိဘဲ သနားကြင်နာရပေပြီ။ ဤ ကျင့်ဝတ် ဖြင့် ရဟန္တာတွေကို အတုလိုက်ကာ ကျင့်သုံးရပေ ပြီ။ ဤသို့စသည်ဖြင့် ဥပုသ်အင်္ဂါ ၈-ပါးလုံးကို ဆင်ခြင်အောက်မေ့ စောင့်သုံးတဲ့သီလကို အင်္ဂါ ပေါ်သထ အင်္ဂါ ၈-ပါးကို ဆင်ခြင်တဲ့ ဥပုသ်လို့ ခေါ်တယ်။



ရှစ်ပါးသီလခံယူပြီး ဥပုသ်စောင့်တဲ့လူဟာ အထက်မှာ တဲ့ ဥပုသ် ၆-မျိုးထဲက တစ်မျိုး မျိုးဖြစ်အောင် စောင့်သုံး တယ်။

မေး။ ။စာကလေးဥပုသ်၊ ဇူဇကာဥပုသ်၊ ကာလနဂါး ဥပုသ်ဆိုတာက ဘာလဲ။

ဖြေ။ ။ဒီဥပုသ်သုံးမျိုးက ကျမ်းဂန်မှာလာတဲ့ ဥပုသ် တ်ဘူး။ သီလယူပြီး လူတွေစုကာ ကြွက်စီကြွက်စီ စကား ပြောနေတာကို စာကလေး ဥပုသ်၊ အစားကောင်း သောက်ကောင်းတွေ ဗိုက်ကားအောင်စားတာကို ဇူဇကာ ဥပုသ်၊ သီလယူပြီး တရားနှလုံးမသွင်း ဂုဏ်တော်တွေ မပွားဘဲ အိပ်နေတာကို ကာလနဂါးဥပုသ်လို့ နာမည်ပေးထားတာ ပါ၊ ဒီဥပုသ်မျိုး မဖြစ်ကြစေနဲ့လို့ ဆရာတော်တွေက သတိ ပေးတဲ့ ဥပုသ်တွေ ဖြစ်ပါတယ်။

မေး။ ။ဥပုသ်နေ့မှာ ၈-ပါးသီလ ဘယ်လိုဆောက်တည် ရမလဲ။

ဖြေ။ ။ငါးပါးသီလ ဆောက်တည်ပုံ အတိုင်းပါပဲ၊ အဟံဘန္တေ တိသရဏေနသဟ အဋ္ဌင်္ဂသမန္နာဂတံ ဥပေါသထ သီလံ ဓမ္မံယာစာမိ အနုဂ္ဂဟံ ကတွာ သီလံဒေထ မေဘန္တေ။

(အရှင်ဘုရား၊ တပည့်တော် သရဏဂုံသုံးပါးနှင့်တကွ အင်္ဂါ ၈-ပါးရှိသော ဥပုသ်သီလကို တောင်းပန်ပါသည်။ တပည့်တော်ကို ချီးမြှောက်သောအားဖြင့် သီလပေးတော်မူ ပါ ဘုရား။)

....o....

## (၈) ပါးသီလ

၁။ ပါဏာတိပါတာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၂။ အဒိန္နာဒါနာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၃။ အဗြဟ္မစရိယာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၄။ မုသာဝါဒါ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၅။ သုရာမေရယ မဇ္ဇပမာဒဋ္ဌာနာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။

၆။ ဝိကာလဘောဇနာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၇။ နစ္စ ဂီတ ဝါဒိတ ဝိသူက ဒဿန မာလာဂန္ဓ ဝိလေပန ဓာရဏ မဏ္ဍန ဝိဘူသနဋ္ဌာနာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၈။ ဥစ္စာသယန မဟာသယနာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။

မေး။ ။ငါးပါးသီလနဲ့ မတူတဲ့ သိက္ခာပုဒ် ၄-ချက် အဓိပ္ပာယ် ရှင်းပြပါ။

ဖြေ။ ။အဗြဟ္မစရိယာ မမြတ်သော မေထုန်အကျင့်ကို လုံးဝ မပြုလုပ်ရဘူး။ ကာမေသုမိစ္ဆာစာရဆိုတာက ကိုယ့်ဇနီး၊ ကိုယ့်ရဲ့ ခင်ပွန်းမဟုတ်တဲ့ သူနဲ့ မေထုန်မှုမပြုရဘူး။ အဗြဟ္မစရိယ သိက္ခာပုဒ်ကတော့ ကိုယ့်ဇနီး၊ ကိုယ့်ခင်ပွန်းနဲ့ ရော၊ သူတစ်ပါး သမီး၊ ဇနီးခင်ပွန်းနဲ့ရော မေထုန်မှုမပြုရဘူး။



ဝိကာလဘောဇနာဆိုတာက နေ့ ၁၂-နာရီက ကျော်ရင် …ာ်ရည် တိလယ်ရည် ကြံရည် ထန်းလျက် အကြား ကြံသကာ …လို့လို့ အခြား၊ အစားအသောက် ဘာကိုမှ မစားမသောက် …ဘူး။

နစ္စ ဂီတ ဝါဒိတ-ဆိုတာက မကရ၊ မဆိုရ၊ မတီးမှုတ်ရ၊ …တာ၊ ဆိုတာ၊ တီးတာကို မကြည့်ရ၊ နားမထောင်ရဘူး။

ဥစ္စာသယန မဟာသယန ဆိုတာက တစ်တောင့်ထွာထက် …တက်မြင့်တဲ့ ခုတင်ပေါ်၊ မွေ့ရာပေါ်မှာ မနေရ၊ မအိပ် …ရဘူး။

မေး။ ။၉-ပါးသီလ ဘယ်လိုဆောက်တည်ရမလဲ။

ဖြေ။ ။၉-ပါးသီလကို တသီးတခြား တစ်မျိုးတမည် …ာက်တည်စရာ မလိုပါဘူး၊ ၈-ပါးသီလ ဆောက်တည်ပြီး …တ္တာပို့အဖွင့်မှာ ပြထားတဲ့အတိုင်း အရပ်ရှစ်မျက်နှာမှာ …မျက်နှာတစ်ခုခုမှာရှိတဲ့ သတ္တဝါတွေကို ဘေးရန် ကင်း …၊ ချမ်းသာကြပါစေလို့ မေတ္တာပွားများနေရင် ၉-ပါး …ဖြစ်ပါတယ်။

…ဒီနေရာမှာ တိပိဋကဓရ အရှင်ဝိစိတ္တသာရ ဆရာတော်ရဲ့ …ုံးအဖြတ်ကို သတိပြုသင့်တယ်။

မေတ္တာဟူသည် ဘာဝနာ ဖြစ်၏။ သီလကိုသာ ဆောက်တည်ဖွယ် ရှိသည်။ ဘာဝနာဟူသည် မပြတ် ပွားများရသော တရားမျိုးဖြစ်၏။ သို့ဖြစ်၍ နဝင် ဥပုသ်ကို ကျင့်သုံးလိုသော ပုဂ္ဂိုလ်သည် မေတ္တာ အတွက် သိက္ခာပုဒ် တစ်ခုပြုလုပ် ဆောက်တည်ရန် မလို၊ ရိုးရိုး ၈-ပါးသီလကို ခံယူပြီးနောက် မေတ္တာ

တရားကို စွမ်းနိုင်သလောက် ပွားများ အားထု
နေလျှင် အင်္ဂါ ၉-ပါးရှိသော နဝင်္ဂဥပုသ်ကို ကျ
သုံးသည်မည်ကြောင်း ကောင်းစွာ မှတ်ယူအပ်
(မဟာဗုဒ္ဓဝင် အနုဒီပနီ ပတွဲ-ပပိုင်း)တဲ့။

အထက်ပါဆရာတော်၏ အဆုံးအဖြတ်အရ နဝင်္ဂ သမ္မ
ဂတ် ဥပေါသထသီလံဆိုပြီး သီးခြား ၉-ပါး သီလ ဆော
တည်ရန် မလိုဟု မှတ်ပါ။ ၉-ပါး သီလ မဟုတ်ဘဲ ကိုးပ
ဥပုသ်သာ ဖြစ်တယ်လို့ မှတ်မ ါ။

မေး။ ။ဥပုသ်ဟာ ကျောင်းမှာ ဥပုသ်ဇရပ် ဓမ္မာရုံမှ
စောင့်တာ ကောင်းသလား၊ အိမ်မှာ စောင့်တာ ကော
သလား။

ဖြေ။ ။ဥပုသ် စောင့်တယ်ဆိုတာ အထက် အရိယာ
သီလ ၆-မျိုးမှာ ပြခဲ့တဲ့အတိုင်း သီလ ဆောက်တည်ပြီး
အရိယာ သီလတစ်မျိုးမျိုး၊ သို့မဟုတ် ၆-မျိုးလုံး ဖြစ်အော
ပွားများ၊ နှလုံးသွင်းနေရမယ်၊ အဲဒီပွားများ နှလုံးသွင်းလို့ ရတ
ကောင်းတဲ့နေရာဟာ ဥပုသ်နေ့အတွက် နေလို့အကောင်းဆုံးပ
အိမ်မှာ ကလေး အလုပ်သမားတွေ များပြီး ဗာဟီရကိစ္စတွေ
ရှုပ်လို့ သမာဓိမရရင် ကျောင်းမှာ၊ ဓမ္မာရုံမှာ သွားစော
ရတဲ့အတွက် ရဟန်းတော်ကို ဖူးမြော်ရတယ်၊ စုပေါင်းဒါ
ပြုရတယ်၊ တရားတော် နာရတယ်။ ဓမ္မမိတ်ဆွေချင်း တရာ
ဆွေးနွေးရတယ်။

ဒါပေမယ့် အချို့ ဓမ္မာရုံတွေ ကျောင်းတွေမှာက သီလယူ
ပြီး တရားနာပြီးရင် အရိယာဥပုသ်မျိုး ဖြစ်အောင်တော့
မပွားများဘဲ သားအကြောင်း၊ သမီးအကြောင်း၊ စီးပွာ



ရေးအကြောင်း၊ နိုင်ငံရေးအကြောင်း စတဲ့ လောဘ၊ ဒေါသ
ဖြစ်စရာတွေကို စုပေါင်း ပြောဆိုနေကြတယ် ဆိုရင်တော့
ကျောင်းဥပုသ် ဇရပ်၊ ဓမ္မာရုံမှာ နေကုန်အောင် မနေဘဲ
ကိုယ့်အိမ်ကိုယ်ပြန်ပြီး အရိယာ သီလဖြစ်အောင် ပွားများ
နေရပါမယ်၊ တရားစာပေ ကျမ်းဂန်တွေကို ဖတ်ရှုနေရပ
မယ်။

ကိုယ့်အိမ်ထဲမှာလဲ တိတ်ဆိတ်ငြိမ်သက်နေရင်တော့ ရှုပ်
နေတဲ့ ဓမ္မာရုံမှာထက် အိမ်မှာစောင့်တာကမှ ပိုကောင်းပ
တယ်၊ စကားမပြောချင်ဘဲ လောကဝတ်အရ စကားပြော
ရတာမျိုးလဲ မရှိတော့ဘူးပေါ့။

မေး။ ။ဥပုသ်စောင့်တဲ့အခါ ငှက်ပျောသီး၊ မုန့်စတဲ့
ပစ္စည်းဝတ္ထုတွေကို ဘာဖြစ်လို့ လှူရသလဲ။

ဖြေ။ ။မုန့်၊ သစ်သီးတွေ လှူတာကတော့ ဥပုသ်စောင့်
တာနဲ့ မဆိုင်ပါဘူး၊ ဒါန၊ သီလ၊ ဘာဝနာဆိုတဲ့ ဘာသာ
ရေးအခြေခံ လုပ်ငန်းကြီး သုံးခုရှိတဲ့အထဲမှာ သီလဆောက်
တည်ပြီး မေတ္တာဘာဝနာ အနုဿတိ ဘာဝနာတွေကို ပွား
များခွင့်ရပြီးတာကြောင့် ဒီလို သီလဘာဝနာ ကုသိုလ်ပြုတဲ့
နေ့မှာ ဒါနလဲ ပြုသင့်တယ်ဆိုပြီး သစ်သီး မုန့် စသည် လှူဒါန်း
တာပဲ။

ဘုန်းကြီးကျောင်းမှာ သီလသွားယူမှာ ဖြစ်တော့ ဗုဒ္ဓ
ဘာသာတို့ ထုံးတမ်းစဉ်လာအရ ကျောင်းကို သွားတဲ့အခါ
လက်ဗလာ အရောက်
လှူဖွယ် ပစ္စည်းတစ်ခုခုပါမှ သွားတဲ့ အလေ့အထ အရ
ဖြစ်တယ်။

မေး။ ။လူတွေစောင့်သုံးရမယ့် ဂဟဋ္ဌသီလထဲမှာ … ပါး သီလ ၁၀ ပါ လျက် အခုခေတ်လူတွေ ဘာဖြစ်လို့ မ… ကြသလဲ။

ဖြေ။ ။ဝိသုဒ္ဓိမဂ် အဋ္ဌကထာမှာ ရိုးရိုးလူတွေ … စောင့်တဲ့ သီလအနေနဲ့ ငါးပါးသီလ ၊ စွမ်းနိုင်ရင် ၁၀… သီလ ဥပုသ်နေ့မှာ ဥပုသ်သီလကို စောင့်သုံးရမယ်လို့ … တယ်။ အဲဒီမှာ စွမ်းနိုင်ရင် ၁၀-ပါးသီလကိုလဲ အမြဲ… ရမယ်လို့ အဓိပ္ပာယ်ကောက်ယူ မှားကြပြီး ၁၀-ပါးသီ… အမြဲ မစောင့်နိုင်လို့ အခုခေတ် ၁၀-ပါးသီလ မစော… တာဖြစ်တယ်။

၁၀-ပါးသီလကို အမြဲမစောင့်နိုင်ကြတဲ့ အကြောင်း… မှာ နောက်ဆုံးသိက္ခာပုဒ်အရ ရွှေ၊ ငွေကို မကိုင် မခံရ… ကိုယ့်အိမ်မှာ သိမ်းထားတာ ရှိနေရင်တောင် ၁၀-ပါးသီ… စောင့်လို့ မရဘူးလို့ အယူအဆ လွဲမှားကြတဲ့ အတွ… ၁၀-ပါးသီလကို အမြဲမစောင့်နိုင်ကြတာ ဖြစ်တယ်။

၁၀-ပါးသီလဟာ အမြဲစောင့်ရတဲ့ နိစ္စသီလ မဟုတ်ဘူး။ တတ်နိုင်သလောက် ၁-ရက်၊ ၂-ရက်၊ ၃-ရက်လဲ စောင့်လို့ ရတယ်။ ဒီလို ရံခါ တတ်နိုင်သလောက် စောင့်တဲ့ သီလ… နိယမသီလလို့ ခေါ်တဲ့အကြောင်း၊ [illegible] အဋ္ဌကထာ… မှာ ဖွင့်ပြထားတယ်။ ပြီးတော့ ၁၀-ပါးသီလ စောင့်သူဟာ အဲဒီစောင့်တဲ့နေ့မှာ ရွှေ၊ ငွေကို မကိုင် မခံ မသာယာမဝယ်… ရင် ပြီးတာပဲ။ အိမ်က ရွှေ၊ ငွေတွေကို လုံးဝစွန့်ပစ်ဖို့ မလို… တဲ့အကြောင်း ယုတ္တိအကိုးအကားတွေနဲ့ တိပိဋကဓရ ဆရာ… တော် ဦးဝိစိတ္တသာရက မဟာဗုဒ္ဓဝင် ပထမတွဲ အနုဒီပနီမှာ

…ဆုံးဖြစ်ထားတယ်။ ဒါကြောင့် ၁၀-ပါးသီလဟာ … …တ်ဘဲ ရံခါလဲ စောင့်လို့ရတယ်။ အိမ်က ရွှေ၊ ငွေ …ကို မစွန့်ဘဲလဲ စောင့်လို့ရတယ်လို့ မှတ်ပါ။

မေး။ ။လူတွေရဲ့ စာရိတ္တသီလနဲ့ ဝါရိတ္တသီလကို ခွဲ… …ပါ။

ဖြေ။ ။ဝါရိတ္တဆိုတာက တားမြစ်ခြင်းလို့ ဆိုလို …တယ်။ သူ့အသက် သတ်ခြင်းစတဲ့ အကျင့်ငါးပါးကို [illegible] …ရှောင်ကြဉ်ရမယ်လို့ တားမြစ်ထားတဲ့ အတွက် ငါးပါး …သီလဟာ ဝါရိတ္တသီလဖြစ်တယ်။ မင်္ဂလသုတ် ဝိနယဝါစ …ကို …သိကွဲတော့ မင်္ဂလာအဖွင့် အဋ္ဌကထာမှာ အကုသိုလ် ကမ္မ …ပထ…တာရှား ၁၀-ပါးမှ ရှောင်ကြဉ်တာဟာ လူ့ဝိနည်း ဖြစ် …တယ်လို့ ဖွင့်ထားတော့ ကာယကံ ၃-ပါး၊ ဝစီကံ ၄-ပါး၊ …မနောကံ ၃-ပါးဖြစ်တဲ့ ဒုစရိုက် ၁၀-ပါးက ရှောင်ကြဉ်မှု …ကိုလဲ ဝါရိတ္တသီလလို့ မှတ်နိုင်တယ်။ တားမြစ်တားတဲ့သီလ …ကို ကျူးလွန်ရင် အပါယ်လေးပါးကို ကျရောက်တတ်တယ်။

စာရိတ္တဆိုတာက ကျင့်ကြံ အားထုတ်ခြင်းလို့ ဆိုလို တယ်။ မကျင့်ရင် အပြစ်မရှိ၊ ကျင့်ရင်တော့ အကျိုးရှိရတဲ့ သီလမျိုး ဖြစ်တယ်၊ ဒါကြောင့် ၈-ပါးသီလထဲမှာ ပါတဲ့ မေထုန်ရှောင်ခြင်း၊ ညစာရှောင်ခြင်း၊ ပွဲလမ်းသဘင်၊ ပန်း နံ့သာရှောင်ခြင်း၊ မြင့်မြတ်တဲ့ နေရာရှောင်ခြင်း၊ ၄-ပါး ဟာ စာရိတ္တသီလ ဖြစ်သင့်တယ်လို့ တိပိဋကဓရ ဆရာတော် အရှင်ဝိစိတ္တသာရက မဟာဗုဒ္ဓဝင်မှာ ပြဆိုထားတယ်။ သက်ကြီးရွယ်ရင့် ပုဂ္ဂိုလ်တွေကို ရိုသေမှု စသည်ဟာလဲ စာရိတ္တသီလ ဖြစ်သင့်တယ် လို့ ဆရာတော်က ပြထားတယ်။ သိင်္ဂါ သိင်္ဂါလောဝါဒသုတ်ဟာ လူ့ဝိနည်းဖြစ်တယ်လို့

ဝေါဒသုတ် အဋ္ဌကထာမှာ ပြထားတယ်။ အဲဒီ... ဘုရားရှင်ဟောထားတဲ့ မိတ်နဲ့ သားသမီး၊ ဆရာနဲ့ ... လင်နဲ့မယား၊ အရှင်နဲ့ကျွန် ကျင့်ဝတ်တွေဟာလဲ ... သိသ လူ့ကျင့်ဝတ်တွေလို့ ယူဆသင့်ပါတယ်။

မေး။ ။သိင်္ဂါလောဝါဒသုတ်မှာ ဘုရားရှင် ဟော... တဲ့ လူ့ကျင့်ဝတ်တွေက ဘာတွေလဲ။

ဖြေ။ ။သိင်္ဂါလောဝါဒ သုတ်မှာ ဘုရားရှင်က ... ဘာသာနဲ့ ဟောခဲ့တဲ့ ကျင့်ဝတ်တွေကို သက်ဇာ ဆရာ... ဘုရားကြီးက မှတ်သားလွယ်ကူအောင် အဓိပ္ပာယ် ပေါ... တဲ့ လင်္ကာသွားလေးနဲ့ ရေးပြခဲ့တယ်။ မြန်မာဗုဒ္ဓဘာသာ... တိုင်း ရှိကျင့်သုံးကြတဲ့ မလဲရထိုက် ကျင့်လဲကျင့်... တကယ်ကျင့်ရင် တကယ်လဲ အခုဘဝ နောက်ဘဝအတွက်... အကျိုးရှိတဲ့အတွက် ရအောင်ကျင့်ပါ၊ လက်တွေ့ ကျင့်သော... ကြပါ။

ဥပါသကာ ဥပါသိကာများအဖို့ သိင်္ဂါလောဝါဒသုတ်လာ...

လူတို့ကျင့်ဝတ်

တစ်လောကလုံး၊ ညွှတ်ရုံးဦးချ၊
နှိုင်းမမှသား၊ ဘုရားရွှေစက်၊
ရောင်ပြိုးပြက်ကို၊ ဦးထက်တင်ထား၊
မိုးညွှတ်တွားရှိ၊ သားနှင့်အမိ၊
တပည့်စသည်၊ ပြုရာအံ့ဝတ်၊
မြတ်စွာပါယ်ရွှာ၊ လားမည့်တာကြောင့်၊



...တ်ပါဒေယျ၊ ကျမ်းဂွိမြသည်၊
...လောကကျင့်ရာ၊ အကျဉ်းမှာပိမ့်၊
...တ်ရွာဖို့လုံးလုံး၊ ကျက်စေသော်။

သားသမီးကျင့်ဝတ် ၅-ပါး

ကျွေးမွေးမပျက်၊ ဆောင်ရွက်စီမံ၊
မွေခံထိုက်စေ၊ လူမျိုးဝေရှာ၊
စောင့်လေမျိုးနွယ်၊ ဝတ်ငါးသွယ်၊
ကျင့်ဖွယ် သားတို့တာ။

မိဘကျင့်ဝတ် ၅-ပါး

မကောင်းမြစ်တား၊ ကောင်းရာညွှန်လတ်၊
အတတ်သင်စေ၊ ပေးဝေနှီးရင်း၊
ထိမ်းမြားခြင်းလျှင်၊ ဝတ်ငါးအင်၊
ဖခင် မယ်တို့တာ။

တပည့်ကျင့်ဝတ် ၅-ပါး

ညီညာထကြွ၊ ဆုံးမနာယူ၊
လာမှုကြိုဆီး၊ ထံနီးလုပ်ကျွေး၊
သင်တွေးအံ့ရွှတ်၊ တပည့်ဝတ်၊
မချွတ် ငါးခုသာ။

## ဆရာကျင့်ဝတ် ၅-ပါး

အတတ်လည်းသင်၊ ပဲ့ပြင်ဆုံးမ၊
သိပ္ပမချန်၊ ဘေးရန်ဆီးကာ၊
သင့်ရာအပ်ပို့၊ ဆရာတို့၊
ကျင့်ဖို့ ဝတ်ငါးဖြာ။

## လင်ကျင့်ဝတ် ၅-ပါး

မထီမဲ့မြင်း၊ အပ်နှင်းဥစ္စာ၊
မိစ္ဆာမမှား၊ ဝတ်စားဆင်ယင်၊
မြတ်နိုးကြင်၊ ငါးအင် လင်ကျင့်ရာ။

## မယားကျင့်ဝတ် ၅-ပါး

အိမ်တွင်းမှုလုပ်၊ သိမ်းထုပ်သေချာ၊
မိစ္ဆာကြဉ်ရှောင်၊ လျော်အောင်ဖြန့်ချိ၊
ပျင်းရိမမှု၊ ဝတ်ငါးဆူ၊
အိမ်သူ ကျင့်အပ်စွာ။

## မိတ်ဆွေကျင့်ဝတ် ၅-ပါး

ပေးကမ်းချီးမြှင့်၊ ကိုယ်နှင့်ယှဉ်ထား၊
စီးပွားဆောင်ရွက်၊ နှုတ်မြွက်ချိုသာ၊
သစ္စာမှန်စေ၊ ဝတ်ငါးတွေ၊
ကျင့်လေ မိတ်သဟာ။



## သခင်ကျင့်ဝတ် ၅-ပါး

ဝတ္ထာကျွေးမွေး၊ ပြုရေးစီရင်၊
နာလျှင်ကုစေ၊ ငွေဝေရသာ၊
အခါကိုလွှတ်၊ အရှင့်ဝတ်၊
မလွတ် ငါးခုသာ။

## ကျွန်ကျင့်ဝတ် ၅-ပါး

အိပ်သော်နောက်ကျ၊ ထသော်ကားရှေ့၊
ပေးမှယူအပ်၊ စေ့စပ်ဆောင်ရွက်၊
ကျေးဇူးစွက်၊ ငါးချက် ကျွန်ကျင့်ရာ။

## ဒါယကာကျင့်ဝတ် ၅-ပါး

မေတ္တာစိတ်သက်၊ ဆောင်ရွက်ချစ်ခင်၊
ခင်မင်နှုတ်ချို၊ လိုလျှင်ဖိတ်ထား၊
တတ်အားလှူစေ၊ ဝတ်ငါးတွေ၊
ပြုလေ ဒါယကာ။

## ရဟန်းကျင့်ဝတ် ၆-ပါး

မကောင်းမြစ်တား၊ ကောင်းရာညွှန်လစ်၊
အသစ်ဟောကျူး၊ နာဖူးထပ်မံ၊
နတ်ထံတင်ရာ မေတ္တာလည်းပြု၊
ရဟန်းမှု၊ ၆-ခု လွှန်သေချာ။

ကျမ်းသိင်္ဂါလ သုတ်ဝယ်ပြ သုံးလောကမြတ်ဆရာ။
ကျင့်ဝတ်မပြေ ပါယ်လေးတွေ လားလေ ရှည်မြင့်ကြာ၊
ညှိသည့်ဝတ်ကုန် ဆွေမျိုးစုံ ခြောက်ဘုံ ထက်နတ်ရွာ။

လျည်းဘီးပြင်က နားစောင့်ချသို့ မိဘနှင့်သား မယား နှင့်လင် အရှင်နှင့်ကျွန် ထေရ်မှန်ဒကာ မိတ်သဟာနှင့် ဆရာ တပည့် တည့်တည့်မချွတ် ကျင့်ဝတ်စုံသင် ပြုသန့်စင်မှ ... လည်း မချော ဘေးလည်းမကျ နတ်ရွာလူ့ပြည် စံစားမည် တည့် မဘည့်ကျင့်ဝတ် ချွတ်သူတို့မှာ မလွတ်သာသည် ... ရွာဖို့သုံးလုံး လူ့ဖြစ်၍။

### ဥစ္စာပျက်ကြောင်း ၆-ပါး

| | |
|---|---|
| သေစာသောက်စား၊ | လမ်းသွားခါပွဲ၊ |
| ရှုခဲ့သဘင်၊ | ပျော်ရွှင်အနိလောင်း၊ |
| မကောင်းမိတ်ဖျင်း၊ | ပျင်းရိခြင်းကား၊ |
| ယိုယွင်းဥစ္စာ၊ | ပျက်ကြောင်းတည်း။ |

### သေအရက်သောက်ခြင်းအပြစ် ၆-ပါး

| | |
|---|---|
| ဥစ္စာယုတ်ခြင်း၊ | ငြင်းခုံများစွာ၊ |
| ရောဂါတွေပြား၊ | ကျော်စောမဲ့တုံ၊ |
| မလုံအင်္ဂါ၊ | ပညာနည်းပါး၊ |
| ညှိခြောက်ပါးကား၊ | သောက်စားသေစာ၊ |
| အပြစ်တည်း။ | |

### အခါမဲ့လမ်းသွားခြင်း

| | |
|---|---|
| ကိုယ့်သားမယား၊ | တခြားဥစ္စာ၊ |
| လုံရာမဲ့စောင်း၊ | မကောင်းအရာ၊ |
| မှုရှာလေအပ်၊ | ယိုးစွပ်ရောက်မှု၊ |
| ဆင်းရဲစု၊ | ခြောက်ခုခါမဲ့ သွားပြစ်တည်း။ |

### သဘင်ပွဲလမ်း အပြစ် ၆-ပါး

| | |
|---|---|
| ကခြင်းတလီ၊ | သီခြင်းတသီး၊ |
| မှုတ်ခြင်းတဘင်၊ | မြိန်ဖျော်းတလုပ်၊ |
| လက်ခုပ်တလီ၊ | ဆိုးစည်တမြာ၊ |
| ရှိရာရှာ၍၊ | ဥစ္စာပျက်မှု၊ |
| ညှိခြောက်ခုကား၊ | ကြည့်ရှုသဘင်၊ |
| အပြစ်တည်း။ | |

### လောင်းတမ်းကစားသူအပြစ် ၆-ပါး

| | |
|---|---|
| အောင်သူရန်ပွား၊ | ရှုံးသွားစိုးရိမ်၊ |
| စည်းစိမ်လျော့ပါး၊ | တရားသဘင်၊ |
| မဝင်သက်သေ၊ | မိတ်ဆွေနှိမ့်ဆို၊ |
| မလိုထိမ်းမြား၊ | ညှိခြောက်ပါးကား၊ |
| ပျော်ပါး ကြွေအန်အပြစ်တည်း။ | |

### မိတ်ဆွေပျက် ၆-ယောက်

| | |
|---|---|
| ကြွေအန်ကြူးထ၊ | မိန်းမကြူးထွေ၊ |
| သေစာကြူးမူ၊ | အတုပြုပြား၊ |

လှည့်စားတတ်သော၊ မျက်မမြောက်လှည့်ချက်၊
နိုင်ထက်လုယူ၊ ဤသူ ၆-ပါး၊
မိတ်ဖြစ်လားကြောင့်၊ ပျက်ပြား မိတ်ဆွေ၊
အမြစ်တည်း။

### ဖျင်းရိခြင်း၏ အပြစ် ၆-ပါး

အချမ်းပြင်းလွန်း၊ အပူလွန်နီး၊
မိုးချုပ်လှမော၊ စောလွန်းလှမယောင်၊
ဆာလောင်ဝမ်းဝ၊ နေကညစွာ၊
ပညာမပွား၊ ဤခြောက်ပါးကား၊
ထင်ရှား လူပျင်းအပြစ်တည်း။

### အကြီးအကဲကျင့်ဝတ် ၆-ပါး

ထကြွ၊ နိုးကြား၊
သနား၊ သည်းခံ၊
ဝေဖန်၊ ထောက်ရှု၊
ဤခြောက်ခု၊ ကြီးသူ့ ကျင့်ရာ တရားတည်း။

### ကိုယ်ကျိုးငဲ့သော အဆွေခင်ပွန်းတု ၄-ယောက်

လက်ချည်းလာ၍၊ ဥစ္စာဆောင်သယ်၊
နည်းငယ်ဖြင့်သာ၊ များစွာလိုရှိ၊
ဘေးထိရောက်ခါ၊ ပြုလာတုံချင်၊
ကိုယ်ကျိုးမြင်၍၊ မှီယှဉ်ပေါင်းရ၊
ဤလေးခု၊ အညဒတ္ထုတရတည်း။



### နှုတ်ဖြင့်သာဟန်ဆောင်တတ်သော အဆွေခင်ပွန်းတု ၄-ယောက်

လွန်ပြီးစေ့စပ်၊ နာဂတ်တတန်၊
အဆန်မပါ၊ ဗလာမြှောက်စား၊
ပေးလိုလားဟန်၊ ပစ္စုပ္ပန်မှာ ပျက်ရာညွှန်ကြား၊
ဤလေးပါးကား၊ မှတ်သားဝစီပရမတည်း။

### ချစ်မှုယ်သာဆိုတတ်သော အဆွေခင်ပွန်းတု ၄-ယောက်

မကောင်းခွင့်ပြု၊ ကောင်းမှုပိတ်ပင်၊
ရှေ့တွင်ချီးမွမ်း၊ ပြီးလွှမ်းကွယ်ထောက်၊
ကဲ့ရဲ့မြောက်၊ လေးယောက် ပိယဘာဏီတည်း။

### အကျိုးမဲ့ကိုဆောင်တတ်သော အဆွေခင်ပွန်းတု ၄-ယောက်

ယစ်မျိုးသောက်စား၊ လမ်းသွားခမြဲ၊
ရှင့်သဘင်၊ ပျော်ရွှင်လောင်းစား၊
အလှုပျားမှ အဖော်ရ၊ လေးဝပါယမိတ်ဆွေတည်း။

### ကျေးဇူးဆောင်တတ်သော အဆွေခင်ပွန်းစစ် ၄-ယောက်

မေ့လျော့စောင့်ကာ၊ ဥစ္စာစောင့်ရှောက်၊
ဘေးရောက်ကိုးကွယ်၊ ပြုဖွယ်ရှိက၊
နှစ်ဆဥစ္စာ၊ ထောက်ပံ့လာသည်၊
လေးဖြာဥပကာရတည်း။

### ဆင်းရဲမကွာ ချမ်းသာပစ်သော အဆွေခင်ပွန်းစစ် ၄-ယောက်

လျှို့ဝှက်စကား၊ ဖော်ကြားမကျန်၊
တစ်ဖန်ဖုံး၍၊ ထားတွေ့မစွန့်၊

မတွန့်မကွက်၊ ကိုယ့်အသက်ကို၊
မိတ်ထွက်စွန့်မြောက်၊ ဤလေးယောက်၊
မှတ်လောက် သုခ၊ ဒုက္ခတည်း။

### အကျိုးစီးပွားကိုသာ ပြောကြားတတ်သော အဆွေခင်ပွန်း ၄-ယောက်

မကောင်းမြစ်ထား၊ ကောင်းရာညွှန်ထား၊
မကြားစဖူး၊ စကားထူးမြွက်၊
ထက်နတ်ညွှန်ပြ၊ ဤလေးဝကား။
မည်ရ အတ္ထက္ခာယီတည်း။

### အစဉ်သနားတတ်သော အဆွေခင်ပွန်းစစ် ၄-ယောက်

ဥစ္စာပျက်ပြား၊ သနားကြင်နာ၊
ပွားခါကြည်နူး၊ ကျေးဇူးမဲ့ကို၊
ဆိုသော်တားမြစ်၊ ကျေးဇူးလှစ်က၊
ထပ်ဆင့်ချီးကျူး၊ ဤလေးဦးကား၊
မိတ်ထူး အနုကမ္ပတည်း။

### အရပ် ၆-ပါး

အရှေ့မိဘ၊ တောင်မှ ဆရာ၊
အနောက်မှာကား၊ သားမယားနှင့်၊
မြောက်ကားမိတ်ဆွေ၊ အောက်ခြေ ကျေးကျွန်၊
ထက်မှန်ပုဏ္ဏား၊ ရဟန်းများ၊
၆-ပါး ရပ်မျက်နှာ။



### အလောင်းအလျာတို့ အလိုတော် ၆-ပါး

လောဘ၊ ဒေါသ၊
မောဟကင်းလို၊ တောခိုတဖြာ၊
ဆိတ်ငြိမ်ရာသက်၊ ဝဋ်မှထွက်၊
ခြောက်ချက် လောင်းလျာအလိုတည်း။

### အမြဲမပြတ် ဆင်ခြင်ရသော တရား ၅-ပါး

အိုခြင်းတဖြာ၊ နာခြင်းတထွေ၊
သေခြင်းတခြား၊ ကွဲပြားတတန်၊
ကံလျှင်ဥစ္စာ၊ ဤ ၅-ဖြာကို၊
မကွာနေ့ည၊ ဉာဏ်သက်ဝင်၍
ဆင်ခြင်ကြ။

သေခြင်းတစ်ပါး၊ ဤတရားကား၊
စီးပွားမြားမြောင်၊ အကျိုးဆောင်သည်၊
အိုအောင် အောက်မေ့ စီးဖြန်းကြ။

....o....

# (၈)

## ဘုရားရှိခိုးခြင်း

မေး။ ။ဗုဒ္ဓဘာသာဝင် တစ်ဦးရဲ့ နေ့စဉ် လုပ်ငန်းမှာ ငါးပါးသီလခံပြီးရင် ဘာလုပ်ရပါသလဲ။

ဖြေ။ ။ငါးပါးသီလ ခံပြီးရင် ဘုရား ရှိခိုးရပါတယ်။ ဘုရားရှိခိုးတယ် ဆိုပေမယ့် ဘုရားရော၊ တရားရော၊ သံဃာရော ရတနာသုံးပါးကို ရှိခိုးကြတာပဲ။ ဒါကြောင့် ဘုရားရှိခိုး စကားတည်းက ဗုဒ္ဓံ ပူဇေမိ=ဘုရားကို ပူဇော်ပါ၏။ ဓမ္မံ ပူဇေမိ = တရားတော်ကို ရှိခိုးပူဇော်ပါ၏။ သံဃံ ပူဇေမိ= သံဃာတော်မြတ်ကို ရှိခိုးပူဇော်ပါ၏လို့ ရတနာသုံးပါးကို ရှိခိုးကြတာ ဖြစ်ပါတယ်။ ခေတ်အဆက်ဆက်မှာ ရေးခဲ့ကြတဲ့ ဘုရားရှိခိုးစာအုပ်တွေမှာတော့ ဘုရားဂုဏ်တော်တွေကို ဖော်ကျူးတဲ့ ဘုရားဂုဏ်တော်ဖွင့်တွေကများပါတယ်။ တရားတော်နဲ့ သံဃာတော်ရဲ့ ဂုဏ်တော်တွေကို ဖော်ကျူးတဲ့ တရား၊ သံဃာ ဂုဏ်တော်ဖွင့်တွေလဲ အနည်းအကျဉ်းတော့ ပါပါတယ်။ ဒါကြောင့် ဘုရားရှိခိုးဆိုတာ ရတနာသုံးပါးကို ရှိခိုးပူဇော်တာလို့ မှတ်နိုင်ပါတယ်။

မေး။ ။ဘုရားရှိခိုးတယ်ဆိုတာ ဘာလဲ။



ဖြေ။ ။သုတ္တန်ဒေသနာတော်နည်းအရ ပြောရရင်တော့ ဋီကာအကျိုးမှာ ဘုရားရှင် ဟောတော်မူတဲ့အတိုင်း....

၁။ ပုဆစ်ဒူးတုပ် လက်အုပ်ချီမိုးပြီး ဒူးနှစ်ဖက်၊ လက်ဝါးနှစ်ဖက်၊ နဖူးပြင်ဆိုတဲ့ အင်္ဂါ ငါးခုကို ကြမ်းပြင်မှာ ထိပြီး ရှိခိုးတဲ့ ကိုယ်ထိလက်ရောက် ရှိခိုးတာ။

၂။ အဝိဒူရေယျ၊ အပ္ပမေယျစတဲ့ ရတနာသုံးပါးရဲ့ ဂုဏ်တော်တွေကို ဖော်ကျူး၊ စပ်ဆိုထားတဲ့ ဂုဏ်တော်တွေ ရွတ်ဆိုပြီး နှုတ်ဖြင့် အသံထွက် ပူဇော်တာ။

၃။ ကိုယ်နှုတ်မပါ ရတနာသုံးပါးရဲ့ ဂုဏ်တော်တွေကို စိတ်ထဲမှာ အောက်မေ့ ပူဇော်တာ။

ဒီလို ကိုယ်၊ နှုတ်၊ စိတ် သုံးပါးနဲ့ ရတနာသုံးပါးကို ကြည်ညိုလေးစားနေတာကို ရှိခိုးတယ်လို့ ခေါ်တယ်။

မေး။ ။အဘိဓမ္မာနည်း၊ ပရမတ္ထနည်းအရ ဘုရားရှိခိုးတယ်ဆိုတာ ဘာလဲ။

ဖြေ။ ။ဘုရားရှင်ရဲ့ ဂုဏ်တော် တရားတော်၊ သံဃာတော်တွေရဲ့ ဂုဏ်တော်တွေကို ကြည်ညိုလေးစားတဲ့ ပုဂ္ဂိုလ်ရဲ့ သန္တာန်မှာ ဖြစ်ပေါ်လာတဲ့ ရှိခိုးဦးတိုက်လိုတဲ့ စေတနာကို ဘုရားရှိခိုးတယ်လို့ ခေါ်တယ်။

ဝန္ဒနာစေတနာ ပဏာမကြိယာတိ နိပ္ဖာဒိကာ ကုသလ စေတနာ = ရှိခိုးတယ်ဆိုတာ ရှိခိုးမှုကို ဖြစ်စေတတ်တဲ့ ကုသိုလ်စေတနာသာ ဖြစ်တယ်ဆိုတဲ့ ဋီကာဆရာစကားအရ ကုသိုလ်စေတနာကို ရှိခိုးခြင်းအရ ကောက်ယူရတယ်။

မေး။ ။ဘုရားရှိမခိုးခင် ဘာလုပ်ကြသေးလဲ။

ဖြေ။ ။အချို့ ဗုဒ္ဓဘာသာတွေက ဘုရားရှိမခိုးခင်မှာ ဘုရားပင့်ကြတယ်။ အချို့ ဗုဒ္ဓဘာသာတွေကတော့ ဘုရား မပင့်ဘဲ ဘုရားရှိခိုးကို ဆက်ဆိုကြတယ်။

မေး။ ။ဘုရားရှင်ကို ဘယ်လို ပင့်ကြသလဲ။

ဖြေ။ ။ဘယ်ခေတ်က ဘယ်ဆရာတော် ရေးသားစီ သွားတယ်လို့ မသိရတဲ့ အောက်ပါ ဘုရားပင့် ဂါထာ မြန်မာပြည်အနှံ့အပြား ဗုဒ္ဓဘာသာဝင်တွေ ရရှိတဲ့ ဘုရား ဖြစ်တယ်။

## ရောင်ခြည်တော် ဘုရားပင့်

အင်္ဂီရသသာ ဥဏ္ဏာသယ၊ ဒါဌာဟိ သောတရုံသီဃော
ဝဇီရာဝ ဝိရောစန္တိ၊ ဇီနော မေ ဌာတုသီသ

အင်္ဂီရသသာ=အယုတ် အလတ် အမြတ် ပိုင်းခြား လွှန် စား၍ သုံးပါးဆယ်လီ ပါရမီတော်အဟုန် စာဂီတော် တို့ကြောင့် ခြောက်ရောင်စုံ ကွန့်မြူးလျက် 'အင်္ဂီရသ' ဟု ဘွဲ့ထူးကို အံ့ကျူးခံ့ညိုင် ဘက်မပြိုင်နိုင်အောင် လက်ကိုင် ရှိ တော်မူသော ဘုရားရှင်ကိုယ်တော်မြတ်ကြီး၏။ ဘမုကန္တ မျက်ခုံးတော်နှစ်သွယ် အလယ်ဗဟိုတည့်တည့်၌။ သဥ္ဆာဘာသ နဖူးထွားထွား ကောင်းစွာပေါက်ပွား ဖြစ်ပေါ်၍ လာတော် မူသော။ ဥဏ္ဏာသယ=ဆွဲလှိုဆန့်လျှင် နှစ်တောင်ခန့် ရှည်လျ သဖြင့် စိန်သားနှစ်အသွင် ငွေနန်းချည်မျှင်ကဲ့သို့ ဖြူစင်ဝ သစ် လက်ယာရစ်ခွေရံ စိန်ကြယ်ပွင့်အနေပုံလို ဥဏ္ဏာလုံ မွေးရှင်တော်ခေတ် လွှန်ထူးမြတ်သည့် အရပ်တော်မှ လျှ

ကောင်း၊ ဒါဌာဟိစ=ပတ္တမြားခေါင်ရန်း၊ နှပ်းဆီပန်းကဲ့သို့ မြန်းသော နှုတ်ခမ်းတော်တို့ဖြင့် မပေါ်အောင် ပုံးပိတ်၍ ထားအပ်သော သွားတော် လေးဆယ် စွယ်တော် လေးဆူ မြှုပ်ရာ ခေတ်တော်ထူးတို့မှလည်းကောင်း၊ သောတရုံသီယော= ပုလဲအနှစ် စိန်စစ်နမူ ဘော်မြူငွေနှက် မြန်ကြက်စီခြယ် ငွေ ကြယ်ရောင်သန်း ကေလာသ ငွေတောင်ကို နေရောင်လွှမ်း သကဲ့သို့ မြတ်လေးပန်း၊ စံပယ်ငုံ ကြာဖြူပွင့်ဝတ်မှုန့်လို ပုံမာ ကပ် စိန်တောင်ကို တိမ်ရောင်ဟပ်ဘိသကဲ့သို့ တလျှပ်လျှပ် တဖိတ်ဖိတ် တရိပ်ရိပ်၊ တလည်လည် ထိန်ပြောင်ကြည်သည့် စိန်ရောင်ခြည်ခေတ် ဖြူဖွေးသော ဆင်းတော်မြတ်တို့သည်။ ဝဇီရာဝ• စိန်နှစ်စိန်သွေး ဖြူဖွေးတောက်ပြောင် စိန်သား တောင်ကြီးကဲ့သို့၊ ဝိရောစန္တိ=ဖူးမြင်ရသူတို့၏ စိတ်ဝယ်အထူး ဘဝင်မှာ ကြည်နူးလောက်အောင် ရှင်မြူးတက်ကြွ ဘက်မမျှ သဖြင့် လှပဆန်းကြယ် တင့်တယ်တော် မူကြပါပေကုန်၏။ သောဇီနော = ထူးထွေဆန်းလည် စိန်ရောင်ခြည်တို့ကြောင့် အင်္ဂီရသံ ဘွဲ့ထူးခံသည့် ငါးမာရ်အောင်ပြီး ထိုဘုရားရှင် ကိုယ်တော်မြတ်ကြီးသည်၊ မေမမ=ရှုပ်နှင့်နာမ်သာ ထိုနှစ်ဖြာ ကို သဏ္ဍာယစွဲ အထင်လွဲ၍ ငါပဲသမုတ် အကျွန်ုပ်၏၊ သီသ ကေ=ဦးခေါင်းရတနာ ကြာရာထားတင် ဦးထိပ်ပြင်၌၊ ဌာတု= ဘေးရန်ခပ်သိမ်း ကင်းငြိမ်းစေမှု ဖော္ပြမှု၍ ကြည်ရှုက်ပ်တိုင် ခိုင်ခိုင်မှတ်မှတ် ရပ်တည်တော်မူလည့်ပါ။ (ဝါ) ရပ်တင့် ရှင် ကြည် တည်နေ သီတင်းသုံးတော် မူလှည့်ပါ၊ စိန်ရောင်ခြည် နေတန့်နှန်းကဲ့သို့ ရွှေဘုန်းတော်သခင် အရှင်သူမြတ်ဘုရား။

မေး။ ။ဘုရားကို ပင့်တဲ့အခါ ဘုရားရှင် ကြွလာပါသလား။

ဖြေ။ ။အထက်ပါ ဘုရားပင့်ဂါထာကို ရွတ်ဆိုပြီး ပင့်လိုက်တဲ့အခါ ဘုရားရှင်ဟာ မကြွလာပါဘူး။ ဗုဒ္ဓဘာသာတွေရဲ့ ဘုရားက အခြားဘာသာ ဘုရားတွေလို အထက်ကောင်းကင် တစ်နေရာမှာ အသက်ရှင်လျက် ရှိတာ မဟုတ်ပါဘူး။ တစ်နေရာမှာ အသက်ရှင်လျက်ရှိတာမဟုတ်တဲ့အတွက် ဘုရားရှိခိုးမယ့်လူရဲ့ ပင့်လျှောက်ချက်ကိုလဲ မကြားနိုင်ပါဘူး။ ဒါကြောင့် ဘုရားရှင်ဟာ ကြွလဲ မကြွရောက်ပါဘူး။ ဒီနေရာမှာ ပရိတ်ရွတ်ခါနီး နတ်ပင့်တာနဲ့ သွားမရောသင့်ပါဘူး။ နတ်တွေဆိုတာက အသက်ထင်ရှား ရှိနေတယ်။ အဝေးက ပြောသံ ဆိုသံ ပင့်သံကို ကြားနိုင်လောက်တဲ့ ဒိဗ္ဗသောတ နတ်နားကလဲ ရှိတော့ ပင့်တာကို ကြားပါတယ်။ ကြားတဲ့အတိုင်းလဲ ပရိတ်တရားတော်ကို နာလိုရင် လာပါတယ်။ ဘုရားရှင်ကတော့ သက်တော်ထင်ရှားကလဲ မရှိတော့တဲ့အတွက် ဘယ်သူက ဘယ်လိုပင့်လို့မှ မကြွနိုင်ပါဘူး။

မေး။ ။ဘုရားဟာ အသက်မရှိလို့ မကြွရင် ဘုရားပင့်တာဟာ အဓိပ္ပာယ်မရှိတဲ့ အပိုအလုပ်ပဲလား။

ဖြေ။ ။ဘုရားပင့်တာဟာ အဓိပ္ပာယ်မရှိ အပိုအလုပ်တော့ မဟုတ်ပါဘူး။ ရှေ့မှာ ပြခဲ့တဲ့အတိုင်း ဘုရားရှိခိုးတယ်ဆိုတာ ရုပ်ပွား၊ ဆင်းတု စေတီ ပုထိုးကို ရှိခိုးတာ မဟုတ်ပါဘူး။ သက်တော်ထင်ရှား ဘုရားရှင်ကို ရည်မှန်းပြီး ရှိခိုးတာ ဖြစ်ပါတယ်။ အထက်ပါ ဘုရားပင့် ဂါထာနဲ့ ဘုရားကိုပင့်လိုက်တဲ့အခါ ရောင်ခြည်တော်ခြောက်သွယ် ကွန့်



နေတဲ့ ဘုရားရှင်ဟာ ဘုရားရှိခိုးသူရဲ့ အာရုံထဲမှာ ထာ ပါတယ်။ ဒီအခါမှာ ဆင်းတု စေတီလေးကိုသာ တာ မဟုတ်တော့ဘဲ သက်တော်ထင်ရှားဘုရားကို ရှိခိုး တယ်။ ဘုရားမပင့်ဘဲ စေတီ ဆင်းတုတော်ရှေ့မှာ ရှိခိုးတဲ့ ါ သက်တော်ထင်ရှား ဘုရားရှင်ကို အာရုံမရောက်ဘဲ ပါတယ်။ မိမိ ရှိခိုးနေတဲ့ အခိုက်မှာ ဘုရားရှင်ဟာ င်ခြည်တော် ခြောက်သွယ် ကွန့်မြူးပြီး မိမိရဲ့ ဦးခေါင်း မှာ ကြွရောက် အလှူခံတော်မူနေတယ်လို့ စိတ်အာရုံကို ဖြစ် ါစေတဲ့အတွက် ဘုရားမပင့်ဘဲ ရှိခိုးတာထက် ဘုရားပင့်ပြီး တာက ပိုပြီးကောင်းပါတယ်။ ဘုရားမပင့်ပေမယ့် သက် တော် ထင်ရှား ဘုရားရှင်ရဲ့ ဂုဏ်တော်တွေကို အောက်မေ့ နိုင်ရင်တော့ ဘုရားမပင့်ဘဲ ရှိခိုးလို့လဲ ရပါတယ်။

မေး။ ။ဘုရားရှင်က ရှင်ဝက္ကလိမထေရ်ကို ငါဘုရားရဲ့ ာကိုယ်အပုပ်ကောင်ကြီး ရှိခိုးကြည်ညိုနေလို့ တစ်မဂ် တစ်ဖိုလ် လား။ တရားအားထုတ်ပါလားလို့ မာန်မဲခဲ့တဲ့အတွက် ရားရှိခိုးနေဖို့ လိုပါသေးသလား။

ဖြေ။ ။ရှင်ဝက္ကလိမထေရ်ကို ဘုရားရှင် ကိုယ်တော်တိုင် ငါဘုရားရဲ့ ခန္ဓာကိုယ် အပုပ်ကောင်ကြီးကို ရှိခိုးနေလို့ မဂ် တစ်ဖိုလ်မရနိုင်ဘူးလို့ ဟောကြားခဲ့ပါတယ်။ ဟော ားတဲ့အတိုင်း သက်တော်ထင်ရှား ဘုရားကိုယ်တိုင်ကိုပဲ ဖြစ်၊ ဘုရားရှင်ကို ရည်မှန်း၍ ပြုလုပ်ထားခဲ့တဲ့ ဆင်းတု၊ ွား၊ စေတီတော်တွေကိုဖြစ်ဖြစ် ရှိခိုး ပူဇော်ရုံနဲ့တော့ မဂ် တစ်ဖိုလ်ကို မရနိုင်ပါဘူး။ ဒီဟာကို မျက်မှောက် မပြု နိုင်ပါဘူး။

ရှင်ဝက္ကလိမထေရ်ဟာ ဘုရားရှင်ရဲ့ ၃၂-ပါးသော လက္ခ… တော်ကြီးနဲ့ ၈၀-သော လက္ခဏာတော်ငယ်နဲ့ … သဏ္ဌာယ်ကို ဖူးမြော်ပြီး ကြည်ညိုနေပါတယ်၊ဒါဒီလို … လုံး ကြည်ညိုပြီး သေသွားခဲ့ရင် အပါယ်မလားဘူး။ … ချမ်းသာ နတ်ချမ်းသာကို ရမယ်။ ရှင်ဝက္ကလိဟာ … ကြီးစား အားထုတ်လိုက်ရင် မဂ်ဖိုလ်ရမှာကို ဘုရားရှ… တော်မူတယ်။ ဒါကြောင့် ဘုရားရှင်က ရှင်ဝက္ကလိကို … ထုတ်လိုက်ပါတယ်။ ရှင်ဝက္ကလိလဲ သတိတရားပြေ… ထုတ်လိုက်တာ သောတာပန် ဖြစ်သွားတယ်။ နှိမ့်ချ… ကို မျက်မှောက် ပြုနိုင်သွားတယ်။ သောတာပတ္တ… လောကုတ္တရာကုသိုလ်နဲ့ ဘုရားရှင်ကို ကြည်ညိုနေတဲ့ … အဖြစ်က ကာမာဝစရ ကုသိုလ်နဲ့ နှိုင်းယှဉ်ကြည့်ရင် အ… ထောင်မက ကွာခြားတယ်။ အဆင့်မြင့်တဲ့ လော… ကုသိုလ် မဂ်ဖိုလ်တရား ရမှာကိုမြင်လို့ လောကီ ကု… ကျေနပ်နေတဲ့ ရှင်ဝက္ကလိကို မာန်မဲထုတ်တာ ဖြစ်တယ်။ … ရှင်ကို ကြည်ညိုနေတာဟာ လုံးဝအကျိုးမရှိလို့ မဟုတ်…

ဒီလို သေသေချာချာမသိတဲ့ ခုကာလ တချို့ပုဂ္ဂိုလ်… ဘုရားရှိခိုးလို့ အလကားပဲ။ တရားပဲ အားထုတ်ကြ… ဆိုကြတယ်။ တရားအားထုတ်တဲ့လူဟာ ဘုရားရှိခိုး… ဘူးလို ပြောဆိုနေကြတယ်။ ကိုယ့်ကိုယ်ကို ရှင်ဝက္က… တစ်မဂ် တစ်ဖိုလ်ရမယ် မရဘူး မသေချာသေးတော့ … တံခါးပိတ်ပြီး လူနတ်ချမ်းသာကို ပေးနိုင်တဲ့ ဘုရား… ကိုလဲ ပြုလုပ်ကြရပါမယ်။ ဘုရားရှိခိုးမှု၊ သီလဆောက်… မှု၊ ဒါနပြုမှုဆိုတဲ့ လောကီကုသိုလ်မှုနဲ့ အားရ ထင်းတိ…

…တစ်မဂ်တစ်ဖိုလ် ရရာရကြောင်း၊ ကမ္မဋ္ဌာန်းတရားကိုလဲ …နိုင်သမျှ အားထုတ်ကြရပါမယ်။

…မေး။ ။ဘုရားရှင်ဟာ ပရိနိဗ္ဗာန် စံသွားပြီမဟုတ်လား။ …ရှင်ဟာ ကောင်းကင်ဘုံတစ်ခုရာမှာ သက်တော်ထင် …တည်ရှိနေတာမဟုတ်တော့ ရှိခိုး ကိုးကွယ်လို့ အကျိုးရ …လား။

…ဖြေ။ ။ပရိနိဗ္ဗာန်က သုံးမျိုးရှိပါတယ်။ ဗောဓိပင်နဲ့ …ပင်မှာ သဗ္ဗညုတဉာဏ်ကို ရတော်မူစဉ်က ကိလေသာ …တွေကို အကြွင်းအကျန်မရှိ ငြိမ်းသတ်ခဲ့တဲ့ အတွက် …ကိလေသာပရိနိဗ္ဗာန်လို့ ခေါ်ပါတယ်။ ကုသိနာရုံပြည် မလ္လာ …ရဲ့ အင်ကြင်းဥယျာဉ်မှာ ခန္ဓာကမ္မဇရုပ် ကင်းချုပ် …ခဲ့ (သေလွန်ခဲ့) တာကို ခန္ဓပရိနိဗ္ဗာန်လို့ ခေါ်ပါ… သက်တမ်းကိုတဲ့ ကာလမှာ ပွင့်တော်မူကြတဲ့ ဘုရား …တွေဟာ ခန္ဓာကမ္မဇရုပ် ချုပ်ငြိမ်း ကွယ်ပျောက်သွားပေ… ဘုရားရှင်ရဲ့ အလောင်းတော်ကို မီးသင်္ဂြိုဟ်တဲ့ အခါ …တော်ဟာ ဓာတ်တော်တွေအဖြစ် ကြွင်းကျန်ရစ်ပါစေ …အဓိဋ္ဌာန်ပြုမြဲမဟုတ်တာ ဖြစ်တယ်။ ဂေါတမဘုရားရှင်ဟာ …သက်တမ်းတိုတဲ့ခေတ်မှာ ဘုရားပွင့်လာရတော့ ၄၅-ဝါ …ဟာဒေသရ ချက်ရရုံနဲ့ အားရကျေနပ်တော်မမူဘူး။ ဒါ …ကြောင့် ခန္ဓပရိနိဗ္ဗာန် ပြုပြီးနောက်မှာ ဓာတ်တော်တွေ …ပါစေ။ အဲဒီဓာတ်တော်တွေကို ပူဇော်ပြီး ဘုရားရှင်နဲ့ …ကိန်းမြောက်မတွေ့လိုက်ရ၊ တရားမနာရတဲ့ သတ္တဝါတွေ ကျွတ် …ဆိုပြီး ဓာတ်တော်တွေကျန်ဖို့ အဓိဋ္ဌာန်ခဲ့တယ်။ အဓိဋ္ဌာန် …အတိုင်း ဓာတ်တော်တွေ ကျန်ခဲ့လို့ အခု ဘုရားရှင် ပရိ… …ဗ္ဗာန် စံပြီး နှစ်ပေါင်း ၂၅၀၀-ကျော်အထိ ဗုဒ္ဓဘာသာနှာ…

ဟာ ထွန်းလင်းနေတယ်။ နောက် နှစ်ပေါင်းများစွာ ဆက်လက် ထွန်းလင်းနေဦးမှာပဲ။

သာသနာ့သက်တော် နှစ် ငါးထောင် ပြည့်တဲ့အခါ ... မဟုတ် ဗုဒ္ဓသာသနာတော်ကို ကြည်ညိုကိုးကွယ်သူမရှိ၊ သာ... နာယ ကာလရောက်ချိန် ကျတဲ့အခါ လူ့ပြည်၊ နတ်ပြည်၊ နဂါးပြည်မှာ ရောက်နေတဲ့ ဘုရားရှင်ရဲ့ ဓာတ်တော်တွေ ဗောဓိပင်နှင့် ရွှေပလ္လင်နေရာမှာ ပြန်စုပြီး ဓာတုပရိ... ပြုတော်မူလိမ့်မယ်။ အဲဒီအခါမှာ ဂေါတမဘုရားရှင်ရဲ့ ... သနာဟာ အဆုံးသတ်သွားလိမ့်မယ်။ အဲဒီဓာတုပရိနိဗ္ဗာ... မစ်ခင်အတွင်းမှာတော့ ဓာတုစေတီ—ဓာတ်တော်တွေ ... စေတီ—ပိဋကတ်တော်တွေ၊ ဥဒ္ဒိဿစေတီ—ဆင်းတုတော်... ပရိဘောဂစေတီ—ဗောဓိပင်တွေ ဆိုတဲ့ စေတီလေးမျိုး... ဂေါတမဘုရားရှင်ရဲ့ကိုယ်စား ကိုးကွယ်စရာတွေ ဖြစ်တဲ့အ... ဒီစေတီလေးမျိုး ရှိနေသမျှ ဘုရားပရိနိဗ္ဗာန် စံသွားပြီ... မဆိုနိုင်ပါဘူး။ ဘုရားရှင် သက်တော်ထင်ရှား ရှိနေ... ဖြစ်ပါတယ်။ ဒါကြောင့် ဘုရားရှင်ဟာ ကောင်းက... တစ်နေရာမှာမရှိပေမယ့် ဗုဒ္ဓဘာသာဝင်တွေရဲ့ မျက်မှောက်... ဘုရားကိုယ်စား စေတီ ၄-ပါးရှိတဲ့ အတွက် ဦးခိုက်ကိုးကွယ်... အကျိုးရှိပါတယ်။

မေး။ ။ဘုရားရှင်ရဲ့ ရှင်ကလာပ် အလောင်းတော်... ဘယ်လို ပူဇော်သကြိုဟ်ရမလဲလို့ ရှင်အာနန္ဒာကမေးတဲ့အ... အာနန္ဒာ၊ သင်တို့ ငါဘုရားရဲ့အလောင်းတော်ကို ပူဇော်... ကြောင့်ကြ မစိုက် ကြကုန် လင့်လို့ မိန့်ပြီး ပူဇော်သ... ဘုရားရှင်ရဲ့ သရီရဓာတ်တွေကို ပူဇော်ကြလော့။ ပူဇော်...



ကြောင့် နတ်ပြည်သို့ ရောက်လတ္တံ့လို့ ဟောပြန်တော့ ဒေသနာနှစ်ခုဟာ ဆန့်ကျင်မနေဘူးလား။

ဖြေ။ ။မဆန့်ကျင်ပါဘူး။ ရှင်ဝက္ကလိထေရ်ကို မိန့်တုန်းကလိုပဲ အထက်တန်းကျလာတဲ့ လောကုတ္တရာကုသိုလ်တွေရဖို့ ရဟန်းဝတ်နေကြတဲ့ ဘုရားသားတော် သံဃာတော်တွေအဖို့ အလောင်းတော်ကို ပူဇော်တာ လောကီကုသိုလ် ရှာဖို့ရန် မဟုတ်၊ သင်္ခါရတွေကို သုံးသပ်ဆင်ခြင် သတိပဋ္ဌာန်လေးပါး ပွားပြီး အရဟတ္တဖိုလ်ရအောင် အားထုတ်မှုမျိုးဟာ ဘုရားသားတော်တွေရဲ့ အလုပ်ဖြစ်တယ်။ ပူဇော်သက္ကာရ ပြုတယ်ဆိုတာက ဘုရားသားတော်တွေမဟုတ်တဲ့ လူတွေ နတ်တွေရဲ့ အလုပ်ဖြစ်တယ်။ အရဟတ္တဖိုလ်ရအောင် အားမထုတ်နိုင်သေးတဲ့ လူတွေ နတ်တွေကတော့ ဓာတ်တော်တွေ စေတီလေးပါးတွေကို ပူဇော်ခြင်းဖြင့် အပါယ်တံခါးပိတ်ပြီး လူ့ပြည် နတ်ပြည်တံခါးကို ဖွင့်ကြလိမ့်မယ်လို့ ဆိုလိုတယ်။ ဒါကြောင့် အထက်မှာ ဟောခဲ့တဲ့ ဒေသနာနှစ်ခုဟာ မဆန့်ကျင်ပါဘူး။ ဒါကြောင့် ဘုရားရှင်ရဲ့ စေတီ(၄)မျိုးကို ယုံယုံကြည်ကြည်နဲ့ ကိုးကွယ်ဆည်းကပ် ပူဇော်ကြရမယ်။

မေး။ ။ဘုရားရှင်ဟာ ဆင်းရဲကိုလဲမကယ်နိုင်၊ ချမ်းသာကိုလဲ မပေးနိုင်ဘူးဆိုရင် ကိုးကွယ်နေဖို့ လိုပါသေးလား။

ဖြေ။ ။ဘုရားရှင်က ဆင်းရဲသူကိုလဲ မကယ်နိုင်ဘူး၊ ချမ်းသာအောင်လဲ မမစနိုင်ဘူး။ ဗုဒ္ဓဘာသာတွေ ဘုရားရှိခိုးတာက အခြားဘာသာဝင်တွေ သူတို့ရဲ့ ဘုရားကို ရှိခိုးတာနဲ့ မတူဘူး။ အခြား ဘာသာဘုရားတွေကတော့ ရှိခိုးသူရဲ့ အပြစ်ကိုလဲ ခွင့်လွှတ်တယ်၊ အပြစ်ကလွတ်အောင် ကယ်တင်

တယ်။ ချမ်းသာသုခရအောင်လဲ ဖန်တီးပေးတယ်လို့ သူတို့က ယုံကြည်တယ်။ ဂေါတမ ဘုရားရှင်ကတော့ ကယ်လဲ မကယ်ဘူး။ မ,လဲ မမ,ဘူး။ ချမ်းသာတယ် ဆင်းရဲတယ် ဆိုတာ သူတို့နဲ့လဲ မဆိုင်ဘူး။ ကာယကံရှင် လူသားနဲ့သာ ဆိုင်တယ်။ ကောင်းတာလုပ်ရင် အကျိုးခံစားရမယ်။ ဆိုးတာလုပ်ရင် အပြစ်ခံရမယ်၊ ဘုရားရှင်ကတော့ လူသားကို အကောင်းနဲ့အဆိုး ခွဲခြားညွှန်ပြရုံသာ ညွှန်ပြတယ်။ ဗုဒ္ဓဘာသာတွေက ဘုရားကို ရှိခိုးတာလဲ ဆင်းရဲက ကယ်တင်ဖို့၊ နိဗ္ဗာန်ရအောင် လုပ်ပေးဖို့ ရှိခိုးတာမဟုတ်ဘူး။ အမှန်နဲ့အမှားကို ညွှန်ပြတဲ့ဆရာတစ်ဆူအနေနဲ့ အရဟံစသော ဂုဏ်တော်တွေကို အောက်မေ့ပြီးသာ ရှိခိုးပူဇော်ခြင်း ဖြစ်တယ်။ ဘုရားရှင်ကလဲ ငါဘုရားကို ရုပ်အဆင်း သပ္ပာယ်လှပလို့လဲ မမှီဝဲနဲ့။ ပစ္စည်းလေးပါး လွယ်လွယ်ကူကူရလို့လဲ မမှီဝဲနဲ့။ လမ်းမှားနဲ့လမ်းမှန်ကို ခွဲခြားညွှန်ပြနိုင်တဲ့ ဆရာတစ်ဆူ ဖြစ်တယ်လို့ ယုံကြည်မှု ကိုးကွယ် ဆည်းကပ်ကြလို့ မူလပဏ္ဏာသမှာ ဟောကြားထားပါတယ်။ ဒါကြောင့် ဗုဒ္ဓဘာသာတွေဟာ ဆင်းရဲက ကယ်တင်ဖို့ ချမ်းသာသုခကို ပေးဖို့ ရှိခိုးတောင်းပန်တာ မဟုတ်ပါဘူး။ လမ်းမှန်ကို ညွှန်ပြပေးတဲ့ ဆရာအနေ ကျေးဇူးရှင်အနေနဲ့သာ အရိုအသေပြုခြင်း၊ ရှိခိုးပူဇော်ခြင်း ဖြစ်ပါတယ်။

မြတ်စွာဘုရား မကယ်တင်နိုင်ဘူးဆိုတဲ့ အတွက် ဘုရားရှိခိုးတာ အကျိုးမရှိဘူးလို့ မဆိုလိုဘူး။ ဓမ္မပဒ အာယုဝဍ္ဎနဝတ္ထုမှာ အသက် ဂုဏ်သိက္ခာကြီးသူတွေကို ရှိခိုးတဲ့လူတွေဟာ အသက်ရှည်၊ အဆင်းလှ၊ ကိုယ်စိတ်ချမ်းသာ၊ ခွန်အားဗလ ကောင်းမယ်လို့ ဟောထားတယ်။ ဂုဏ်အားဖြင့် ကြီး



သူတွေထဲမှာ ဘုရားရှင်လောက် ဂုဏ်ကြီးတဲ့ ပုဂ္ဂိုလ်မရှိဘူး။ ဒါကြောင့် ရတနာသုံးပါးရဲ့ဂုဏ်က ယုံယုံကြည်ကြည်နဲ့ ပွားများအောက်မေ့ ရှိခိုးတဲ့လူဟာ အသက်ရှည်မယ်။ သူတစ်ပါး လေးစားနိုင်လောက်အောင် တည်ကြည် ခန့်ညားတဲ့ ဥပမိရုပ်မျိုး ရှိမယ်။ အလုပ်အကိုင် ရောင်းရေးဝယ်တာ အဆင်ပြေပြီး လာဘ်လာဘပေါများ၍ ကိုယ်ရောစိတ်ပါ ချမ်းသာမယ်။ ကာယဗလ ကျန်းမာရေး ကောင်းမယ်။ ဉာဏဗလ စိတ်ကြည်လင်ပြီး စာသင်လို့ အကြံထုတ်လို့ ကောင်းမယ်။ မိတ္တဗလ လူချစ်လူခင် များမယ်။ စာရိတ္တဗလ အကျင့်ကောင်းမယ်။ ဘောဂဗလ ဝင်ငွေကောင်းပြီး ချမ်းချမ်းသာသာနေနိုင်၊ စားနိုင်မယ်။ ဓမ္မပဒမှာ ဘုရားရှင် ဟောတဲ့အတိုင်း ကြီးပွားချမ်းသာချင်ရင်၊ အကြံအစည်အောင်ချင်ရင် ဘုရားဂုဏ်တော်ကို များများ ပွားပေးကြပါ။ လက်တွေ့အကျိုးရပါလိမ့်မယ်။

မေး။ ။ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်ရမယ်လို့ ဘုရားရှင် ဟောထားတာ ရှိပါသလား။

ဖြေ။ ။အင်္ဂုတ္တရသေဟာ တပည့်တွေကို တောတောင်သစ်ပင် ဥယျာဉ်ခြံ နတ်ကွန်းတွေကို ရှိခိုးပူဇော်ဖို့ တိုက်တွန်းနေတယ်။ ဒါကို ဘုရားသိတော့ ဒီလို သစ်ပင်တောတောင်တွေကို ရှိခိုးကိုးကွယ်နေတာ မှန်ကန်တဲ့ ဘေးရန်မှ ကင်းတဲ့ကိုးကွယ်မှုမျိုး မဟုတ်ဘူး။ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးတို့ကို ကိုးကွယ်ဆည်းကပ်ရင် သစ္စာလေးပါးကိုသိရမယ်။ ရတနာသုံးပါးကို ကိုးကွယ် ဆည်းကပ်မှ ဘေးကင်းတယ်။ လို့ဟောတယ်။ ဆင်းရဲခပ်သိမ်းကလဲ ကင်းလွတ်မယ်လို့ ဘုရားရှင်က ဓမ္မပဒမှာ ဟောထားပါတယ်။

မေး။ ။မြတ်စွာဘုရားရဲ့ ကုန်မျိုးစုံဆိုင်ဆိုတာ ဘာလဲ၊ အဲဒီဆိုင်မှာ ဘာကုန်တွေ ရောင်းသလဲ၊ ဘာငွေနဲ့ ဝယ်ရသလဲ၊ (မိလိန္ဒမင်းကြီး အမေး)။

ဖြေ။ ။ဓာတု ဓမ္မ ဥဒ္ဒိဿနဲ့ ပရိဘောဂ ဆိုတဲ့ စေတီ ၄-မျိုးနဲ့ သံဃာတော်တွေဟာ ဘုရားရှင် ဖွင့်ထားတဲ့ ကုန်မျိုးစုံဆိုင်ကြီး ဖြစ်တယ်။ အဲဒီဆိုင်ကြီးမှာ အသက်ရှည်ခြင်း၊ အနာကင်းခြင်း၊ အဆင်းလှခြင်း၊ အမျိုးမြတ်ခြင်း၊ ချမ်းသာကြွယ်ဝခြင်း၊ နတ်ပြည်ရောက်ခြင်း၊ နိဗ္ဗာန်ချမ်းသာ ဆိုတဲ့ ကုန်မျိုးစုံကို ဖြန့်ခင်းရောင်းချတယ်။ အဲဒီ အဖိုးတန် ကုန်တွေကို ဒါန၊ သီလ၊ ဘာဝနာ ကုသိုလ်ကံဆိုတဲ့ အဖိုးငွေတွေပေးပြီး ဝယ်ယူနိုင်တယ်လို့ ရှင်နာဂသေနက ဖြေထားတယ်။ ဒါကြောင့် ဒါန၊ သီလ၊ ဘာဝနာ ကုသိုလ်ဆိုတဲ့ ငွေတွေ များများ စုဆောင်းပြီး စေတီ ၄-ပါးနဲ့ သံဃာတော်များဆိုတဲ့ ဘုရားရှင်ရဲ့ ကုန်ပဒေသာစတိုးဆိုင်ကြီးမှာ လူနတ် နိဗ္ဗာန် ချမ်းသာသုံးပါး ကုန်ပစ္စည်းများကို ဝယ်ယူစားသုံးနိုင်ကြဖို့ အထူးလိုပါတယ်။

မေး။ ။ဘုရားရှိခိုး အမျိုးမျိုးထဲမှာ ဘယ်ဘုရားရှိခိုးဟာ အကောင်းဆုံးလဲ။

ဖြေ။ ။ဘုရားရှိခိုးတယ်ဆိုတာ ဘုရားရှင်ရဲ့ ဂုဏ်တော်တွေကို ဖော်ထုတ်ချီးကျူးပြီး ဘုရားရှင်ကို လေးစားပူဇော်ခြင်းဖြစ်တယ်။ ဘုရားရှင်မှာရှိတဲ့ ဂုဏ်တော်တွေဟာ ပွင့်တဲ့လို့ မကုန်အောင် များပြားတယ်။ ဘုရားတစ်ဆူရဲ့ ဂုဏ်ကို အခြား ဘုရားတစ်ဆူက တစ်ကမ္ဘာပတ်လုံး အခြား ... စကားမှမပြောဘဲ ချီးကျူးနေသော်လဲ မကုန်နိုင်ဘူးဆိုတာကို ဥဒါန်းနဲ့ ဗုဒ္ဓဝင်အဋ္ဌကထာတွေမှာ ပြထားတယ်။ ဒါကြောင့်



လဲ ဘုရားရှိခိုးအမျိုးမျိုး ဖြစ်နေတာပဲ။ အဲဒီ ဂုဏ်တွေထဲက ဘယ်ဂုဏ်ကိုပဲဖြစ်ဖြစ် ထုတ်ဖော် ရှိခိုးရင် ကောင်းတာပါပဲ။

ဒါပေမယ့် သုကုမာရ မဟာဒီပနီကျမ်းမှာ လယ်တီ ဆရာတော်ဘုရားကြီးက အောက်ပါအတိုင်း မှာထားတယ်။

ဤဘုရားဂုဏ် ၉-ပါး၊ တရားဂုဏ် ၆-ပါး၊ သံဃဂုဏ် ၉-ပါးကို အဓိပ္ပာယ်နှင့်တကွ မရလည်စွာ မသိသောသူသည် ဘုရား၊ တရား၊ သံဃာကို ဉာဏ်နှင့် ကြည်ညိုတတ်သောသူ မဟုတ်။ ကိုးကွယ်ရုံမျှ တီတီတာကုသိုလ်မဖြစ်။ နှုတ်တီတာကုသိုလ်သာ ဖြစ်၏။ ထို့ကြောင့် ဗုဒ္ဓဘာသာလူမျိုးမှန်လျှင် ဤဂုဏ်တော် သုံးပါး အနက်ကို နှုတ်တက်ပြေမှု တကယ်ရမှ သင့်မြတ်သတည်း။ ဤဂုဏ်တော် ဘုရားရှိခိုးသည် သဗ္ဗညုတဉ္ဉာဏ်တော်၌ မြတ်စွာဘုရား ကိုယ်တော်တိုင် အဖန်ဖန် ဟောတော်မူ၏။ ရဟန္တာကြီးများကလည်း အဖန်ဖန် ဟောတော်မူ၏။ ဤ ဘုရားရှိခိုးထက် ကြီးမြတ်သော ဘုရားရှိခိုးမရှိပြီ။

အဲဒီဆရာတော်ဘုရားရဲ့ အဆိုအရ အကောင်းဆုံး အမြတ်ဆုံးဖြစ်တဲ့ ဂုဏ်တော်သုံးပါး ဘုရားရှိခိုးကို ဒီစာအုပ်မှာ ဖော်ပြလိုက်ပါတယ်။

မေး။ ။ဘုရားရှင်ကို ဘယ်လို ရှိခိုးရမလဲ။

ဖြေ။ ။ဘုရားရှင်ကို အောက်ပါအတိုင်း ဘုရားဂုဏ်တော် ၉-ပါးကို ဖော်ထုတ်ရှိခိုးရမယ်။

ဣတိပိ သော ဘဂဝါ အရဟံ သမ္မာသမ္ဗုဒ္ဓေါ ဝိဇ္ဇာစရဏ သမ္ပန္နော သုဂတော လောကဝိဒူ အနုတ္တရော ပုရိသ ဒမ္မသာရထိ သတ္ထာ ဒေဝ မနုဿာနံ ဗုဒ္ဓေါ ဘဂဝါ။

သော ဘဂဝါ—ထိုမြတ်စွာ ဘုရားသည်၊ ဇာတိပိ—ဤသို့ လျှင်၊ အရဟံ—လူမင်း၊ နတ်မင်း ဗြဟ္မာမင်းတို့၏ ပူဇော် အထူးကို ခံထိုက်ပါပေ၏၊ သမ္မာသမ္ဗုဒ္ဓေါ—ခပ်သိမ်းကုန် သော တရားတို့ကို ဆရာမရှိ မိမိအလိုလို ကိုယ်တော်တိုင် ထိုးထွင်း သိမြင်တော် မူပါပေ၏။ ဝိဇ္ဇာစရဏသမ္ပန္နော— ဝိဇ္ဇာသုံးပါး, ဝိဇ္ဇာရှစ်ပါး, စရဏတရား ၁၅-ပါးတို့နှင့် ပြည့်စုံတော် မူပါပေ၏၊ သုဂတော—မဇ္ဈိမပဋိပဒါ မဂ္ဂင် ရှစ်ပါး လမ်းမှန်အားဖြင့် နိဗ္ဗာန်ရွှေပြည်သို့ ကြွချီဆိုက်ရောက် တော် မူပါပေ၏။

လောကဝိဒူ—လောကသုံးခွင် ဘုံအပြင်ကို အကုန်အစင် သိမြင်တော်မူပါပေ၏။ အနုတ္တရော ပုရိသ ဒမ္မသာရထိ— ဆုံးမထိုက်စွာ သတ္တဝါကို ယဉ်ကျေးစိမ့်ငှာ ဆုံးမရာ၌ အတု မရှိ စွမ်းဆောင်နိုင်ခြင်း ရှိပါပေ၏။ သတ္ထာဒေဝမနုဿာနံ— လူနတ်ဗြဟ္မာ သတ္တဝါတို့၏ ဆရာတစ်ဆူဖြစ်တော်မူပါပေ၏။ ဗုဒ္ဓေါ—သစ္စာလေးပါး မြတ်တရားကို ကိုယ်တော်တိုင်လဲသိ ဝေနေယျတို့အား သိအောင်လဲ ဟောကြားတော် မူတတ်ပါ ပေ၏။ ဘဂဝါ—ဣဿရိယ, ဓမ္မ, ယသ, သိရီ, ကာမ, ပယတ္တတည်းဟူသော ဘုန်းတော် ခြောက်ပါးတို့နှင့် ပြည့်စုံ တော်မူပါပေ၏။ တံ—ထိုအရဟံအစ ဘဂဝါဆုံးလတ် ဂုဏ် ၉-ရပ်ရှင် ဘုရားသခင်ကို၊ အဟံ—တပည့်တော်သည်၊ ဝန္ဒာမိ- ရှိခိုးသမြတ်နိုး လက်စုံမိုး၍ ရှိခိုးပူဇော်ပါ၏ ဘုရား။

မေး။ ။တရားတော်ကို ဘယ်လို ရှိခိုးရမလဲ။

ဖြေ။ ။တရားတော်ကို အောက်ပါအတိုင်း တရားဂုဏ် တော် ၆-ပါးကို ထုတ်ဖော်ရှိခိုးရမယ်။



သွာက္ခာတော ဘဂဝတာဓမ္မော သန္ဒိဋ္ဌိကော အကာလိ ကော ဧဟိပဿိကော ဩပနေယျိကော ပစ္စတ္တံ ဝေဒိတဗ္ဗော ဝိညူဟိ။

ဘဂဝတာ— မြတ်စွာဘုရားသည်၊ ဓမ္မော— တရားတော် မြတ်ကို၊ သွာက္ခာတော— အစအလယ်အဆုံး သုံးပါးအစုံ ကောင်းခြင်းဂုဏ်နှင့် ပြည့်စုံအောင် ဟောကြားတော်မူအပ် ပါပေ၏၊ သန္ဒိဋ္ဌိကော—ကျင့်ကြံသူတို့အား တပ်အပ်ထင်ထင် ကိုယ်တိုင်ပင်လျှင် သိမြင်နိုင်စွမ်းပါပေ၏။ အကာလိကော— အခါမလင့် ဝိဋ္ဌိလက်ငင်း အကျိုးပေးခြင်းလည်း ရှိပါပေ၏၊ ဧဟိပဿိကော—လာပါ ရှုပါ ကျင့်လှည့်ပါဟု ဖိတ်ခေါ်ထိုက် တွန်းခြင်းငှာ ထိုက်တန်ပါပေ၏၊ ဩပနေယျိကော—မိမိ ကာယအဇ္ဈတ္တတွင် ရရှိပေါက်ရောက် ကိုယ်တွေ့မြောက်အောင် ကပ်၍ ဆောင်ထိုက်ပါပေ၏။ ဝိညူဟိ—ပညာရှိ သူတော် ကောင်းတို့သည်၊ ပစ္စတ္တံဝေဒိတဗ္ဗော—ကိုယ်စီကိုယ်ငှ ရရှိ ခံစား ထိုက်လှပါပေ၏၊ တံ—မဂ်လေး ဖိုလ် လေးတန် နိဗ္ဗာန် ပရိယတ် ၁၀-ပါးသော တရားတော်မြတ်ကို၊ အဟံ—တပည့် တော်သည်၊ ဝန္ဒာမိ—သဒ္ဓါရွှင်လန်း ဂုဏ်တော်မှန်းကာ ရှိခိုး ပါ၏ဘုရား။

မေး။ ။သံဃာတော်ကို ဘယ်လို ရှိခိုးရမလဲ။

ဖြေ။ ။သံဃာတော်ကို အောက်ပါဂုဏ်တော်ကိုးပါးနဲ့ ထုတ်ဖော်ချီးကျူးရှိခိုးရမယ်...

သုပ္ပဋိပန္နော ဘဂဝတော သာဝကသံဃော၊ ဥဇုပ္ပဋိ ပန္နော ဘဂဝတော သာဝကသံဃော၊ ဉာယပ္ပဋိပန္နော ဘဂဝတော သာဝကသံဃော၊ သာမီစိပ္ပဋိပန္နော ဘဂဝ တော သာဝကသံဃော၊ ယဒိဒံ စတ္တာရိ ပုရိသယုဂါနိ

အဋ္ဌပုရိသပုဂ္ဂလာ ဧသ ဘဂဝတော သာဝကသံဃော အာဟုနေယျော၊ ပါဟုနေယျော၊ ဒက္ခိဏေယျော၊ အဉ္ဇလိကရဏီယော၊ အနုတ္တရံ ပုညက္ခေတ္တံ လောကဿ။

ဘဂဝတော — မြတ်စွာဘုရား၏၊ သာဝကသံဃော— တပည့်သားဖြစ်သော အရိယာ သံဃာတော်သည်၊ သုပ္ပဋိပန္နော—သုံးမတိုင်းသော ကျင့်သိက္ခာကို ကောင်းစွာကျင့်တော်မူပါပေ၏။ ဘဂဝတော — မြတ်စွာဘုရား၏၊ သာဝကသံဃော—တပည့်သား အရိယာ သံဃာတော်သည်၊ ဥဇုပ္ပဋိပန္နော—ကောက်ကျစ်စဉ်းလဲမှု မရှိဘဲ ဖြောင့်မတ်စွာ ကျင့်ကြံတော်မူပါပေ၏။ ဘဂဝတော—မြတ်စွာဘုရား၏၊ သာဝကသံဃော—တပည့်သားဖြစ်သော အရိယာသံဃာတော် အပေါင်းသည်၊ ဉာယပ္ပဋိပန္နော၊ ချမ်းသာစေမှန်၊ နိဗ္ဗာန် ဆိုက်ရေး အလေးပေးကာ ကျင့်တော်မူအပ်ပါပေ၏။ ဘဂဝတော—မြတ်စွာဘုရား၏၊ သာဝကသံဃော— တပည့်သားဖြစ်သော အရိယာသံဃာတော်အပေါင်းသည်၊ သာမီစိပ္ပဋိပန္နော—လူတို့ပြုသည့် ရိုသေမှုကို ခံယူထိုက်အောင် ကျင့်ကြံတော်မူပါပေ၏။ စတ္တာရိ—လေးပါးကုန်သော၊ ယဒိဒံ ပုရိသယုဂါနိ—အကြင်ပုဂ္ဂိုလ်အစုံတို့သည်၊ အဋ္ဌ—ရှစ်ပါးကုန်သော၊ ပုရိသပုဂ္ဂလာ—မြင့်မြတ်သော ပုဂ္ဂိုလ်အစုံတို့ ပါပေတည်း။ ဘဂဝတော—မြတ်စွာဘုရား၏၊ ဧသ—ဤ သာဝကသံဃော—လေးစုံရှစ်ပါး အရိယာ သံဃာတော်များသည် အာဟုနေယျော—အဝေးမှ သယ်ဆောင်လာခဲ့သည့် ပစ္စည်းကို ခံယူသုံးဆောင်ထိုက်ပါပေ၏။ ပါဟုနေယျော—ရပ်ဝေးဧည့်သည် ရည်ရွယ်မှန်းထား ပစ္စည်းများကို ခံယူခြင်းငှာ ထိုက်ပါပေ၏။ ဒက္ခိဏေယျော— မွန်မွန်မြတ်မြတ် ပေးလှူအပ်သည့် ပစ္စည်း



ကို ခံယူခြင်းငှာ ထိုက်ပါပေ၏။ အဉ္ဇလိကရဏီယော— လက်အုပ်ချီမိုး ရှိခိုးခြင်းကို ခံယူထိုက်သော သီလဂုဏ် သမာဓိဂုဏ် ပညာဂုဏ်တို့နှင့် ပြည့်စုံပါပေ၏၊ လောကဿ—လူအပေါင်း၏ အနုတ္တရံ—အတုမရှိမြတ်သော၊ ပုညက္ခေတ္တံ—ကောင်းမှု ကုသိုလ်ဟူသော မျိုးစေ့ကို စိုက်ပျိုးရာ လယ်ယာမြေကောင်း ကဲ့သို့ ဖြစ်ပါပေ၏။ ဤ—သို့ သုပ္ပဋိပန္နအစရှိသော ဂုဏ်တော် ကိုးပါးနှင့်ပြည့်စုံတော်မူသော အရိယာသံဃာတော်နှင့်တကွ [illegible] သံဃာတော်အပေါင်းကို၊ အဟံ—တပည့်တော်သည်။ [illegible]—ရိုသေမြတ်နိုး လက်အုပ်မိုး၍ ရှိခိုးပူဇော်ပါ၏ ဘုရား။

[illegible]ဂုဏ်တော် ဘုရား ရှိခိုးပြီးတော့ ဗုဒ္ဓဘာသာဝင်များ အလေးအနက်ထားပြီး ဘုရားရှိခိုးကြတာကတော့ အနန္တ ငါးပါး ဘုရားရှိခိုးပဲဖြစ်တယ်။

မေး။ ။ အနန္တငါးပါး ဘုရားရှိခိုးကို ဗုဒ္ဓဘာသာဘိုး [illegible] ဘာကြောင့် နှစ်သက်ကြသလဲ။

ဖြေ။ ။ ဗုဒ္ဓဘာသာတွေဟာ မိဘနဲ့ဆရာသမားကိုဘုရား တရား သံဃာ ရတနာသုံးပါးနဲ့ တစ်တန်းတည်း ထားတယ်။ ဒါပေမယ့် မိဘနဲ့ ဆရာသမားရှိခိုးရမယ်လို့ သီးသန့် ရေးထား တာ မတွေ့ရဘူး။ ဒီအနန္တငါးပါးဘုရားရှိခိုးထဲမှာပဲ မိဘနဲ့ ဆရာအတွက် ရှိခိုးဖို့ပါတယ်။ ပြီးတော့ ဒီအနန္တငါးပါး ဘုရားရှိခိုးက မြန်မာလို ကဗျာလင်္ကာနဲ့ ရေးထားတော့ ကလေးတွေ ကျက်လို့လဲ လွယ်တယ်၊ [illegible] ကြတယ်။ ဒါကြောင့် ဗုဒ္ဓဘာသာဝင်တိုင်းဟာ ငယ်စဉ် ကတည်းက အနန္တငါးပါးဘုရားရှိခိုးကို [illegible]တယ်။ [illegible]တဲ့ ကလေးတွေ ကျက်မှတ်ရှိခိုးနိုင်ဖို့ [illegible] ထိုက်ပါတယ်။

## အနန္တငါးပါး ဘုရားရှိခိုး

(၁) ဗုဒ္ဓဂုဏော၊ အနန္တောဟု၊ ကျော်စောထင်ရှား၊ ပါးရပ်သူ၊ နတ်လူမြဟ္မာ၊ သတ္တဝါကို၊ ဓမ္မာသာ
နိဗ္ဗာန်သောင်သို့၊ ရွှေဖောင်မဂ္ဂင်၊ သဗ္ဗညုတဉာဏ်ဖြင့်၊
ထင် ဆောင်ယူ၊ ပို့တော်မူသည့်၊ နတ်လူတို့ထိပ်ပန်း၊ ရဟန်း
ဆရာ၊ အစိန္တေယျာ မဟာအမိတ။ အနန္တဂုဏ်ဆင်၊ ကျေ
ရှင်ကို။ အဟံ၊ တပည့်တော်သည်။ ဝန္ဒာမိ၊ သဒ္ဓါညွတ်ကျိုး
အလွန်မြတ်နိုးလျက် ရှိခိုးပါ၏ အရှင်ဘုရား။

(၂) ဓမ္မဂုဏော အနန္တောဟု တည်သောကမ္ဘာ သတ္တ
လူနတ် အထပ်ထပ်ကို လေးမြတ်ကြွင်နာ အဝိဇ္ဇာနှင့်
သံယော ကိလေသာမှ ဆေးကြောလုတ်သင် မြှုမတင်စေ
ရှောင်ကြဉ်ပေတတ် တရားတော်မြတ်ကို။ အဟံ၊ တ
တော်သည်။ ဝန္ဒာမိ၊ သဒ္ဓါညွတ်ကျိုး လွန်မြတ်နိုး
ရှိခိုးပါ၏ အရှင်ဘုရား။

(၃) သံဃဂုဏော အနန္တောဟု လောဘ ဒေါသ မော
ကင်းကွာ တဏှာကာမကိလေသနှင့် ရာဂအမိုက် နှစ်ခြိ
မပျော် မမွေ့ပျော်ဘဲ ရှစ်တော်ဟောကြား မြတ်တရား
မှတ်သား ကြည်ညို မဂ်ဖိုလ်နိဗ္ဗာန် ရောက်ကြောင်းမှန်
မြတ်မွန်ထေရ်ကျော် သံဃာတော်တို့ ဂုဏ်တော်ကြီးစွာ
ကို။ အဟံ၊ တပည့်တော်သည်။ ဝန္ဒာမိ၊ သဒ္ဓါရှင်မြူး ဂုဏ်
ရူးလျက် ကြည်နူး ကြည်သာ ငိုခိုးပါ၏ အရှင်ဘုရား။

(၄) မာတာပိတုဂုဏော အနန္တောဟု အပြောကျယ်
သံသရာဝယ် မာတာပိတ မိနှင့်ဘတို့ ကျေးကြည်ကသဏ
ဦးစပင် ချီချဉ်ပွေ့စပ် ရှင်းရှင်းပြတ်အောင် မပြတ်ယုယ
တို့မှာ စိုးရိမ်စွာနှင့် အစာဆိမ့်အေး နို့ချိုပေး၍ ကျေး



မင်း မေးဘရှင်ကို။ အဟံ၊ တပည့်တော်သည်။ ဝန္ဒာမိ၊
ဂုဏ်တော်ရည်ရှူး စိတ်ကြည်နူးလျက် ရှင်မြူးသဒ္ဓါ ရှိခိုးပါ၏
အရှင်ဘုရား။

(၅) အာစရိယဂုဏော အနန္တောဟု မိန့်ဟောအရ
ဆောက်ယူမြဲသော် နယနည်းနာ အမြာမြာကို လိမ်မာစေ
ကြောင်း မေတ္တာဆောင်း၍ မကောင်းကိုကြဉ် ကောင်းက
ကျင့်လျက် နှုတ်မြွက်သံချို ဆုံးမဆိုသား ဆတိုများစွာ သံသ
ရာဝယ် သုံးသွယ်သောကပ် လေးရပ်အပါယ် ရှစ်သွယ်ရပ်
မြစ် ဆိုးညစ်ယုတ်မာ ပယ်စွန့်ခွာ၍ ဓမ္မာဘုံမှ ဘေးမရှိ
သည့် သန္တိသုခ မုချကေန် နိဗ္ဗာန်အရောက် ညွှန်ပြသွန်သင်
ပြင်ပေတတ် ဆရာမြတ်ကို။ အဟံ၊ တပည့်တော်သည်။ ဝန္ဒာမိ၊
စိတ်ကြည်နူးလျက် ရှင်မြူးသဒ္ဓါ ရှိခိုးပါ၏ အရှင်ဘုရား။

## ခင်ကြီးဖျော်၏ ဝါစာအစိန္တေယျ ဘုရားရှိခိုး

ဝါစာဝါစာဝိလာသဂူ-ဝါစာစိန္တေယျသံယုတ္တံ။
ဝန္ဒေသာရဂုဏာပေတံ၊ တေနမှာတုလဝါစကာ။
ဝါစာ ဝါစာ ဝိလာသဂူ ဝါစာ စိန္တေယျ သံယုတ္တံ—
ပကတိသောစကား၊ အလွန်တင့်တယ်သော စကား၊ မကြံ
စည်နိုင်သော စကားနှင့် ပြည့်စုံတော်မူသော၊ သာရဂု
ဏောပေတံ— ကျေးဇူးတော်အစစ် ဂုဏ်တော်အနှစ်နှင့် ပြည့်
စုံတော်မူသော မြတ်စွာဘုရားကို၊ ဝန္ဒေ-ဝန္ဒာမိ—ရှိခိုးပါ၏၊
တေန—ထိုသို့ရှိခိုးရသော ကောင်းမှုကြောင့်၊ အတုလဝါ
စကာ— အတုမရှိသော စကားနှင့် ပြည့်စုံရသည်၊ အမို—
ဖြစ်ရပါလို၏ အရှင်ဘုရား။

မြို့ဆောလွန်-ဝ၅ [ပန္နမအကြိမ်]

## ရှုပအစိန္တေယျ ဘုရားရှိခိုး

ရှူရှုပ ဝိလာသဂ္ဂ–ရှုပါစိန္တေယျ သံယုတ္တံ။
ဝန္ဒေ သာရဂုဏောပေတံ၊ တေနမှာတုလရှုပဝါ။

ရှူရှုပ ဝိလာသဂ္ဂ ရှုပါစိန္တေယျ သံယုတ္တံ– ပကတိသော အဆင်း၊ အလွန်တင့်တယ်သောအဆင်း၊ မြတ်သော အဆင်း၊ မကြံစည်နိုင်သော အဆင်းနှင့် ပြည့်စုံတော်မူသော၊ သာရဂုဏောပေတံ–ကျေးဇူးတော်အစစ် ဂုဏ်တော်နှစ်နှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရားကို၊ "ဝန္ဒေ–ဝန္ဒာမိ"– ရှိခိုး မြတ်နိုး လက်စုံမိုး၍ ရှိခိုးပါ၏ အရှင်ဘုရား၊ တေန– ထို ရှိခိုးရသော ကောင်းမှုကြောင့်၊ အတုလရှုပဝါ– အတုမရှိသော အဆင်းနှင့် ပြည့်စုံရသည်၊ အမှီ–ဖြစ်ရပါလို၏ အရှင်ဘုရား။

## ဉာဏအစိန္တေယျ ဘုရားရှိခိုး

ဉာဏဉာဏဝိလာသဂ္ဂ– ဉာဏာစိန္တေယျ သံယုတ္တံ။
ဝန္ဒေ သာရဂုဏောပေတံ၊ တေနမှာတုလဉာဏဝါ။

ဉာဏဉာဏ ဝိလာသဂ္ဂ ဉာဏာ စိန္တေယျ သံယုတ္တံ– ပကတိသောဉာဏ်၊ အလွန်တင့်တယ်သောဉာဏ်၊ မြတ်သောဉာဏ်၊ မကြံစည်နိုင်သောဉာဏ်နှင့် ပြည့်စုံတော်မူသော၊ သာရဂုဏောပေတံ– ကျေးဇူးတော် အစစ် ဂုဏ်တော်နှစ်နှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရားကို၊ "ဝန္ဒေ–ဝန္ဒာမိ"– ရှိခိုး မြတ်နိုး လက်စုံမိုး၍ ရှိခိုး၊ ကန်တော့ပါ၏ အရှင်ဘုရား၊ တေန–ထိုသို့ ရှိခိုးရသော ကောင်းမှုကြောင့်၊ အတုလဉာဏဝါ– အတုမရှိသော ဉာဏ်နှင့် ပြည့်စုံရသည်၊ အမှီ–ဖြစ်ရပါလို၏ အရှင်ဘုရား။



## ဣဒ္ဓိအစိန္တေယျ ဘုရားရှိခိုး

ဣဒ္ဓိ ဣဒ္ဓိ ဝိလာသဂ္ဂ– ဣဒ္ဓိ စိန္တေယျ သံယုတ္တံ။
ဝန္ဒေ သာရဂုဏောပေတံ၊ တေနမှာတုလဣဒ္ဓိဝါ။

ဣဒ္ဓိ ဣဒ္ဓိ ဝိလာသဂ္ဂ ဣဒ္ဓိ စိန္တေယျ သံယုတ္တံ– ပကတိသော တန်ခိုး၊ အလွန်တင့်တယ်သော တန်ခိုး၊ မြတ်သော တန်ခိုး၊ မကြံစည်နိုင်သော တန်ခိုးနှင့် ပြည့်စုံတော်မူသော သာရဂုဏောပေတံ– ကျေးဇူးတော်အစစ် ဂုဏ်တော်နှစ်နှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရားကို၊ "ဝန္ဒေ– ဝန္ဒာမိ"– ရှိခိုးမြတ်နိုး လက်စုံမိုး၍ ရှိခိုးကန်တော့ပါ၏ အရှင်ဘုရား၊ တေန– ထိုသို့ရှိခိုးရသော ကောင်းမှုကြောင့်၊ အတုလဣဒ္ဓိဝါ– အတုမရှိသော တန်ခိုးနှင့် ပြည့်စုံရသည်၊ အမှီ– ဖြစ်ရပါလို၏ အရှင်ဘုရား။

## ဗုဒ္ဓဝင် ဘုရားရှိခိုး

လယ်တီဆရာတော်ရဲ့ ခုနစ်နေ့ ဘုရားရှိခိုးနဲ့ စင်ကိုင်းကောင်ရှိ၊ မဟာဝိဇ္ဇာဒေယျ ဆရာတော်ဘုရားရဲ့ ဗုဒ္ဓဝင်ဘုရားရှိခိုးနှစ်ပုဒ်ဟာ ဗုဒ္ဓဝင်ကျမ်းကြီးကို အကျဉ်းချုပ် ရေးထားတဲ့ ဘုရားရှိခိုးတွေ ဖြစ်တယ်။ ကျက်မှတ်ရှိခိုးလိုသူတွေအတွက် ထည့်သွင်းဖော်ပြလိုက်ပါတယ်။

### ကျေးဇူးရှင် လယ်တီဆရာတော်ကြီး ရေးသားတော်မူအပ်သော ခုနစ်နေ့ ဘုရားရှိခိုး

၁။ သုံးလူ့ရှင်ပင်၊ ကျွန်ထိပ်ပင်၊ သောင်းခွင်စကြဝဠာ၊ နတ်မြဟ္မာတို့၊ ညီညာရုံးစု၊ ကောင်းပန်မှုကြောင့်၊ ရကုန်ကိုရိ၊ ရှုံးရှုံးရှိသည်၊ ဝါဆို

လပြည့်၊ ကြက်မင်းနေ့ဝယ်၊ ချမ်းမြေ့ကြည်
သန္ဓေယူသည်။ ။
နတ်လူငြိမ်းဖို့ ကိန်းပါကို။ ။(ကြာသပတေး)

၂။ သန္ဓေယူကာ၊ ဆယ်လကြာသော်၊ မဟာသက္က
ခြောက်ဆယ့်ရှစ်ကြို၊ ကဆုန်လပြည့်၊ သော
နေ့ဝယ်၊ ချမ်းမြေ့ရုံစီ၊ လုမ္ဗိနီဥ၊ မဟာ်လိုက်ရာ
တော်မူသည်၊ နတ်လူခံအောင်မြို့ လင်းပါကို။
(သောကြာနေ့)

၃။ ဖွားမြင်မြောက်သော်၊ ဆယ့်ခြောက်နှစ်ရွယ်၊
နယ်ဦး သုံးသွယ်ရွှေနန်း၊ သိမ်းမြန်းပြီးလစ်၊
သုံးနှစ်လျှင်၊ ဘုန်းသစ်လျှံလူ၊ စံတော်မူ၍၊
နပြီး၊ နှစ်ဆယ့်ကိုးဝယ်၊ လေးမျိုးနိမိတ်၊
ဟိတ်ကြောင့်၊ ရွှေစိတ်ငြိမ်ငြိုး၊ သံဝေပိုကာ၊
လပြည့်၊ ကျားမင်းနေ့ဝယ်၊ ချမ်းမြေ့ရပ်ဂုံ၊
ရလို့သည်၊ ရုံမြင်ပင်ရိပ် ခန်းမှာကို။ ။
(တနင်္လာနေ့)

၄။ တောရပ်မြိုင်ပေ၊ ခြောက်နှစ်ပျော်၍၊
တဖုံ၊ ပွင့်ချိန်ကြုံကာ၊ ကဆုန်လပြည့်၊ ဆင်မင်း
ဝယ်၊ မြေ့ပရမေ၊ ပလ္လင်ထွေဆက်၊
တော်ကြီး၊ ဗိတာန်ထီးနှင့်၊ မငြိုးကြည်
တော်မူလျက်၊ ရန်မြူပေပင်။ အမိုက်သ
အရှင်းပယ်ဖျောက်၊ အလင်းပေါက်ကာ
တောက်ဘုန်းတော်၊ သောင်းလုံးကျော်သည်၊
ဖော်လူတို့ ငြိမ်းပါကို။ ။
(ဗုဒ္ဓဟူးနေ့)

၅။ ဘုရားဖြစ်ခါ၊ မိဂဒါဝုံ၊ ကြွချေသွား၊ ဖြန့်ရို
သွား၍၊ ငါးပါးဝဂ္ဂီ၊ ရုံအညီနှင့်၊ မဟီတသောင်း၊
တိုက်အပေါင်းမှ၊ ချောင်းကပ်လာ၊ နတ်ဗြဟ္မာ
အား၊ ဝါဆိုလပြည့်၊ စနေနေ့ဝယ်၊ ကြွေ့ကြွေ့
လျှံတက်၊ ဓမ္မစက်ကို၊ မိန့်မြွက်တွေ့ဖြာ၊ ဟော
ဖော်ကြားသည်၊ တရားနတ်စည် ရွမ်းတယ်ကို။ ။
(စနေနေ့)

၆။ တရားနတ်စည်၊ ဆော်ရွမ်းလည်ကာ၊ သုံးမည်တုံ
သိုက်၊ တစ်သောင်းတိုက်ဝယ်၊ ကျွယ်ထိုက်သသူ၊
နတ်လူဗြဟ္မာ၊ သတ္တဝါကို၊ ခေမာသောင်သို့၊
ဖောင်ကူတို့ဖြင့်၊ ဆောင်ပို့ပြီးကာ၊ ဝါလေးဆယ့်
ငါး၊ သက်ထားရှစ်ဆယ်၊ ရုံပြည့်ကြွယ်ကာ၊ ရာလေး
ဆယ့်ရှစ်၊ သက္ကရာဇ်ဝယ်၊ နယ်မလ္လာတိုင်း၊ စံနိုင်း
မယှဉ်၊ ကုသိနာရုံ၊ အင်ကြင်းရုံ၌၊ ကဆုန်လပြည့်၊
အင်္ဂါနေ့ဝယ်၊ ချမ်းမြေ့နိဗ္ဗူ၊ စံတော်မူသည်၊
ရှန်းလူသောင်းလုံး ကျော်တယ်ကို။ ။
(အင်္ဂါနေ့)

၇။ နိဗ္ဗူစံပြီ၊ ရှမ်းအသီသား၊ သင်္ဂီရွှေလှော်၊ ဓာလေးဝင်း
တော်ကို၊ ထိုရော်ကဆုန်၊ လဆုတ်ကြွ၍၊ ဂမ္ဘုန်
နေ့ဝယ်၊ ဦးငွေမနေ့၊ တော်တေဇောလျှင်၊
ရှင်စေဘုန်ဆက်၊ မီးလျှံချက်ဖြင့်၊ လျှံတက်
တော်ရော်၊ မီးပူဇော်သည်၊ မွေတော်ရှစ်စိတ်
ကြွင်းတယ်ကို။ ။ (တနင်္ဂနွေနေ့)

ဗိမ္ဗာရွှေလျော် မင်းယသော်နှင့် နှစ်ဖော်သက်ဝေ မြနှင့်ရွှေ ဂဟေတော်စပ် ရွှေလက်ထပ်၍ နန်းရပ်ထီးဖြူ သိကြားကျလျှင် စိုးယူပိုင်နှင်း ပွဲစုံခင်းလျက် မင်းမင်းတို့ထီး ဘုန်းမီးနေလ မလျှိုင်သော် မင်း၏အသရေတော်ကို၊ အနုဘဝိတွာန— ဆယ့်သုံးနှစ်မျှ အားရရွှင်ပျော် စံစားတော်မူပြီး၍—

ကျွန်တိ သဝသော—တောထွက်ဖို့ရန် ချိန်တယ်
**တောထွက်** သင့်မြတ် ကရကဋ်ရာသီ ပါရမီဆော်နှိုး အခွယ်
တော် နှစ်ဆယ့်ကိုးသို့၊ ပတ္တေ—တရွှေ့ရွှေ့ကြီး

မြောက် ရောက်တော်မူလတ်သည်ရှိသော်၊ စတုရောနိမိတ္တေ— သူအို၊ သူနာ၊ သူသေတစ်ခန်း ရဟန်းတခြား လေးပါးသော နိမိတ်ကြီးတို့ကို၊ ဒိသွာ—ဉယျာဉ်ကစားရန် ထွက်စံတော်မူစဉ် တွေ့မြင်တော်မူသည် ရှိသော်၊ နိဗ္ဗိန္ဒိတွာန—ထီးတော် နန်းတော် ကြငှန်းတော်၌ မပျော်မမွေ့ ငြီးငွေ့တော်မူလှသည် ဖြစ်၍၊ နိက္ခမန္တွာ—ကိုးဆယ့်ခုနစ်ခု ရတုရွှန်းစို ဝါဆို ပုဏ္ဏမ မျှ ဒိနာ ဆွေကြွင်ရာမှ သည်းချေမျက်၍ ရာဟုဘုန်းဝေ ဖွားသည့် နေ့တွင် မမွေ့နိုင်အောင် ထံဝေဆောင်၍ သန်းခေါင်ကာလ တိုးတိုးမျှနှင့် ဆန္နမတ်ကျော် အပါခေါ်၍ စီးတော်ယာဉ်လှ ကဏ္ဍကနှင့် နန်းမှခွာရှောင် နေ်မဲသောင်သို့ ရောက်အောင် မပျက် ထွက်ကြီးထွက်တော်မူလျက်၊ ပဗ္ဗဇိတွာန—ဘဒ္ဒကမ္ဘာ အလှမျက်ဖျော် ယသော် ကြင်ဆွေ နန်းလုံးမေသည် မှန်ဆွေ သုံးသယ် ထုံးဖွဲ့အပ်သည့် သျှောင်မြတ်ရတနာ ဆံတောသာကို တွယ်တာမထား၊ ပယ်ကာရှားလျက် ထက်ဖျားဖြတ္တာ လွှင့်လာသည့် ရောင်ဝါတင့်ဆန်း ကြာသင်္ကန်းဖြင့် ထီးနန်းမှရာ စွန့်ပစ်ကာလျှင် ကြည်သာရွှင်လန်း တောမြိုင်တန်း၌ ရဟန်းပြုတော်မူပြီး၍—



ဆဗ္ဗဿာနိ—ဥရုဝေလ နာမတင့်ဆန်း
**ဒုက္ကရစရိယာကျင့်** နန်းနှင့်မနီး ထီးနှင့်ဝေးကွာ တောမြိုင်

သာဝယ် သချ်ာတွက်စဉ် ခြောက်နှစ်ပို့ ကာလပတ်လုံး၊ ဒုက္ကရစရိယာနိ—ခန္ဓာညှိုးခွေ ကြေလုမန်းအားကုန်ခန်းအောင် ပင်ပန်းဆင်းရဲ ပြုနိုင်ခဲသည့် လွန်ကဲသော အကျင့်တော်မြတ်တို့ကို၊ စရိတွာန—သွေးသားခန်းခြောက် အသက်ပင်ပျောက် မကြောက်မရွံ့ နောက်မတွန့်ဘဲ သက်စွန့်ကြိုးပမ်း ဖြည့်စွမ်း ကျင့်ကြံတော်မူပြီး၍—

ဗောဓိမဏ္ဍေ— အဝိဇဟိတ ဌာနသာစည်
**ဘုရားဖြစ်** မြေးတည်နှောင်းပျက် အချက်အခေါ
မဂ်လာဘူမိ အတုမရှိသည့် ဗောဓိမဏ္ဍိုင်

မြေဦးကိုင်၌၊ ပဉ္စမာရေ—ဒေဝပုတ္တ စသည်အပြား မာရ်ငါးပါးတို့ကို၊ ဇိတွာန— ပါရမီတော်မြတ် အရဟတ္တမဂ် ဓားသန်လျက်ဖြင့် ပယ်ဖျက် ခုတ်ထွင် သုတ်သင် ရှင်းလင်း အောင်ပွဲခင်းလျက် အောင်သတင်းကြူးကြူး အောင်လံတော်လွှင့်တူပြီး၍၊ ဗုဒ္ဓဘာဝံ— လေးပါးသစ္စာ ပုဒ်အာကို ဆရာမကူ သယမ္ဘူဖြင့် ထူမြူမကျန် မဖောက်ပြန်ဘဲ ဝေဖန်ပိုင်းခြား သိမြင်ကြွားသည့် သုံးပါးလောက မကုဋ္ဌာတိုး အောင်ပွဲမူးတစ်ဆူ နတ်လူတို့မျက်ရစ် ဘုရားရှင်အဖြစ်သို့၊ အဘိသမ္ဗုဒ္ဓော— ရာသုံးခုကြွ ကဆုန်လပြည့် ဆင်မင်းနေ့ဝယ် ကြွေ့ကြွေ့လိုက်ဆူ ရောက်ကြီး ရောက်တော်မူလေပြီ။

တံ ဗုဒ္ဓံ— ဘုရားအဖြစ်သို့ စင်စစ်ပြီးမြောက် ရောက်တော်မူသော ထိုမြတ်စွာဘုရားကို၊ အဟံ — တပည့်တော်သည်၊ ဝန္ဒာမိ — ရှိခိုးမြတ်နိုး လက်စုံမိုး၍ ရှိခိုး ကန်တော့ပါ၏ အရှင်ဘုရား။

## မှတ်ချက်

၁။ ဘုရားရှင်တို့ ပွင့်တော်မူရာ ကမ္ဘာသည် ငါးမျိုးရှိ၏။ ယင်းတို့မှာ (၁) ဘုရားတစ်ဆူပွင့်သော သာရကမ္ဘာ၊ (၂) နှစ်ဆူပွင့်သော မဏ္ဍကမ္ဘာ၊ (၃) သုံးဆူပွင့်သော ဝရကမ္ဘာ၊ (၄) လေးဆူပွင့်သော သာရမဏ္ဍကမ္ဘာ၊ (၅) ငါးဆူပွင့်သော ဘဒ္ဒကမ္ဘာတို့ ဖြစ်ကြ၏။ ဤကမ္ဘာငါးမျိုးကို ဘုရားရှင်တို့ ပွင့်တော်မူရာ ဖြစ်သောကြောင့် အသုညကမ္ဘာဟု ခေါ်သည်။ ဤကမ္ဘာများမှတစ်ပါး ဘုရားရှင်တို့ ပွင့်တော်မမူသော ကမ္ဘာများကို သုညကမ္ဘာများဟု ခေါ်သည်။

အထိုပါ အသုညကမ္ဘာ ငါးမျိုးအနက် ၄-နံပါတ် ဖြစ်သော သာရမဏ္ဍကမ္ဘာကို ရည်ရွယ်၍ "သာရမဏ္ဍကမ္ဘာမ" ဟု ဆိုသည်။ ယင်းသာရမဏ္ဍကမ္ဘာ၌ တဏှင်္ကရာ မေဓင်္ကရာ သရဏင်္ကရာ ဒီပင်္ကရာ ဟု ဘုရားလေးဆူ ပွင့်တော်မူခဲ့၏။ ဤအချက်ကို ရည်ရွယ်၍ "ဘုရားလေးပါးတွင် တစ်ပါးပါဝင်သည့် ဒီပင်္ကရာ မြတ်စွာသနင်း" ဟု ဆိုသည်။

၂။ ပါရမီသုံးဆယ် ရေတွက်ပုံ။ ဒါန၊ သီလ၊ နေက္ခမ၊ ပညာ၊ ဝီရိယ၊ ခန္တီ၊ သစ္စာ၊ အဓိဋ္ဌာန၊ မေတ္တာ၊ ဥပေက္ခာဟူသော ပါရမီဆယ်ပါးကို အယုတ် (အညံ့) စား အလတ်စား အမြတ်စားဟု သုံးမျိုးစီ ခွဲခြားလိုက်သော် ပါရမီ သုံးဆယ်ဖြစ်၏။ ဥပမာ— ဒါနပါရမီ (အညံ့စား)၊ ဒါနဥပပါရမီ (အလတ်စား)၊ ဒါနပရမတ္ထပါရမီ (အမြတ်စား) စသည်ဖြင့် ပွားရာ၏။ ယင်းကို ရည်ရွယ်၍ "အယုတ်၊ အလတ်၊ အမြတ်အားဖြင့် ဘုရားဖြစ်ရန် ရည်သန်ကြီးကျယ် အားထုတ် ပြုကျင့်တော်မူပြီး၍" ဟု ဆိုသည်။



မေး။ ။ဘုရား၊ သို့ဖြစ်လျှင် ရတနာသုံးပါးကို ရပ်ရင်း၊ ထိုင်ရင်း၊ လျှောက်ရင်း ရှိခိုးကောင်းပါသလား။

ဖြေ။ ။အင်္ဂုတ္တိုရ်ပါဠိတော် "ဝန္ဒနာသုတ်"မှာ ရှိခိုးတာဟာ ကိုယ်နဲ့ရှိခိုးခြင်း၊ နှုတ်နဲ့ ရှိခိုးခြင်း၊ စိတ်နဲ့ ရှိခိုးခြင်းဆိုပြီး (၃) မျိုး ရှိတယ်လို့ ဟောတယ်။ အဲဒီ သုံးမျိုးထဲမှာ ကိုယ်နဲ့ ရှိခိုးတယ်ဆိုတာက ဘုရားရှင်ကို ရိုသေ လေးစားကြောင်း ပြုမူ ဆည်းကပ်ကြောင်းကို ကိုယ်ခန္ဓာနဲ့ ပြသတာဖြစ်တဲ့ အတွက် ထိုင်ရင်း လမ်းလျှောက်ရင်း လက်အုပ်ချီ ရှိခိုးမယ် ဆိုရင် ရိုသေမှု သဘောနည်းတဲ့အတွက် ထိုင်ရင်း လမ်းလျှောက်ရင်း ကိုယ်နဲ့ ရှိမခိုးသင့်ပါဘူး။ မတ်တတ်ရပ်လျက် လက်အုပ်ချီပြီး ထိုင်လျက် ဦးချပြီး ကိုယ်နဲ့ ရှိခိုးရပါမယ်။

ဂုဏ်တော်တွေကို နှုတ်နဲ့ရွတ်ဆို ပူဇော်တာကို နှုတ်နဲ့ ရှိခိုးတယ်လို့ ခေါ်တယ်။ ဂုဏ်တော်တွေကို စိတ်ထဲမှာ အောက်မေ့ လေးစားနေတာကို စိတ်နဲ့ ရှိခိုးတာလို့ ခေါ်တယ်။ နှုတ်နဲ့ စိတ်နဲ့ ရှိခိုးတာကိုတော့ ရပ်ရင်း၊ ထိုင်ရင်း၊ သွားရင်း၊ အိပ်လျှောက်ရင်း ဣရိယာပုထ် လေးပါးစလုံးမှာ အချိန်မရွေး လုပ်လို့ ရပါတယ်။ ဒါကြောင့် အာဠာနာဋိယ ပရိတ်ကို စီရင် ပေးတဲ့ ရှေးဆရာတော်ကြီးတွေက....

ဝစသာ မနသာ စေဝ၊ ဝန္ဒာ မေ တေ တထာ
ဂတေ။

သယနေ အာသနေ ဌာနေ၊ ဂမနေ စာပိ သဗ္ဗဒါ။

လျောင်းထိုင်ရပ်သွား အခါခပ်သိမ်း ထိုဘုရားရှင်တွေကို နှုတ်နဲ့ စိတ်နဲ့ ရှိခိုးပါ၏လို့ ပြထားပါတယ်။

....၀....

# (၉)

## ဆွမ်း ရေချမ်း ဆီမီး ကပ်လှူခြင်း

မေး။ ။ဗုဒ္ဓဘာသာတွေရဲ့ နေ့စဉ်လုပ်ငန်းမှာ ဘုရား ရှိခိုးပြီး ဘာလုပ်ပါသလဲ။

ဖြေ။ ဘုရားရှင်ရဲ့ ဂုဏ်တော်တွေကို ရွတ်ဖတ်ပူဇော် ရှိခိုးပြီးတဲ့အခါ မနက်စောစော အရုဏ် တက် ချိန် ဆို ရင် ဆွမ်း ရေ ချမ်း ပန်းနဲ့ ဆီမီး ကပ်လှူ ပူဇော်ပါတယ်။ ညအချိန် ရောက်ရင် ဘုရားရှိခိုးပြီးရင်တော့ ပန်း ဆီမီးနဲ့ ရေချမ်းပဲ ဆက် ကပ်ပါတယ်။

မေး။ ။ရုပ်ပွား ဆင်းတုတော်နဲ့ စေတီတော်တွေဟာ ဆွမ်း ထမင်းနဲ့ ရေချမ်းတွေကို တကယ် မဘုဉ်းပေး မသုံး ဆောင်တဲ့ ဘာကြောင့် လှူဒါန်း ဆက်ကပ် နေကြပါသလဲ။

ဖြေ။ ။ရုပ်ပွား ဆင်းတုတော်တွေနဲ့ စေတီတော်တွေ ဟာ လူတွေ ဆက်ကပ် ပူဇော်တဲ့ ဆွမ်း ထမင်း ရေချမ်း တွေကို တကယ် မသုံးဆောင်တာ မှန်ပါတယ်။ ဗုဒ္ဓဘာသာ ဝင်တွေကလဲ ရုပ်ပွား ဆင်းတုတော်တွေနဲ့ စေတီတော်ကို ဆက်ကပ် လှူဒါန်းတာ မဟုတ်ပါဘူး။ အဲဒီ ရုပ်ပွားဆင်းတု တော်တွေက ကိုယ်စား ပြုထားတဲ့ သက်တော် ထင်ရှား



ဘုရားရှင်ကို ရည်မှန်း ဆက်ကပ်ခြင်းသာ ဖြစ်ပါတယ်။ သက်တော်ထင်ရှား ဘုရားရှင်ကို ရည်မှန်း ကိုးကွယ်ဆည်း ကပ်မှုဟာ ဗုဒ္ဓဘာသာရဲ့ ဖြစ်သလို သက်တော် ထင်ရှား ဘုရားရှင်ကို ရည်မှန်းဆက်ကပ်တဲ့ ဆွမ်း ရေချမ်း အလှူဟာလဲ အလှူဒါနမြောက်ပါတယ်။ ဒါကြောင့် ဗုဒ္ဓဘာသာတွေဟာ ဆွမ်းတော်တင်ကြခြင်း ဖြစ်ပါတယ်။

မေး။ ။ဘုရား ဆွမ်းတော်တင်တဲ့ အစဉ်အလာဟာ ပိဋကတ် ထဲမှာ ပါရှိပါသလား။

ဖြေ။ ။ဘုရားရှင်ကို ဆွမ်းတော် ရေတော်ကပ်တာနဲ့ ပတ်သက်လို့ ပိဋကတ်ပါဠိတော်မှာ မတွေ့ရပါဘူး။ ပရိ နိဗ္ဗာန်စံပြီးတဲ့ ဘုရားရှင်ကို ရည်စူး၍ ဓာတုစေတီ စသည်ကို ပန်းနံ့သာ မီး ပန်းနဲ့ ပူဇော်တာဟာ ဘုရားရှင်ကို ပူဇော်ရာ ရောက်တယ်လို့ အင်္ဂုတ္တိုရ်အဋ္ဌကထာမှာ ဖွင့်ပြထားပါတယ်။ တိဿနေ့ နိဗ္ဗုတေစာပိ၊ သမေစိတ္တေ သမံ ဖလံ=သက်တော် ထင်ရှား ဘုရားရှင်နဲ့ ပရိနိဗ္ဗာန်စံပြီး ဘုရားရှင်ကို ထပ်တူ ထပ်မျှ ကြည်ညိုလေးစားတဲ့ စိတ်စေတနာနဲ့ ပြုလုပ်တဲ့ ကုသိုလ် ကောင်းမှုဟာ တူမျှတဲ့ အကျိုးကို ပေးတယ်လို့ ဝိမာနဝတ္ထု ပါဠိတော်မှာလဲ ပြဆိုထားပါတယ်။

မေး။ ။ဘုရားရှင်ဟာ ပရိနိဗ္ဗာန် စံသွားတာ မှန်ရင် ပူဇော်မှုကို မသာယာနိုင်၊ မသာယာသော ဘုရားရှင်အား ပြုအပ်သော ကုသိုလ်သည် အကျိုးတစ်စုံတစ်ရာ မရနိုင်ဘူး လို့ တိတ္ထိတွေက ပြောနေကြပါတယ်။ ဒီပြဿနာကိုဖြေရှင်း ပေးပါလို့ မိလိန္ဒမင်းကြီးက ရှင်နာဂသိန်ကို မေးတယ်။

ဖြေ။ ။ရှင်နာဂသိန်က မင်းကြီး၊ ဘုရားရှင်ဟာ သက် တော်ထင်ရှားရှိစဉ်ကပင် ပူဇော်မှုတွေကို မသာယာဘူး။

ဗောဓိပင်နဲ့ ရွှေပလ္လင်မှာကတည်းက သာယာတပ်မက်မှုကို ပယ်စွန့်ခဲ့ပြီးပြီ။ အခု ပရိနိဗ္ဗာန်စံသွားပြီးမှဆိုတော့ သာယာတပ်မက်မှုဟာ ပိုဝေးသာပေါ့။ မသာယာတည်သာဖြစ်တဲ့ မြတ်စွာဘုရားရဲ့ ဓာတ်တော်တွေကို တည်မှီရာပြုပြီး ဘုရားရှင် ဉာဏ်တော်ရတနာကို အာရုံပြုကာ ကုသိုလ်ကောင်းမှုပြုခြင်းဖြင့် လူ နတ် နိဗ္ဗာန် သုံးတန်သော ချမ်းသာကို ရရှိနိုင်ပါတယ်။

ဥပမာပြရရင် တောက်လောင်နေတဲ့ မီးပုံကြီးဟာ မြက်ထင်း စတဲ့ လောင်စာတွေကိုမသာယာပါဘူး။ မသာယာတဲ့ မီးပုံကြီးကို မြက်ထင်းစတဲ့ လောင်စာတွေကို ထည့်ပြီး အဲဒီ မီးတောက်နဲ့ ထမင်းဟင်း စသည် ချက်ပြုတ်ကာ အကျိုးရှိအောင် လုပ်နိုင်ကြသလို မသာယာတဲ့ ဘုရားရှင်မှာ ပြုလုပ်တဲ့ ပူဇော်မှုဟာလဲ အကျိုးရှိနိုင်ပါတယ်။

နန္ဒကဘီလူးဟာ ရှင်သာရိပုတ္တရာကို ပြစ်မှားတယ်။ ရှင်သာရိပုတ္တရာက စိတ်မဆိုးဘူး။ ဒါပေမယ့် နန္ဒကဘီလူးဟာ မြေမျိုခံရတယ်။ ဒီလို မြေမျိုခံရတာကိုလဲ ရှင်သာရိပုတ္တရာက ဝမ်းမသာဘူး။ နန္ဒကဘီလူး မြေမျိုခံရတာဟာ အပြစ်မှားခံရတဲ့ ရှင်သာရိပုတ္တရာရဲ့ သာယာမှု မသာယာမှု အပေါ် တည်တာမဟုတ်ဘူး။ ပြုလုပ်တဲ့သူရဲ့ စေတနာပေါ်မှာသာ တည်တယ်။ နန္ဒကဘီလူး စေတနာမကောင်းတော့ မကောင်းတဲ့ အကျိုး ရရှိသလိုပဲ၊ မသာယာတဲ့ဘုရားရှင်မှာ ပြုတဲ့ ပူဇော်မှုကောင်းမှုကုသိုလ်ဟာလဲ လူ နတ် နိဗ္ဗာန်သုံးတန်သော ချမ်းသာအကျိုးကို ခံစားရမယ်လို့ ရှင်နာဂသိန်ဖြေဟာပါတယ်။ အဲဒီအချက်ကို ကြည့်ရင် ဆင်းတုစေတီတော်မှာ ဆွမ်း ရေချမ်းကပ်လှူတာဟာ ဘုရားရှင်သုံးဆောင်သည်ဖြစ်



စေ၊ မသုံးဆောင်သည်ဖြစ်စေ ဆက်ကပ် လှူဒါန်းတဲ့သူရဲ့ စေတနာဟာ ထက်သန်ရင့်သန်သလောက် အကျိုးကို ရရှိခံစားနိုင်တယ်လို့ ယုံကြည်နိုင်ပါတယ်။

မေး။ ။ဘုရားကို ဆွမ်းတော် ရေတော်ကပ်တဲ့ အစဉ်အလာဟာ ဘယ်တုန်းက စခဲ့သလဲ။

ဖြေ။ အထက်ပုစ္ဆာမှာ ဖြေဆိုခဲ့တဲ့အတိုင်း ဘုရားရှင်ကို ဆွမ်း၊ ရေချမ်း စသည်နဲ့ ပူဇော်တဲ့ အလေ့အကျင့်ဟာ မိလိန္ဒပဉ္ဟာကျမ်းမရေးခင်က ရှိနေတယ်လို့ ယူဆနိုင်တယ်။ မိလိန္ဒပဉ္ဟာကျမ်းကို သာသနာတော် သက္ကရာဇ် ၅၀၀ (ခရစ်နှစ်မတိုင်မီ နှစ် ၁၀၀)ခန့်က ပြုစုခဲ့တယ်။

ဘာသာ ကိုးကွယ်မှုသမိုင်းကို ပြန်ကြည့်တဲ့အခါ ကမ္ဘာ့အစောဆုံး ဘာသာရေးဖြစ်တဲ့ နတ်ကိုးကွယ်မှုမှာ နတ်တွေကို ထမင်း၊ ဟင်း၊ စားသောက်ဖွယ် အရက်သေစာတွေနဲ့ ပူဇော် ပသခဲ့တာကို တွေ့ရတယ်။ သုဇာတာသူဌေးသမီးရဲ့ ဃနာနို့ဆွမ်းဟာ ဘုရားရှင်အတွက် ချက်လုပ်စီမံတာမဟုတ်တဲ့ ညောင်ပင်စောင့် ရုက္ခစိုးနတ်မင်းကြီးအတွက် ပူဇော်ပသတာ ဖြစ်တယ်။ ဘုရားရှင်မပွင့်မီ ဝေဒခေတ်မှာ ဗြာဟ္မဏပုဏ္ဏားတွေဟာ ကျွဲ၊ နွား၊ ဆိတ်၊ ကြက်၊ ဝက် စတဲ့ သတ္တဝါတွေကိုသတ်ပြီး ယဇ်ပူဇော်နေကြတယ်၊ ဝေဒလေးပုံမှာပါတဲ့ ယဇုဝေဒဟာ ယဇ်ပူဇော်နည်းတွေကို ပြတဲ့ ကျမ်းဖြစ်တယ်။ နတ်ကိုးကွယ်မှု၊ ဗြာဟ္မဏတွေရဲ့ ယဇ်ပူဇော်မှုကို အတုယူပြီး ဘုရားဆင်းတုတော်စေတီတော်ကို ဆွမ်း၊ ရေချမ်း ဆက်ကပ်မှုဟာ ဗုဒ္ဓဘာသာ အစပိုင်းလောက်တုန်းကတည်းက ရှိခဲ့မယ်လို့ ယူဆနိုင်တယ်။

ပြီးတော့ ဗုဒ္ဓဘာသာတွေဟာ သံဃာတော်တွေကို ဆွမ်းကပ်ရတယ်။ ဆွမ်းကပ်တော့ ပါဠိတော်တွေမှာ ဗုဒ္ဓပမုခ သံဃာ=ဘုရားအမှူးရှိတဲ့ သံဃာတွေကို ဆွမ်းဆက်ကပ်တယ်လို့ ပါတဲ့အတွက် သံဃာတော်တွေ ဆွမ်းကပ်တဲ့အခါမှာလဲ သက်တော်ထင်ရှား ဘုရားရှင်လို ရည်မှန်းပြီး ဆွမ်း၊ ရေချမ်း ဆက်ကပ်တဲ့ အစဉ်အလာဟာ ဘုရား ပရိနိဗ္ဗာန်စံပြီးစက စတင် လာခဲ့တယ်လို့ ယူဆရပါတယ်။

မြန်မာနိုင်ငံမှာတော့ ထေရဝါဒသာသနာ မထွန်းကားမီ တောင်သူကြီးမင်းခေါ် ပုပ္ပားစောရဟန်းမင်း လက်ထက် ဘုရားမယည်၊ နတ်မယည် ရုပ်တုကြီးကို ထုလုပ် ကိုးကွယ်ပြီး ညနေ နံနက် အစားအစာနဲ့ အရက်သေစာတွေ ပူဇော်တယ်လို့ တွေ့ရတော့ အရည်းကြီးသာသနာမှာလဲ ဆွမ်းတော်ကပ်တဲ့ အစဉ်အလာရှိပြီးလို့ ယူဆရတယ်။ မနူဟာမင်း ခံတွင်းက မီးတောက်နေတာကို ဆွမ်းတော်စွန့်ပြီးအစာတွေ မကျွေးခြင်းဖြင့် ဘုန်းနိမ့်အောင် လုပ်ခဲ့တယ်ဆိုတော့ ထေရဝါဒ ဗုဒ္ဓဘာသာအစကပင် ဆွမ်းတော်ကပ်တဲ့ အစဉ်အလာရှိခဲ့တယ်လို့ ယူဆနိုင်တယ်။

မေး။ ။ဘုရားရှင်ကို ဆွမ်းရေချမ်းကပ်လှူတဲ့အကြောင်း အဋ္ဌကထာတွေမှာ ပြပါသလား။

ဖြေ။ ။ပြပါတယ်။ ဥပရိပဏ္ဏာသ အဋ္ဌကထာမှာ ဘုရားရှင် ပရိနိဗ္ဗာန်စံပြီးတဲ့နောက် ဘုရားအမှူးရှိသော သံဃာတော်အား ဆွမ်းကပ်လို့ ရပါသလားလို့မေးပြီး "ရပါတယ်။ ဓာတုကိုခင်းပြီး ဆင်းတုတော်ကိုချကာ ရဟန်းတော်တွေ ဆွမ်းမကပ်ခင် ဘုရားရှင်ကို ဆွမ်းတစ်ပွဲကပ်ရမယ်။ ပြီးမှ သံဃာတော်ကို ကပ်ရမယ်လို့ ပြထားပါတယ်။ အဲဒီဆွမ်းပွဲကို ဘုရား



းတူး စေတီ၊ ဝတ်ကြီးဝတ်ငယ်ပြုရတဲ့ ရဟန်းရှိရင် အဲဒီ ဟန်းကို ကပ်ရမယ်၊ မရှိဘူးဆိုရင် သံဃာတော်တွေကို ပြန် ပ်နိုင်တယ်" လို့ ပြထားတယ်။

ဝိနည်းမဟာဝါ စီဝရက္ခန္ဓက အဋ္ဌကထာမှာ စေတီရုပ် ပွားတော်ရှေ့မှာ ဆွမ်းထည့်ထားပြီး ဘုရားရှင်တို့အား န်းပါ ဖြေလှူရမယ်။ လှူပြီးတဲ့ဆွမ်းတော်ပွဲကိုဘုရား ဝတ်ကြီး ဝတ်ငယ်ပြုတဲ့ရဟန်းက စားနိုင်တယ်။ အမြဲဝတ် ပြုသူ မရှိရင် တံမြက်လှဲခြင်းစတဲ့ ဝတ်တစ်ခုခုကို ပြုလုပ်ပြီး ဆွမ်းတော်ပွဲကို စားနိုင်တယ်လို့ ပြထားတယ်။

ဒီဃအဋ္ဌကထာ ၂-၁၁၈ စေတီ၊ ရုပ်ပွားတော်ကို ဆွမ်း တော် တင်ကောင်းတယ်။ ဆွမ်းတော်ပွဲကျကို ဝတ်တစ်ခုခုပြု ပြီး စားကောင်းတယ်လို့ မှတ်ပါ။

မေး။ ။ဆွမ်းတော် တင်တဲ့အခါ အချို့ ဗုဒ္ဓဘာသာ တွေဟာ ဟင်းနဲ့မတင်ဘဲ ဘာ့ကြောင့် သစ်သီး၊ အချိုအချဉ် တွေနဲ့သာ တင်သလဲ။ သားငါး ဟင်းတွေနဲ့တင်ရင် အပြစ် ရှိပါသလား။

ဖြေ။ ။သားငါး ဟင်းတွေနဲ့တင်လို့ အပြစ်မရှိပါဘူး။ တင်ကောင်းပါတယ်။ ဘုရားရှင်ဟာ သက်တော် ထင်ရှား ရှိစဉ်က သားငါး ဟင်းလျာတွေကို ဘုဉ်းပေး သုံးဆောင် ပါတယ်။ ရဟန်းတွေကိုလဲ ထူးခြားတဲ့ အသား (၁၀)မျိုးက လွဲရင် ကျန် အသားဟင်းတွေကို ဘုဉ်းပေးသုံးဆောင်ဖို့ ခွင့် ပြုခဲ့ပါတယ်။ ဒါပေမယ့် ဟိန္ဒူဗြာဟ္မဏတွေရဲ့ အသက်သတ်

လွတ် စားတော်နေ့ဟာ ဗုဒ္ဓဘာသာ မြန်မာလူမျိုးတွေဆီ ... ကလာတယ်။ သက်သတ်လွတ် စားရာက သက်သတ်... ဆွမ်းတော်တင်မှု အစဉ်အလာ ဖြစ်လာခဲ့တယ်။

သက်သတ်လွတ် ဆွမ်းတော်တင်တဲ့ အခြား အကြောင်း... တစ်ခုကတော့ ဗုဒ္ဓမပွင့်မီနဲ့ ဗုဒ္ဓခေတ်မှာ အချို့ ပြ... တွေဟာ ကျွဲ၊ နွား၊ ကြက်၊ ဝက်၊ ဆိတ်စတဲ့ သတ္တဝါ... ရာနဲ့ထောင်နဲ့ချီသတ်ပြီး ယဇ်ပူဇော်ပွဲကြီးတွေ (အလှူ... တွေ) ပေးနေကြတယ်။ ဒါကို ဘုရားရှင်က အကြီးအကျယ် ရှုတ်ချ ဟောပြောခဲ့တယ်။ ဒီလို သားကောင်တွေကို အစု... စေယ်ရှယ်သတ်ပြီး ပြုလုပ်တဲ့ ယဇ်ပူဇော်ပွဲသဘော... ဆောက်သွားမှာစိုးလို့ သက်သတ်လွတ်ဆွမ်းတော်တင်ကြတာ ဖြစ်ပါတယ်။ ဘုရားကိုးဆူ ပူဇော်ပွဲတွေနဲ့ ရုပ်ကျက်တစ်... စုလုပ်ကြတဲ့ ဆွမ်းတော်ကြီးတင် ပွဲတော်တွေမှာလဲ ယဇ်... ဇော်ပွဲ ဆန်သွားမှာစိုးလို့ သက်သတ်လွတ် မုန့်နဲ့ အသီး... တွေကို တင်ကြတာ ဖြစ်ပါတယ်။

ဆွမ်းတော်ပွဲအတွက် ကြက်ဘဲကောင်လုံးကြော်မျိုး၊ ... သန့် စီမံတာမဟုတ်တဲ့ နေ့စဉ် စားဦးစားဖျား တင်တဲ့အခါ မှာတော့ အသားငါး ဟင်းတွေနဲ့ တင်နိုင်ပါတယ်။ အသား ငါးနဲ့ တင်တဲ့ လူတွေလဲ အများပဲ ရှိကြပါတယ်။

မေး။ ။ရုပ်ပွား ဆင်းတုတော်တွေ စေတီတော်တွေကို ဆွမ်းတော်တင်၊ ရေချမ်းကပ်လို့ အကျိုးတစ်စုံတစ်ရာ ရနိုင် ပါသလား။

ဖြေ။ ။ရနိုင်ပါတယ်။ အနုသိပ္ပံခေတ် ရုပ်ဝါဒီတွေ အမြင်မှာတော့ ရုပ်ပွားဆင်းတု စေတီတွေရှေ့မှာ ဆွမ်း...



...တော် ရေတော် တင်လှူထားတာဟာ အဓိပ္ပာယ် မရှိဘူးလို့ ...နေတတ်ကြတယ်။ ဆွမ်းတော်တင်တယ် ရေချမ်းကပ်တယ် ...တာက အလှူဒါနပြုခြင်းပေါ့။ အလှူဒါန ဆိုတာက အလှူခံ ...လက စားသုံးတယ် မစားသုံးဘူးပေါ်မှာ အခြေမခံ ...ဘူး၊ အလှူရှင်ရဲ့ ပေးလှူတဲ့ စေတနာဟာ အဓိကပေါ့။ ဒီဒါန ...စေတနာဟာလဲ ပေးလှူသော ပစ္စည်းဝတ္ထုပေါ်မှာ တွယ်တာ ...မက်နေတဲ့ လောဘကို တိုက်ဖျက်ခြင်းသဘောသာ ဖြစ်ပါ ...တယ်။ ဘုန်းကြီးတစ်ပါးကို သင်္ကန်းလှူရာမှာ ဒီဘုန်းကြီးက ...သင်္ကန်းကိုဝတ်မှ အလှူမြောက်တာ မဟုတ်ပါဘူး။ သေတ္တာထဲ ...ပဲ သိမ်းထားထား အခြားသူ တစ်ယောက်ကိုပဲ ပေးပေး ...လှူတဲ့ လူအဖို့တော့ ဒါနကုသိုလ်ရသလို ရုပ်ပွားတော်က ...ဆောင်ပေးမယ့် တပ်မက် စွဲလမ်းမှုတဏှာကို ချိုးနှိမ်ပြီး ...လှူတတ်ပြီး ဖြစ်တဲ့အတွက် ဒါန ကုသိုလ်ဖြစ်တယ်လို့ မှတ်နိုင် ...တယ်။

အလှူဒါနရဲ့ အင်္ဂါ ၄-ပါးမှာ ပေးလှူလိုတဲ့လူရဲ့ စေတနာ၊ ...လှူစရာ ပစ္စည်းဝတ္ထု၊ ထိုပစ္စည်းကို အလှူခံမည့် အလှူခံ ...ပုဂ္ဂိုလ်၊ တကယ်ပေးလှူခြင်း၊ ဒီလေးပါး ပြည့်စုံရင် အလှူ ...မြောက်ပါတယ်။ အခု ဆွမ်းတော် ရေတော်ကပ်ရာမှာလဲ ...လေးပါးစုံတဲ့အတွက် အလှူဒါနမြောက်ပြီး လူနတ် နိဗ္ဗာန် ...ချမ်းသာ အကျိုးတရားတွေကို ရနိုင်တယ်လို့ ယုံကြည်ပြီး ...ဆွမ်းရေချမ်း လှူဒါန်းနိုင်ကြပါစေ။

မေး။ ။ဆွမ်းတော်တင်ပြီး ပြန်ချတဲ့ ဆွမ်း[illegible] ...တွေကို စားရင် ဘုန်းနိမ့်တယ်ဆိုတာ မှန်ပါသလား။

ဖြေ။ ။ဆွမ်းတော်တင်ပြီးသား စားရင် ဘုန်းနိမ့်တယ် ...ဆိုတာ မဟုတ်ပါဘူး။ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာမှာလဲ

အခိုင်အမာ မတွေ့ရပါဘူး။ ဒါပေမယ့် ဆွမ်းတော်တင် ဖြစ်ဖြစ်၊ အခြား ဘုရားပိုင်ပစ္စည်း တစ်ခုခုကိုပဲ ဖြစ်ဖြစ် လှူတိုင်းတော့ အလွယ်တကူ ယူငင်စားသုံးလို့ မရပါဘူး။ ဘုရားကျောင်းဆောင်၊ ဘုရားဝင်း၊ ရင်ပြင်တော် စသည်မှာ တံမြက်လှည်းခြင်းစတဲ့ ဗုဒ္ဓဝေယျာဝစ္စ တစ်ခုခုကို လုပ်ပြီးသာ ဘုရားလှူထားတဲ့ ပစ္စည်းကို စားရမယ်။ သုံးရမယ်။ တကယ်လို့ ရဟန်းတစ်ပါး၊ ဥပုသ်စောင့်တဲ့ လူတစ်ယောက်ဟာ မွန်းတည့်ခါနီးမှာ ဘုရားလှူထားတဲ့ ဆွမ်း၊ သစ်သီး စားဖို့ကြုံနေရင် တံမြက်စည်းလှည်းပြီးမှ စားမယ် ဆိုရင် မွန်းလွဲ သွားမယ်ဆိုရင် ဆွမ်း၊ သစ်သီးကိုစားပြီးမှ ဗုဒ္ဓဝေယျာဝစ္စကို ပြုပါမယ်လို့ စိတ်မှာ နှလုံးသွင်းပြီးမှ စားမယ်။ စားပြီးတော့လဲ ဗုဒ္ဓဝေယျာဝစ္စကို လုပ်ရမယ်လို့ အဋ္ဌကထာမှာ ဘုရားပစ္စည်း စားသုံးနည်းကို ဖွင့်ပြထားပါတယ်။

ဒီအဋ္ဌကထာ အဖွင့်ကိုကြည့်ရင် ဘုရားပစ္စည်းကို လွတ်လို့ မစားသုံးကောင်းဘူး။ ဗုဒ္ဓဝေယျာဝစ္စ တစ်ခုခုကို လုပ်ပြီး စားသုံးကောင်းတယ်လို့ မှတ်နိုင်ပါတယ်။ ဘုန်းကြီးပစ္စည်း ကျောင်းပစ္စည်း ထိုနည်းလည်းကောင်းပါပဲ။

ဘုန်းနိမ့်တယ်ဆိုတဲ့ အယူအဆကတော့ ရာဇဝင်အရ သထုံ မနူဟာမင်းကို အနော်ရထာမင်းစော ခေါ်ဆောင် ဖမ်းဆီးလာပြီးနောက် မနူဟာမင်း စကား ပြောတဲ့အခါ အာခံတွင်းက မီးတောက်မီးလျှံ ထွက်နေတယ်။ အာဏာစက် ရှိနေတယ်။ ဒါကြောင့် အာဏာစက် ညှိုးသွားအောင် ဘုရားဆွမ်းတော်တင်ကို ကျွေးပြီးတော့ ကျွေးတော့မှ အာခံတွင်းက မီးတောက်များ ပျောက်သွားတယ်၊ အာဏာစက်



ညှိုးသွားတယ်လို့ ဆိုတယ်။ ဒီရာဇဝင် စကားအရ ဆွမ်းတော်တင်စားရင် ဘုန်းနိမ့်တယ်လို့ ခပြောစမှတ် ပြုနေကြတာပဲ ဖြစ်တယ်။

မေး။ ။ဗုဒ္ဓရဲ့ ဝက်ပျို့သားဟင်းကို ဘုရားရှင် ဘုဉ်းပေးပြီးတဲ့အခါမှာ ဘုရားရှင်က ဘယ်သူမှ မစားစေဘဲ မြေထဲတူးမြှုပ်ဖို့ အမိန့်ရှိတာဟာ ဘုရားရှင် စားပြီးသား အခြားပုဂ္ဂိုလ် မစားကောင်းဘူးလို့ ဆိုလိုတာ မဟုတ်ဘူးလား။

ဖြေ။ ။မဟုတ်ပါဘူး။ ဘုရားရှင် စားပြီးသား အခြားလူ မစားကောင်းလို့ မဟုတ်ပါဘူး။ ဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူခါနီးတဲ့အခါ နောက်ဆုံး ဘုဉ်းပေးတဲ့ ဆွမ်းဖြစ်တဲ့အတွက် နတ်တွေက နတ်ဩဇာတွေ ထည့်ထားပါတယ်။ နတ်ဩဇာတွေပါတဲ့ အာဟာရကို ရဟန်းရှင်များ လူများ စားသုံးခဲ့ရင် အစာကြေနိုင်ဖို့ မရှိပါဘူး။ ဒါကို သိတော်မူတဲ့ ဘုရားရှင်က ကျန်တဲ့ဟင်းတွေ အားလုံးကို မြေကျင်းထဲ တူးမြှုပ်ခိုင်းတာ ဖြစ်ပါတယ်။ တချို့က ဘုရားရှင် စားပြီးသားကို အခြားသူတွေ မစားကောင်းလို့ မြေထဲ တူးမြှုပ်ခိုင်းတာ ဖြစ်တယ်။ ဒါကြောင့် ဆွမ်းတော်တင်တာ ဘုရားရှင် စားပြီးသား ဖြစ်လို့ မစားကောင်းဘူးလို့ ပြောဆိုကြပါတယ်။ ဘုရားရှင်ရဲ့ အလိုတော်အရ နတ်ဩဇာတွေကြောင့် မကြေညက်မှာ စိုးလို့ ဆိုတာကို သေသေချာချာ မသိကြလို့ ဖြစ်ပါတယ်။ ယခု ဆွမ်းတော်ပွဲတွေကိုတော့ ဘုရားရှင် ကိုယ်တိုင်ကလဲ စားသုံးတာ မဟုတ်လို့ နတ်ဩဇာတွေ ထည့်ဖို့လဲ မရှိပါဘူး။

ဒါကြောင့် အင်္ဂုတ္တရဆရာ အဖွင့်အတိုင်း ဗုဒ္ဓဝေယျာဝစ္စ တစ်ခုခု ပြုလုပ်ပြီး စားကောင်းတယ်လို့ ယူဆသင့်ပါတယ်။

မေး။ ။ကိုယ်တင်တဲ့ ဆွမ်းတော်ပွဲကို ကိုယ်ပြန်ပြီး စားတာဟာ ကောင်းသလား။မစားတာက ကောင်းသလား။

ဖြေ။ ။ကိုယ့်ဆွမ်းတော် ကိုယ်ပြန်စွန့်ပြီး မစားတာ ကောင်းပါတယ်။ စားရင် ဘုန်းနိမ့်မှာစိုးလို့ မဟုတ်ပါဘူး၊ ပရိစ္စာဂလက္ခဏာ ဒါန-အလှူဒါနဆိုတာ လှူဖွယ်ဝတ္ထုကို နှမြောတွယ်တာမှု ငဲ့ကွက်မှု မရှိဘဲ လွှတ်လွှတ် စွန့်ကြဲလှူဒါန်းခြင်း လက္ခဏာရှိရတယ်။ ဆွမ်းတော် တင်တယ်ဆိုတာ နာမည်လောက်ပဲ၊ ပြီးတော့ ငါပဲစွန့် စားမှာပဲဆိုတဲ့ သဘော ဝင်ရောက်လာတတ်တယ်။ဒီအခါမှာ ကိုယ်တင်တဲ့ ဆွမ်းတော် လှူဖွယ်ကို လုံးဝ အာလယာဖြတ် မစွန့်လွှတ်နိုင်တဲ့အတွက် ဒါန အမြတ်စား မဖြစ်နိုင်ဘူး။

လုံးဝ လွှတ်လွှတ် မေးလှူစွန့်လွှတ်တဲ့ ဒါနလက္ခဏာမြောက် ဖို့ အတွက် ဒီဆွမ်း ဒီမုန့် ဒီသစ်သီးကို ဘုရားရှင်ကို ဆက် ကပ်မယ်။ ဆွမ်းတော် စွန့်ပြီးရင် ကုသိုလ်အဆင့် ပွားဖို့အတွက် အခြား ပုဂ္ဂိုလ်တစ်ဦး သို့မဟုတ် ကျိုးကျွတ် တိရစ္ဆာန်တွေကို ပေးလှူ စွန့်ကြဲမယ်လို့ စိတ်မှာ ထားသင့်တယ်။ ဒီစေတနာ ပေါ်မှာ တစ်ဖက်စွဲလမ်းမှုကို လုံးဝ ကင်းစင်ဖို့အတွက် အခြားသူ တစ်ဦးတစ်ယောက်ကို ထပ်ဆင့် ပေးလှူလိုက်တာ ဟာ အကောင်းဆုံး ဖြစ်ပါတယ်။ ကိုယ့်အိမ်မှာ ဆွမ်းတော်ပွဲ စွန့်တာဖြစ်လို့ အခြား အလှူခံပုဂ္ဂိုလ် အလွယ်မတွေ့ဘူး ဆိုရင် အဖိုးတန် မွန်မြတ်တဲ့ စားသောက်ဖွယ်တွေလဲ ဖြစ်နေ



ယ်ဆိုရင် ကိုယ့်အိမ်က ကလေး၊ အိမ်နီးနားချင်းက ကလေး တွေကို ဝေခြမ်းပေးကမ်းသင့်ပါတယ်။

မေး။ ။ဆွမ်းတော်ပွဲ စွန့်ပြီးသားကို ရဟန်းသံဃာ တော်ကို ပေးလှူလို့ ကောင်းပါသလား။

ဖြေ။ ။လှူချင်ရင်တော့ လှူနိုင်ပါတယ်။ ဥပနိုင်ကျွာသ အဋ္ဌကထာမှာ ဘုရားဆင်းတုတော် လှူပြီးသားဆွမ်းကို ဘုရား တော်ကြီးဝတ်ယော်ပြုတဲ့ ရဟန်း၊ ဒါမှမဟုတ် ယေးသံဃာ တော်များကို လှူဒါန်းနိုင်တယ်လို့ ဖွင့်ထားပါတယ်။ ဒါပေ ယ့် သိပ်တော့ မကောင်းပါဘူး။ ဆွမ်းတော်စွန့်လိုက်တယ် ဆိုကတည်းက ဒီပစ္စည်းဟာ ဘုရားပစ္စည်း ဖြစ်သွားပါပြီ ဘုရားပစ္စည်းကိုယူပြီး ကိုယ်က လှူတာဖြစ်တဲ့အတွက် စေတနာ ဟာ သိပ်ထက်ထက်သန်သန်ရှိမှာ မဟုတ်ပါဘူး။ တကယ်လို့ သံဃာတော်တွေကိုလဲ ကောင်းလှူချင်တယ်ဆိုရင် မူလကတည်း က ဆွမ်းတော်ပွဲသတ်သတ် သံဃာတော်များ ကောင်းလှူဖို့က သတ်သတ် စီမံခဲ့သင့်ပါတယ်။ ဒါမှလဲ ကိုယ်ပိုင်ပစ္စည်းနဲ့ သံဃာတော်ကို လှူဒါန်းပူဇော်ရာ ရောက်ပါတယ်။ ဒီလိုမဟုတ် တဲ့ ဆွမ်းတော်ပွဲစွန့်ပြီး ဘုန်းကြီးလှူလိုက် သူ တောင်းစားတွေ ပေးလိုက်ဆိုရင် ဘုန်းကြီးနဲ့ သူတောင်းစား ဘတူတူလားရာ ရောက်သည့်အတွက် အကျိုးလဲ ညီမျှမှာ မဟုတ်ဘူး။ တာ အခြားတွေ့ရဲ့ အမြင်မှာလဲ သံဃာတော်တွေနဲ့ သူတောင်းစား တွေဟာ အတူတူပဲလို့ မှတ်ထင်သွားစရာရှိတဲ့အတွက် ဆွမ်း တော်ပွဲစွန့်ပြီး သံဃာတော်များကို မလောင်းလှူတာ ပို၍ ကောင်းပါတယ်။

မေး။ ။ဆွမ်းတော်ပွဲစွန့်ပြီး သူတောင်းစားတွေကိုပေးတဲ့ အစဉ်အလာဟာ ဘယ်တုန်းက စခဲ့သလဲ။

ဖြေ။ ။ရှေးခေတ်မြန်မာတွေဟာ ဘုရားစေတီတည်ပြီးရင် အဲဒီဘုရားကို ပြုပြင်မွမ်းမံဖို့အတွက် ဥယျာဉ်မြေတွေ လယ်တွေကို လှူဒါန်းခဲ့ပါတယ်။ ဘုရားရဲ့ ဝေယျာဝစ္စဆောင်ရွက်ဖို့ ကျွန် (ဘုရားကျွန် ကျောင်းကျွန်) တွေကို လှူဒါန်းခဲ့ပါတယ်။ ဘုရားပိုင်ဥယျာဉ် လယ်ယာကထွက်တဲ့ အခွန်အတောက်တွေကို ဘုရားပြင်ဆင်ဖို့နဲ့ ဘုရားကျွန် ကျောင်းကျွန်တွေရဲ့ စားဝတ်နေရေးအတွက် ခွဲဝေသုံးစွဲရပါတယ်။ ဘုရားရှင်ကို လှူပြီးတဲ့ ဆွမ်းတော်ပွဲကို ဘုရားဝေယျာဝစ္စပြုလုပ်တဲ့ ဘုရားကျွန် ယခုခေတ်အခေါ် သူတောင်းစားတွေကို စွန့်ကြဲခြင်းဖြစ်တယ်။

တစ်နည်းအားဖြင့်တော့ ယခုခေတ် သူတောင်းစားတွေဟာ ဘုရားဝေယျာဝစ္စကို မဆောင်ရွက်ကြတော့ဘူး။ ဘုရားကျွန်အဖြစ် ဘယ်ဘုရင် အမိန့်နဲ့မှ လှူဒါန်းထားတာလဲမဟုတ်ကြပါဘူး။ သူတောင်းစားတွေဟာ ဆင်းရဲသူတွေ ဖြစ်လို့ သနားကြင်နာစိတ်နဲ့ အဖိုးတန် မွန်မြတ်တဲ့ အစားတွေ စားသောက်ကြပါစေဆိုပြီး စွန့်ကြဲပေးကမ်းတာလဲ ဖြစ်နိုင်တယ်။ ဒီလို ဆင်းရဲသူတွေ စားခွင့်ရအောင် စားခွင့်ကြုံအောင် ဆွမ်းတော်ပွဲတွေကို ရိုးရိုးလူတွေ မစားကောင်းဘူးလို့ ကျထားရှင် မြန်မာကြီးများက ပရိယာယ်နဲ့ ပြောခဲ့တာလဲ ဖြစ်နိုင်ပါတယ်။ အခုလို ရှေးခေတ်ဘုရားကျွန် ယခုခေတ် သူတောင်းစားတွေ စားတာများတော့ ဆွမ်းတော်ပွဲ စားတဲ့လူ ဘုရားကျွန် သူတောင်းစားနဲ့ တစ်တန်းတည်း ဖြစ်သွားတယ်။



ဘုန်းနိမ့်သွားတယ်လို့ ထင်မြင်ယူဆ ပြောဆိုကြတာလဲ ဖြစ်နိုင်ပါတယ်။

မေး။ ။ဆွမ်းတော်ကြီး တင်တယ်ဆိုတာ ဘာလဲ။

ဖြေ။ ။ဆွမ်းတော်ကြီး တင်တယ်ဆိုတာ ရှေ့ဦးဘုရား ရပ်ကွက်ဓမ္မာရုံမှာ တစ်ရွာသုံး၊ တစ်ရပ်ကွက်လုံး စုပေါင်းပြီး ပွဲလမ်းသဘင် အခမ်းအနားနဲ့ ပြုလုပ်တဲ့ ဆွမ်းတော်တင်အလှူ ဖြစ်ပါတယ်။ နေ့စဉ် အိမ်မှာတင်တာထက် ကြီးကျယ်ခမ်းနားတဲ့အတွက် ဆွမ်းတော်ကြီး တင်တယ်လို့ ခေါ်ပါတယ်။ တစ်နှစ်မှာ တစ်ကြိမ် အထူးစပယ်ရှယ် ပြုလုပ်တာ ဖြစ်လို့ ဆွမ်းတော်တင်ပွဲတွေဟာ ကြီးပါတယ်။ ငှက်ပျောဖီးလိုက်၊ သင်္ဘော၊ နာနတ်၊ ကျွဲကော၊ ပန်းသီး၊ နို့ဆီဘူး၊ မုန့်သေတ္တာစတဲ့ အဖိုးတန် မွန်မြတ်တဲ့ ဆွမ်းတော်ပွဲတွေနဲ့ တင်ကြပါတယ်။ အများအားဖြင့် ဆွမ်းတော်ကြီးတင်ပွဲနဲ့ သံဃာတော်များ ဆွမ်းကြီးလောင်းပွဲ (ဆွမ်းဆန်စိမ်း လောင်းလှူပွဲ) ကို ပူးတွဲကျင်းပလေ့ ရှိကြပါတယ်။

မေး။ ။နေ့စဉ် ဆွမ်းတော်တင်မှုဟာ မြန်မာ့ယဉ်ကျေးမှုကို ဘယ်လောက် အထောက်အကူ ပြုပါသလဲ။

ဖြေ။ ။ဘုရားရှင်ဟာ အမြတ်ဆုံးအလှူခံပုဂ္ဂိုလ်၊ အချိန်မရွေး လှူဒါန်းနိုင်တဲ့ အလှူခံပုဂ္ဂိုလ် ဖြစ်ပါတယ်။ လောင်းလှူတဲ့ပစ္စည်း အဆင်သင့်ဖြစ်တဲ့အခါ အလှူခံ သံဃာတော်ကို တွေ့ချင်မှ တွေ့ပါမယ်။ အချိန်မှန် ရုံးတက်ရတဲ့ မြို့ကလူတွေဟာ သံဃာတော်ကို ဆွမ်းလောင်းတဲ့ဝတ်ကို နေ့စဉ်ပြုလုပ်နိုင်မှာ မဟုတ်ပါဘူး။ ဒါကြောင့် ဘုရားရှင်ဟာ အနီးကပ်ဆုံးနဲ့ အမြင့်မြတ်ဆုံး အလှူခံ ဖြစ်ပါတယ်။ မြန်မာ

တွေဟာ နေ့စဉ် ဆွမ်းတော်တင် အလှူဝတ်တစ်ခုကို ပြုနေခြင်း၊ စွန့်ပြီး ဆွမ်းတော်ပွဲကို ယုတ်စွအဆုံး ကျီး၊ ငှက်၊ ခွေးတွေကို စွန့်ကြ ကျွေးမွေးနေခြင်းဖြင့် မြန်မာတွေ အလှူအတန်း ရက်ရော အပေးအကမ်းများပြီး တစ်ဖက်သားကို ကူညီချင်တဲ့ အမျိုးသားစိတ်ဓာတ် ကိန်းအောင်းလာခြင်း ဖြစ်တယ်။ ကမ္ဘာက ချီးကျူးအသိအမှတ်ပြုရတဲ့ အလောင်းတော်ရဲ့ စိတ်ထားလဲဖြစ်တဲ့ အဖိုးတန် မြန်မာ့အမျိုးသား စိတ်ဓာတ်ဟာ နေ့စဉ် ထိပ်ရာအချိန်မှာ မှန်မှန် ပြုလုပ်ခဲ့တဲ့ ဆွမ်းတော်တင်ဝတ်က စခဲ့တယ်ဆိုလည်း မမှားပါဘူး။ ဒါကြောင့် သီးသန့်ဝယ်ယူ ရှာဖွေထားတဲ့ သစ်သီး၊ မုန့်၊ ပဲ၊ ယိုစတဲ့ အသက်သတ်လွတ် ဖြစ်စေ၊ နေ့စဉ် စားဦး စားများ ဆွမ်း၊ ဆွမ်းဟင်းများဖြင့် ဖြစ်စေ နေ့စဉ် မှန်မှန် ဆွမ်းတော်တင်ခြင်းဖြင့် ဘုရားရှင်ကို ဆွမ်း၊ ရေချမ်းလှူတဲ့ ကုသိုလ်ကိုလဲ ရယူနိုင်ကြပါစေ၊ ပေးကမ်း လှူဒါန်း ကူညီလိုတဲ့ မြန်မာ့အမျိုးသား စိတ်ဓာတ်ကို တည်ဆောက် မျိုးထောင်နိုင်ကြပါစေ။

မေး။ ။ဇနီးဖြစ်သူ ဆွမ်းတော်တင်လျှင် ခင်ပွန်းဖြစ်သူ ကုသိုလ်ရပါသလား။

ဖြေ။ ။မရပါဘူး၊ ယောကျ်ားတွေ အလူး သတိပြုစရာ ကောင်းတဲ့ အချက်ပါပဲ။ အချို့ကတော့ ယောကျ်ားဖြစ်သူ ရှာထားတဲ့ ပစ္စည်းနဲ့ လှူဒါန်းတာ ဖြစ်တဲ့အတွက် မိန်းမလှူရင် ယောကျ်ားလဲ ကုသိုလ်ရတယ်လို့ ထင်နေကြပါတယ်။ ပစ္စည်းကို ဘယ်သူရှာတယ် ဘယ်သူပိုင်တယ် ဆိုတာနဲ့ မဆိုင်ပါဘူး။ သေလို့ သပိတ်သွတ်တဲ့အခါ သေသူ



ပိုင်တဲ့ ပစ္စည်းနဲ့လှူလို့ သေသူ ကုသိုလ်မရပါဘူး။ သာဓုခေါ်နိုင်တဲ့ ပြိတ္တာဘဝ ရောက်လို့ သာဓုခေါ်နိုင်တဲ့ နေရာမှာ ရောက်နေလို့ သာဓုခေါ်မှသာ သာဓုခေါ်တဲ့ အကျိုးပတ္တာနုမောဒန ကုသိုလ်သာရပြီး အကျိုးခံစားရတယ်လို့ ကျမ်းဂန်မှာ ပြပါတယ်။ ဒါကိုကြည့်ရင် သူ့ပစ္စည်းကို လှူလို့ သူ ကုသိုလ်ရတာ မဟုတ်ပါဘူး။ အလှူခံပုဂ္ဂိုလ်၊ လှူဖွယ်ပစ္စည်း၊ ပေးလှူတဲ့စေတနာ၊ ပေးလှူခြင်းဆိုတဲ့ ဒါန၊ အင်္ဂါလေးပါး ရှိပါတယ်။ ဒါနမှာ အရေးအကြီးဆုံးဖြစ်တဲ့ စေတနာ မရှိတဲ့အတွက် ကုသိုလ်မရခြင်း ဖြစ်ပါတယ်။

မေး။ ။တစ်အိမ်သားလုံး ကုသိုလ်ရအောင် ဆွမ်းတော် ဘယ်လိုတင်မလဲ။

ဖြေ။ ။ဆွမ်းတော်ပွဲကိုတော့ ဇနီး၊ သမီး၊ မိခင် တစ်ယောက်ယောက်က ဦးစွာ ချက်ပြုတ် ပြင်ဆင်ရမှာပဲ။ ပြင်ဆင်ပြီးရင် တစ်ယောက်က ဦးစွာ ဘုရားရှေ့မှာ လက်နှင့်ဖက်နဲ့ ဘုန်းကြီး ဆွမ်းကပ်သလိုကပ်ပြီး ဂုဏ်ကိုးပါးရှင် သက်တော်ထင်ရှား မြတ်ဘုရားအား ဆက်ကပ်ပါ၏။ နိဗ္ဗာန်၏ အထောက်အပံ့ ဖြစ်ပါစေသတည်းလို့ ဆိုပြီး ကပ်ရမယ်။ ကျန်အိမ်သားတွေကလဲ ဘုရားရှိခိုးတော့မယ်ဆိုရင် မနီးခင် အထက်ပါအတိုင်း ဆိုပြီး ဆွမ်းတော်ပွဲကို ကိုင်မြှောက်ပြီး ကိုယ်တိုင်ကိုယ်ကျ ဆက်ကပ်ရမယ်။ အဲဒီလို လုပ်တိုင်း ကိုယ်ထိ လက်ရောက် ကပ်မှု လုပ်တိုင်း ကုသိုလ်ရမယ်။

မေး။ ။ဘုရားကို ဆွမ်းတော်၊ ရေတော် ဘယ်လိုကပ်ပါသလဲ။

ဖြေ။ ။အလုပ်ကိစ္စများလို့ အချိန်မရဘူးဆိုရင် အထက်မှာပြခဲ့သလို ဂုဏ်ကိုးပါးရှင် သက်တော်ထင်ရှား မြတ်ဘုရား

အား ဆက်ကပ်ပါ၏။ နိဗ္ဗာန်၏ အထောက်အပံ့ ဖြစ်ပါရစေသတည်းလို့ ဆိုပြီး ကပ်နိုင်တယ်။ အချိန် ရရင်တော့ ရှိခိုးပြီးမှ အောက်ပါ အစဉ်အလာ ဆွမ်းတော်ကပ်ကိုဆိုပြီး ကပ်ရမယ်။

## အစဉ်အလာ ဆွမ်းတော်ကပ်

အရဟာဒါဒီ နဝဂုဏောပေတံ–အရဟံ အစရှိသော ကိုးပါးသော ဂုဏ်တော်တို့နှင့်၊ သမန္တာဂတံ–ပြည့်စုံတော်မူသော၊ နာထံ–လူနတ်တို့၏ ကိုးကွယ်ရာ ဖြစ်တော်မူသော၊ ဗုဒ္ဓံ–သက်တော်ထင်ရှား သဗ္ဗညု မြတ်စွာဘုရားကို၊ ဥဒ္ဒိဿ–ရည်မှတ်၍၊ စေတီယသာ–ဓာတုစေတီ၊ ဓမ္မစေတီ၊ ဥဒ္ဒိဿစေတီ၊ ပရိဘောဂ စေတီတော် မြတ်အား၊ ဝဏ္ဏဂန္ဓရသသမ္ပန္နံ–အဆင်း အနံ့ အရသာနှင့် ပြည့်စုံသော၊ ဣမံ ပိဏ္ဍပါတ ခါဒနီယ ဘောဇနီယံ–ဤဆွမ်းခဲဖွယ် ဘောဇဉ်အရသာကို၊ ဒေမိ–ကပ်လှူပါ၏၊ မေ–အကျွန်ုပ်၏၊ ဣဒံပုညံ–ဤကောင်းမှုသည်၊ အာသဝက္ခယံ–အာသဝေါတရား လေးပါးတို့၏ ကုန်ရာကုန်ကြောင်း ဖြစ်သော မဂ်ဉာဏ် ဖိုလ်ဉာဏ် နိဗ္ဗာန်ကို၊ ဝဟံ–ရွက်ဆောင်နိုင်သည်၊ ဟောတု–ဖြစ်ပါစေသတည်း။

## အစဉ်အလာ ရေတော်ကပ်

အရဟာဒါဒီ နဝဂုဏောပေတံ–အရဟံ အစရှိသော ကိုးပါးသော ဂုဏ်တော်တို့နှင့်၊ သမန္တာဂတံ–ပြည့်စုံတော်မူသော၊ နာထံ–လူနတ်တို့၏ ကိုးကွယ်ရာ ဖြစ်တော်မူသော၊ ဗုဒ္ဓံ–သက်တော်ထင်ရှား သဗ္ဗညု မြတ်စွာဘုရားကို ဥဒ္ဒိဿ–ရည်မှတ်၍၊ စေတီယသာ–ဓာတုစေတီ, ဓမ္မစေတီ, ဥဒ္ဒိဿစေတီ, ပရိဘောဂ စေတီတော်မြတ်အား၊ ဘိတလံ–အေးမြလှစွာသော၊ ဣမံ ပါနီယပရိဘောဇနီယံ–ဤသောက်တော်ရေ, သုံးဆောင်တော်ရေကို၊ ဒေမိ–ကပ်လှူပါ၏၊ မေ–အကျွန်ုပ်၏၊ ဣဒံပုညံ–ဤကောင်းမှုသည်၊ အာသဝက္ခယံ–အာသဝေါတရား လေးပါးတို့၏ ကုန်ရာကုန်ကြောင်းဖြစ်သော မဂ်ဉာဏ် ဖိုလ်ဉာဏ် နိဗ္ဗာန်ကို၊ ဝဟံ–ရွက်ဆောင်နိုင်သည်၊ ဟောတု–ဖြစ်ပါစေသတည်း။



## ဆွမ်းတော်ကပ် တစ်မျိုး

ဗုဒ္ဓဿာဒေနေ ပူဇေမိ၊ မောဇနုတ္တာယ ဝဋ္ဋတော။
ဝိမုတ္တော ခုဒ္ဒိပါသေဟိ၊ လဘာမိ ပရမံ သုခံ။

ဘန္တေ–အရှင်ဘုရား၊ အဟံ–တပည့်တော်သည်၊ ဝဋ္ဋတော–သံသရာဝဋ်ဆင်းရဲမှ၊ မောဇနုတ္တာယ–ထွက်မြောက်ပါရခြင်းအကျိုးငှာ၊ ဗုဒ္ဓဿ၊ သစ္စာလေးပါး မြတ်တရားကို ကိုယ်းခြားထင်ထင် သိမြင်တော်မူသော မြတ်စွာဘုရားအား၊ အဒေန–ဤဆွမ်းခဲဖွယ်ဘောဇဉ်ဖြင့်၊ ပူဇေမိ–ကပ်လှူပူဇော်ပါ၏။ အနေန–ဤကောင်းမှုကြောင့်၊ အဟံ–တပည့်တော်သည်၊ ခုဒ္ဒိပါသေဟိ–ဝတ်မွတ်ခေါင်းပါးခြင်း ဘေးအပေါင်းတို့မှ၊ ဝိမုတ္တော–ကင်းလွတ်သည်ဖြစ်၍၊ ပရမံ–မြတ်လှစွာသော၊ သုခံ–နိဗ္ဗာန်ချမ်းသာကို လဘာမိ–ရလိုပါ၏ အရှင်ဘုရား။

## ရေတော်ကပ် တစ်မျိုး

ဗုဒ္ဓဿာနေန ပူဇေမိ၊ မောစနတ္ထာယ ဝဋ္ဋတော။
ဒကတ္တမဂ္ဂသိဒ္ဓေန္တာ၊ လဘာမိ ပရမံ သုခံ။

ဘန္တေ— အရှင်ဘုရား၊ အဟံ— တပည့်တော်သည်၊ ဝဋ္ဋတော— သံသရာ ဝဋ်ဆင်းရဲမှ၊ မောစနတ္ထာယ—ထွက်မြောက်ပါရခြင်း အကျိုးငှာ၊ ဗုဒ္ဓဿ— သစ္စာ လေးပါး တရားအပေါင်းကို ပိုင်းခြားထင်ထင် သိမြင်တော်မူသော မြတ်စွာဘုရားအား၊ အနေန—ဤသောက်တော်ရေ သုံးတော်ရေဖြင့်၊ ပူဇေမိ— ကပ်လှူပူဇော်ပါ၏။ အနေန—ဤကောင်းမှုကြောင့်၊ အဟံ— တပည့်တော်သည်၊ ဒကတ္တမဂ္ဂသိဒ္ဓေန္တာ— ကိလေသာ တည်းဟူသော ပူပန်ခြင်းကို အရဟတ္တ မဂ်ရေစင်ဖြင့် သွန်းလောင်းရသည်ဖြစ်၍၊ ပရမံ— မြတ်လှစွာသော၊ သုခံ—နိဗ္ဗာန်ချမ်းသာကို၊ လဘာမိ— ရပါလို၏ အရှင်ဘုရား။

မေး။ ။ဘုရားရှင်ကို ဆီမီးပူဇော်တဲ့ အစဉ်အလာ ဘယ်တုန်းက စခဲ့သလဲ။

ဖြေ။ ။ဘုရားရှင်ကို ဆီမီးပူဇော်တဲ့ အစဉ် အလာဟာ ဘုရားရှင် သက်တော်ထင်ရှား ရှိစဉ်ကတည်းက ရှိခဲ့ပုံပေါ်ပါတယ်။ မီးပူဇော်လို့ အကျိုးရပုံတွေကို ဝိမာနဝတ္ထု အပဒါန် ပါဠိတော်တွေမှာ ပြထားပါတယ်။ ဘုရားရှင် သက်တော်ထင်ရှား ရှိစဉ်က ဘုရားရှင်ကို ဖူးမြော်ဖို့ ပရိသတ်ဟာ ညဘက်မှာ လာတာလဲရှိပါတယ်။ ဒီအခါမှာ ဂန္ဓကုဋီကျောင်းတော်မှာ မီးပူဇော်ထားဖို့ လိုပါမယ်၊ ညဘက်လာတဲ့အခါ ပရိသတ်ဟာ မီးပူဇော်ကြမှာပါပဲ။ ဘုရားရှင် တာဝတိံသာမှာ အဘိဓမ္မာ ဒေသနာတော်ကို ဟောကြားပြီး သင်္ကာ



နဂိုရ်ပြည်ကို ပြန်ဆင်းတဲ့အခါမှာ မြို့သူမြို့သားတွေက ဆီမီး ရောင်စုံ ညီထွန်းပူဇော် ကြိုဆိုကြတယ်။ သီတင်းကျွတ်မီးထွန်း ပွဲတော်ဟာ အဲဒီ သင်္ကာနဂိုရ် မီးထွန်းပွဲက စခဲ့တယ်လို့ ဆိုပါတယ်။ ဒါကြောင့် ဘုရားမီး ပူဇော်တဲ့ အလေ့ဟာ ဘုရားရှင် သက်တော်ထင်ရှား ရှိစဉ်က စခဲ့တယ်လို့ ဆိုနိုင်ပါတယ်။

မေး။ ။ဆင်းတုစေတီမှာ ဘာဖြစ်လို့ ဆီမီး ပူဇော်ရသလဲ။

ဖြေ။ ။ဆင်းတုစေတီဟာ ညမှောင်ထဲမှာ ရှိနေရင် သက်တော်ထင်ရှား ဘုရားရှင်ကို အာရုံထဲမှာ မှန်းဆပြီး ပူဇော်လို့ မရပါဘူး။ အမှောင်ထုဟာ ကြောက်ရွံ့စိတ်ကို ဖြစ်စေသလို အလင်းရောင်ဟာ ကြည်နူးလန်းဆန်းမှုကို ဖြစ်စေပါတယ်။ ဆင်းတုတော်စေတီကို လင်းလင်းထင်းထင်းမှာ ရှုစိုက်ကြည့်ရှု ဖူးမြော်ပြီးမှ သက်တော်ထင်ရှား ဂုဏ်ကိုးပါးရှင် ဘုရားသခင်ကို စိတ်မှာမှန်းဆ ကြည်ညိုရန် လွယ်ကူတဲ့ အတွက် ဘုရားရှင်ကို ဆီမီးနဲ့ ပူဇော်ကြခြင်း ဖြစ်ပါတယ်။

မေး။ ။တန်ခိုးကြီး ဘုရားတွေမှာ မနက်ခင်း၊ နေ့ခင်း အလင်းရောင်ရှိချိန်မှာ မီးထွန်းပူဇော်တာ ကုသိုလ် ရရှိပါသလား။

ဖြေ။ ။အလှူခံ၊ လှူဖွယ်ပစ္စည်း၊ လှူလိုသောစေတနာ လှူခြင်းဆိုတဲ့ ဒါန အင်္ဂါလေးချက်နဲ့ ပြည့်စုံတဲ့ အတွက် ကုသိုလ် ရသင့်သလောက်တော့ ရဖို့ရှိပါတယ်။ ဒါပေမယ့် ဆီမီး ထွန်းတဲ့ ရည်ရွယ်ချက်က အမှောင်ခွင်း အလင်းဆောင်ဖို့

အလင်းရောင်ရမှ ဆင်းတုတော်ကို ဖူးမြော်ကြည်ညိုဖို့ ဖြစ် တယ်။ အလင်းရောင် ရှိချိန်မှာ ဖယောင်းတိုင်ထွန်း ပူဇော် တော့ အလင်းရောင်ဟာ ပိုမလာဘူး။ ဒါကြောင့် မနက် ညအမှောင်ထုရှိတဲ့ အခါမှာသာ ဖယောင်းတိုင်နဲ့ လျှပ်စစ် မီးညှိထွန်း ပူဇော်သင့်ပါတယ်။ အလင်းရောင် ရှိချိန်မှာ ဘုရားဖူးရောက်လို့ ဆီမီးကိုလဲ ပူဇော်ချင်တယ် ဆိုရင်တော့ မီးပူဇော်ရန်ဆိုတဲ့ အလှူခံသေတ္တာထဲ လှူခဲ့တာ ပိုကောင်း ပါတယ်။ ဒါမှမဟုတ်လဲ အမှောင်နည်းနည်းရှိတဲ့ မှောင်ရိပ်ထဲ ဂူထဲကဘုရားမှာ ညှိထွန်းပူဇော်ရင် ပိုကောင်းပါတယ်။

### အစဉ်အလာ ဆီမီးပူဇော်ပုံ

မေး။ ။ဘုရားရှင်ကို ဖယောင်းတိုင် လျှပ်စစ်မီးပူဇော်ပုံ ပေးပါ။

ဖြေ။ ။အရဟာတာဒိနဝဂုဏောပေါ်– အရဟံ အစရှိသော ကိုးပါးသော ဂုဏ်တော်တို့နှင့်၊ သမန္တာဂတံ– ပြည့်စုံတော် မူသော၊ နာထံ– လူနတ်တို့၏ ကိုးကွယ်ရာဖြစ်တော်မူသော၊ ဗုဒ္ဓံ– သက်တော်ထင်ရှား သဗ္ဗညု မြတ်စွာဘုရားကို၊ ဥဒ္ဒိဿ– ရည်မှတ်၍၊ စေတိယသာ– ဓာတုစေတီ၊ ဓမ္မစေတီ၊ ဥဒ္ဒိဿ စေတီ၊ ပရိဘောဂစေတီတော် မြတ်အား၊ ပဘာဝဏ္ဏောဟိ– အရောင် အဆင်းတို့ဖြင့်၊ အန္ဓကာရံ– အမိုက် အမှောင်ကို၊ ဝိနာသနံ– ပယ်ဖျောက်တတ်သော၊ ဣဒံဒီပဇာလံ– ဤဆီမီး လျှံကို၊ ပူဇေမိ– ကပ်လှူပူဇော်ပါ၏၊ မေ– အကျွန်ုပ်၏၊ ဣဒံပုညံ– ဤကောင်းမှုသည်၊ အာသဝက္ခယံ– အာသဝေါ တရား လေးပါးတို့၏ ကုန်ရာကုန်ကြောင်းဖြစ်သော မဂ်ဉာဏ် ဖိုလ်ဉာဏ် မြတ်နိဗ္ဗာန်ကို၊ ဝဟံ– ရွက်ဆောင် နိုင်သည် ဟောတု– ဖြစ်ပါစေသတည်း။



မေး။ ။ဘုရားရှင်ကို ဘာဖြစ်လို့ ပန်းကပ်လှူကြပါ သလဲ။

ဖြေ။ ။ပန်းရဲ့ အလှ ပန်းရဲ့ ရနံ့ဟာ မြင်ရ ရှူရှိုက်ရ သူတွေရဲ့ စိတ်နှလုံးကို ရွှင်ပျ လန်းဆန်းစေတယ်။ ဒါကြောင့် ကမ္ဘာပေါ်မှာ ယဉ်ကျေးမှု မြင့်မားတဲ့ လူမျိုးမှန်ရင် သူတို့ရဲ့ အိမ်ခန်းကို ပန်းတွေနဲ့ အလှအပ ပြုပြင်ထားကြတယ်။ ပန်း ခြံတွေ စိုက်ပျိုးလေ့ ရှိကြတယ်။ ဗုဒ္ဓဘာသာတွေဟာ စိတ်ရွှင်ပျလန်းဆန်းဖို့အတွက် ဘုရားရှင်ကို လေးစားပူဇော်ဖို့ အတွက် ပန်းကို ပူဇော်ကြတယ်။

ပန်းဟာ အလှယ်ကူဆုံး လှူဖွယ်ဝတ္ထု ဖြစ်တယ်။ အချိန် အခါမရွေးဘဲ လှူဒါန်း ပူဇော်နိုင်တဲ့ ပစ္စည်း ဖြစ်တယ်။ ပန်းဆိုရင် နံနက်ပိုင်းသာ ကပ်လှူလို့ ရတယ်။ ဆီမီးဆို ရင်လဲ မနက်နဲ့ ညအမှောင်ထု ရှိချိန်မှသာ ထွန်းညှိပူဇော်လို့ ရတယ်။ ပန်းကတော့ မနက်၊ နေ့၊ ည အချိန်အခါမရွေး ပူဇော်လို့ရတဲ့ လှူဖွယ် ဖြစ်တယ်။ ဒါကြောင့် ဘုရားရှင်ကို ပန်းလှူဒါန်းကြခြင်း ဖြစ်ပါတယ်။

မေး။ ။ဘုရားကို ပန်းကပ်တဲ့ အစဉ်အလာဟာ ဘယ် တုန်းက စခဲ့သလဲ။

ဖြေ။ ။ဘုရားပန်းကပ်တဲ့ အစဉ်အလာဟာ ဘုရား သက် တော်ထင်ရှား ရှိစဉ်ကတည်းက စခဲ့တယ်။ ဘုရား သက် တော်ထင်ရှား ရှိစဉ်က ဗုဒ္ဓဘာသာတွေဟာ ဘုရားကျောင်း တော် သွားတဲ့အခါ ဂန္ဓမာလာဒိ ဟတ္ထေဟိ=ပန်းနံ့သာ ကိုင်ဆောင်ကုန်လျက်ဆိုတဲ့ စကားလုံးမျိုး ပါဠိတော်တွေမှာ တွေ့ ရတယ်။

ကလိင်္ဂဗောဓိဇာတ်မှာ လူတွေက ဘုရားရှင်ကို ပူဇော်ဖို့ ပန်းနံ့သာတွေ ယူဆောင်ပြီး လာကြတယ်။ ဘုရားရှင်ကို မတွေ့ရတော့ ပန်းနံ့သာတွေကို စွန့်ပစ်ပြီး ပြန်ကြတယ်လို့ ဆိုတယ်၊ ဒါကြောင့် ဘုရားပန်းလှူတဲ့ အစဉ်အလာဟာ ဘုရားရှင် လက်ထက် သက်တော်ထင်ရှား ရှိစဉ်ကတည်းက ရှိနေပြီလို့ ဆိုရပါမယ်။

မေး။ ။ဘုရားရှင်အား ပန်း ဘယ်လိုဆိုကပ်ကြပါသလဲ။

ဖြေ။ ။မြန်မာလို အကျဉ်းချုပ် ကပ်လှူ ပူဇော်မယ်ဆိုရင်တော့ "ဂုဏ်တော်ကိုးပါးရှင် ဘုရားသခင်အား လှပမွှေးကြိုင်သော ဤပန်းဖြင့် လှူဒါန်းပူဇော်ပါ၏၊ ဤကောင်းမှုသည် နိဗ္ဗာန်၏ အထောက်အပံ့ ဖြစ်ပါစေသတည်း" ဆိုပြီး ကပ်နိုင်တယ်။

### အစဉ်အလာ ပန်းကပ်ပုံ

အရဟတာဒိ နဝဂုဏေဟိ–အရဟံ အစရှိသော ကိုးပါးသော ဂုဏ်တော်တို့နှင့်၊ သမန္နာဂတံ–ပြည့်စုံတော်မူသော၊ နာထံ–လူနတ်တို့၏ ကိုးကွယ်ရာ ဖြစ်တော်မူသော၊ ဗုဒ္ဓံ–သက်တော်ထင်ရှား သဗ္ဗညုမြတ်စွာဘုရားကို၊ ဥဒ္ဒိဿ–ရည်မှတ်၍၊ စေတိယာသာ–ဓာတုစေတီ၊ ဓမ္မစေတီ၊ ဥဒ္ဒိဿစေတီ၊ ပရိဘောဂစေတီမြတ်အား၊ ဝဏ္ဏ ဂန္ဓ သမ္ပန္နံ–အဆင်းအနံ့နှင့် ပြည့်စုံသော ဣမံပုပ္ဖံ–ဤပန်းကို၊ ပူဇေမိ–ပူဇော်ပါ၏။ မေ–အကျွန်ုပ်၏၊ ဣဒံပုညံ–ဤကောင်းမှုသည်၊ အာသဝက္ခယံ–အာသဝေါတရား လေးပါးတို့၏ ကုန်ရာကုန်ကြောင်းဖြစ်သော



ကြက် ဖိုလ်အကျက် နိဗ္ဗာန်ကို။ ဝဟံ–ရွက်ဆောင်နိုင်သည် တု–ဖြစ်ပါစေသတည်း။

မေး။ ။အမွှေးတိုင်ပူဇော်တဲ့အစဉ်အလာဟာ ကျမ်းဂန် ရှိခဲ့ပါသလား။

ဖြေ။ ။ရှိပါတယ်၊ အသက်ပါ ပန်းပူဇော်ခန်းမှာပြခဲ့တဲ့ ကိုး ဘုရားရှင် သက်တော်ထင်ရှား ရှိစဉ်က ဘုရား ကျောင်းတော် သွားကြတဲ့လူတွေဟာ ပန်းနံ့သာယူသွားကြ တယ်လို့ ဆိုတယ်။ နံ့သာဆိုတာက ရေမွှေး နံ့သာဖြူ၊ မှက်၊ သနပ်ခါးကို သွေးထားတဲ့ အရေနံ့သာ။ 'နံ့သာ ကရမက်၊ သနပ်ခါးခဲ၊ ပရုပ်ခဲ၊ ကတိုးစတဲ့ အခဲနံ့ ။ နံ့သာဖြူကရမက်ကို မီးရှို့လှူခြင်း၊ အမွှေးတိုင် မီးရှို့ ဇော်ခြင်းစတဲ့ အခိုးနံ့သာတို့ ကိုးမျိုးရှိတဲ့အနက် ကိုးမျိုး ကို ဘုရားရှင်လက်ထက်က ပူဇော်ခဲ့ကြမယ်လို့ ယူဆ တယ်။

အပဒါန် ပါဠိတော် ဂန္ဓဓူပိယထေရအပဒါန်နဲ့ ဂန္ဓပူ ထေရအပဒါန်မှာ နံ့သာခဲလှူခဲ့ရလို့ ကမ္ဘာများစွာ ယ် မလားခြင်းဆိုတဲ့ အကျိုးခံစားရတယ်လို့ ဟော ပါတယ်။ ဗောဓိပင်ကို နံ့သာရေ လောင်းလှူရကျိုး၊ ရှင်ကို နံ့သာရေမွှေးဖြင့် လောင်းလှူပူဇော်ရကျိုးကို ထားပါတယ်။ ဂန္ဓဓူပိယထေရအပဒါန်မှာတော့ နံ့သာ လှူရလို့ အပါယ်မလားဘဲ စကြာဝတေးမင်း အကြိမ် ဖြစ်ခြင်းစတဲ့ အကျိုးခံစားရတယ်လို့ ဟောထားပါ ။ ဒါကြောင့် အခုခေတ်အမွှေးနံ့သာလှူတဲ့အစဉ်အလာ ဘုရားရှင် လက်ထက်တော်မှာ ရှိခဲ့ပါတယ်လို့ သိရပါ တယ်။

မေး။ ။ဘုရားရှိခိုးစာအုပ်တွေမှာ အမွှေးတိုင် ဆက်ကပ်ပုံဆိုရိုး ဘာကြောင့် မပါရှိသလဲ။

ဖြေ။ ။ဘုရားရှင်ကို အမွှေးတိုင်ဆက်ကပ်တဲ့အလေ့ဟာ မူလက ထရုတ်လူမျိုး၊ ကုလားလူမျိုးတွေရဲ့ အလေ့အကျင့်ဖြစ်ပါတယ်။ မြို့မှာ တရုတ်ကုလားတွေနဲ့ နီးနီးကပ်ကပ်နေကြတဲ့ မြန်မာအချို့က တစ်ဆင့် အမွှေးတိုင်လှူတဲ့အလေ့ဟာ မြန်မာတွေဆီ ကူးစက်လာပါတယ်။ ဒါပေမယ့် ဗုဒ္ဓဘာသာဦးရေနဲ့စာရင် အမွှေးတိုင်လှူတဲ့ဦးရေဟာ အတော် နည်းပါးသေးတယ်။ တောရွာတွေမှာဆို လုံးဝမရှိသလောက်ပါပဲ။ ဒါကြောင့် ရှေးက မြန်မာဘုရားရှိခိုးစာအုပ်တွေမှာ အမွှေးတိုင်ကပ်ပုံ ဆိုရိုးမပါတာဖြစ်ပါတယ်။

မေး။ ။အမွှေးတိုင် ဘယ်လိုကပ်ရမလဲ။

ဖြေ။ ။အစဉ်အလာ ပန်းရေချမ်းကပ်ပုံကို နည်းယူပြီး အောက်ပါအတိုင်း ကပ်နိုင်ပါတယ်။

## အမွှေးတိုင်ကပ်လှူပုံ

အရဟတာဒိ နဝဂုဏောပေ—အရဟံ အစရှိသော ကိုးပါးသော ဂုဏ်တော်တို့နှင့်၊ သမန္တာဂတံ — ပြည့်စုံတော်မူသော၊ နာထံ—လူ,နတ်တို့၏ ကိုးကွယ်ရာဖြစ်တော်မူသော၊ ဗုဒ္ဓံ—သက်တော်ထင်ရှား သဗ္ဗညုမြတ်စွာဘုရားကို၊ ဥဒ္ဒိဿ—ရည်မှတ်၍၊ စေတိယဿ—ဓာတုစေတီ၊ ဓမ္မစေတီ၊ ဥဒ္ဒိဿစေတီ၊ ပရိဘောဂစေတီတော်မြတ်အား၊ ဂန္ဓသမ္ပန္နံ —မွှေးပျံ့သင်းကြိုင်ရနံ့လှိုင်သော၊ ဣမံ ဂန္ဓဓူမံ—ဤအမွှေးတိုင်ကို၊ ဝူဇေမိ—



ပူဇော်ပါ၏၊ ဧဝ—အကျွန်ုပ်၏၊ ဣဒံပုညံ—ဤကောင်းမှုသည်၊ အာသဝက္ခယံ—အာသဝေါတရားလေးပါးတို့၏ ကုန်ရာကုန်ကြောင်းဖြစ်သော မဂ်ဉာဏ်ဖိုလ်ဉာဏ် နိဗ္ဗာန်ကို၊ ဝဟံ—ရွက်ဆောင်နိုင်သည်၊ ဟောတု—ဖြစ်ပါစေသတည်း။

....o....

# (၁၀)

# ပရိတ်ရွတ်ဖတ်ခြင်း

မေး။ ။ဘုရားရှင်ကို ပန်း၊ ဆီမီး (အမွှေးတိုင်) ကပ်လှူပြီးတော့ ဘာဆက်လုပ်ပါသလဲ။

ဖြေ။ ။ပန်း၊ ဆီမီးတွေ ဆက်ကပ်ပြီးတော့ ပရိတ်ရွ ကြပါတယ်။

မေး။ ။ပရိတ်ဆိုတာ ဘာလဲ။

ဖြေ။ ။ပရိတ်ဆိုတာ ပရိတ္တဆိုတဲ့ ပါဠိ ဘာသာ ပြောင်းလာတဲ့ စကားလုံးဖြစ်တယ်။ အရန်အတား အ အကွယ် အစောင့်အရှောက်လို့ အဓိပ္ပာယ်ရတယ်။ ဘေး ရေးရာ ကြီးပွားချမ်းသာဖို့အတွက် လုပ်ဆောင်နေကြတဲ့ တွေရာ သံသရာမှ လွတ်မြောက်ရေးအတွက် ကျင့်ကြံ ထုတ်နေကြတဲ့ လူ့တွေရောဟာ ဘေးရန် အနှောင့်အယှ ကင်းဝေးဖို့ လိုတယ်။ သုတ္တန်ဒေသနာတော်တွေ ရှိတယ်။

ထိုသုတ်တွေဟာ နိကာယ်ငါးရပ်မှာ အနှံ့အပြား ဖြ နေတယ်။ အဲဒီ အနှံ့အပြားဖြစ်နေတဲ့ ပရိတ္တ သုတ်တွေ



ရဟန္တာအရှင်မြတ်များက တစ်ကျမ်းတည်းအဖြစ် စုဆောင်းပြီး ပရိတ္တလို့ နာမည်ပေးခဲ့တယ်။ အဲဒီ ပရိတ္တဆိုတဲ့ ပါဠိနာမည်ကို ပရိတ်ကြီးလို့ မြန်မာမှုပြုခဲ့တယ်။ ပရိတ်ကြီးဟာ သုတ်အရေ အတွက်အားဖြင့် (၁၁)သုတ်ရှိတယ်။ ရှေးခေတ် ဘုန်းကြီး ကျောင်းပညာရေး သင်ယူမှုစနစ်အရ ကျောင်းသားတိုင်း လိုလိုဟာ ပရိတ်ကြီးကို ရကြတာများတယ်။ အခုခေတ်မှာ တော့ တချို့က အကုန်ရပြီး တချို့က တစ်သုတ် နှစ်သုတ် လောက်ပဲ ရကြတယ်။ ဗုဒ္ဓဘာသာမှန်ရင်တော့ ပရိတ်ကြီးကို အနည်းနဲ့အများ ရကြတာချည်းပဲ။ မရသေးရင်လဲ ဗုဒ္ဓဘာသာ မြန်မာ့ ယဉ်ကျေးမှုကို ထိန်းသိမ်းတဲ့ အနေနဲ့ မင်္ဂလသုတ်၊ ရတနသုတ်၊ မေတ္တသုတ် လောက်တော့ ရအောင်ကျက်ပြီး အဓိပ္ပာယ်လဲသိအောင် ဖတ်ရှုသင့်တယ်။

မေး။ ။ပရိတ်ရွတ်တဲ့ အစဉ်အလာဟာ ဘယ်တုန်းက စ,ခဲ့သလဲ။

ဖြေ။ ။ပရိတ်ရွတ်တဲ့ အစဉ်အလာကတော့ ဘုရားရှင် သက်တော်ထင်ရှား ရှိစဉ်က စ,ခဲ့ပါတယ်။ ဝေသာလီပြည် မှာ ဒေါဂန္တရကပ်ဆိုက်နေစဉ် ဘုရားရှင်ကို လျှောက်ထား ပင့်တော့ ဘုရားရှင် ကိုယ်တော်တိုင် လိုက်ကြွ ချီးမြှင့်ပါတယ်။ ဝေသာလီပြည်ရောက်တော့ ရှင်အာနန္ဒာကို ရတနသုတ်ပရိတ် တွေကို သင်ပေးပြီး ရွတ်စေပါတယ်။ အန္တရာယ်တွေပျောက် ကင်း ချမ်းသာသွားတဲ့အခါ ဝေသာလီပြည်သား တွေကို ရတနသုတ်ဆိုင်ရာ တရား၊ ဒို့မဟုတ် ရတနာသုံးပါးနဲ့ဂုဏ် ပွားများနည်းတွေကို ဟောခဲ့ပါတယ်။

မြတ်စွာဘုရား ပရိနိဗ္ဗာန် စံပြီးတဲ့နောက်လဲ ရဟ
မထေရ်မြတ်တွေဟာ ပရိတ်တော်တွေကို ရွတ်ဖတ်ပြီး တ
ထကာမတွေကို ချီးမြှင့်ခဲ့ပုံရပါတယ်။ ဘုရားပရိနိဗ္ဗာန်
နှစ် ၅၀၀-ခလောက်မှာ ရေးတဲ့ မိလိန္ဒပဉှာပါဠိတော်
ပါသမုတ္တိပဉှမှာ ရတနသုတ်၊ မေတ္တသုတ်၊ ခန္ဓသုတ်၊
သုတ်၊ ဓဇဂ္ဂသုတ်၊ အာဋာနာဋိယသုတ်၊ အင်္ဂုလိမာလ
တွေကို ဖော်ပြထားတယ်။ ဒီပရိတ်တွေရွတ်လို့ ဘေး
ဘေးရန်မှ လွတ်မလွတ် မေးဖြေထားတယ်။ အဲဒီတော့ မိလိ
ပဉှာ မရေးမီ အချိန်ကတည်းက အထက်ပါ ပရိတ်
၇-သုတ်ကို ရဟန်းတော်များ ရွတ်ဖတ်၊ လူတွေကနာကြ
နေကြရပြီလို့ အခိုင်အမာ ပြောနိုင်တယ်။ မြန်မာပြည်မှာ
သာသနာအစ ပုဂံခေတ် ကျန်စစ်သား နန်းတော်ဆောက်
အခါမှာ သံဃာတော်တွေ ပင့်ပြီး ပရိတ်ရွတ်ခဲ့တယ်။
ကြောင့် ပရိတ်တော်ဟာ သာသနာ သက်တမ်းနဲ့အမျှ ကြာ
ညောင်းခဲ့တဲ့ ဗုဒ္ဓယဉ်ကျေးမှုတစ်ခု ဖြစ်ပါတယ်။

မေး။ ။ပရိတ်ကြီး ၁၁-သုတ်ဆိုလျှင် ပရိတ်ငယ် ရှိပါ
သေးသလား။

ဖြေ။ ။ပရိတ်ကြီးဟု ဆိုလျှင် ပရိတ်ငယ်လဲ ရှိရမယ်လို့
ကြံဆခဲ့ကြတယ်။ ဘိုးတော်မင်းတရားကြီး လက်ထက်က
ပရိတ်ကြီးနဲ့ ပရိတ်ငယ်ကို ခွဲခြားခဲ့တယ်။ ပရိတ်မှမ်း ဂါ
ထာတွေမှာ ပရိတ္တံ တံဘဏာမဟေလို့ ပရိတ္တံပါတဲ့ ရတန၊
မေတ္တ၊ ခန္ဓ၊ မောရ၊ ဝဋ္ဋ၊ ဓဇဂ္ဂ၊ အာဋာနာဋိယ၊ အင်္ဂုလိ
မာလ ပရိတ်တွေကို ပရိတ်ကြီးလို့ သတ်မှတ်ပြီး မင်္ဂလ



တံ ဘဏာမဟေ၊ မောရ္ဆ္ဆဂ္ဂ ဘဏာမဟေလို့ ပရိတ္တံမပါတဲ့
သုတ်တွေကို ပရိတ်ငယ်လို့ သတ်မှတ်ခဲ့ကြတယ်။

ဒီစာရေးသူကတော့ ပရိတ်ကြီး ၁၁-သုတ်လုံးကို ပရိတ်
ကြီးဆိုတဲ့ နာမည်အရ ပရိတ်ကြီးအဖြစ်ယူဆပြီး ယခု အများ
ရွတ်ဖတ်နေကြတဲ့ ဓာရဏပရိတ်၊ အဘိဏှသုတ်၊ ပရိမိတ္တ
ဇာလသုတ်၊ သမ္ဗုဒ္ဓေဂါထာ စသည်တွေဟာ ရွတ်ဖတ်သူ
များသူကို အကာအကွယ်ပေးတဲ့ သုတ်ငယ်ဖြစ်လို့ ပရိတ်
ငယ်လို့ ယူဆရင် ပိုပြီးသင့်မယ်လို့ ထင်ပါတယ်။

မေး။ ။ပရိတ်ကြီးထဲမှာ တချို့သုတ်တွေ ဘုရားဟော
မဟုတ်ဘူးဆိုတာ မှန်ပါသလား။

ဖြေ။ ။တချို့သုတ်တွေ ဘုရားဟော မဟုတ်ဘူးဆိုတာ
မှန်ပါတယ်။ ပုဗ္ဗဏှသုတ်ဟာ အင်္ဂုတ္တရနိကာယ်က ဘုရားဟော
ဂါထာအချို့ကိုယူပြီး ဆရာတော်ကြီးများက ဂါထာအချို့
ဖြည့်စွက်စီစဉ် ထည့်သွင်းထားပါတယ်။ အာဋာနာဋိယသုတ်
ဖြည့်စွက်စီစဉ် ထည့်သွင်းထားပါတယ်။ အာဋာနာဋိယသုတ်
မူရင်းဟာ အာဏာ ပြင်းထန်လှန်းတဲ့ သုတ်ဖြစ်လို့ ဘီလူး
စသည် ဖူးကပ်မှ ရွတ်သင့်တဲ့သုတ်ဖြစ်တယ်။ ဒီသုတ်ကို နေ့စဉ်
ရွတ်လို့ရအောင် မူလ အာဋာနာဋိယသုတ်မှ ဂါထာအချို့
ကိုယူကာ ဘုရားဂုဏ်တော်တွေကို ဖြည့်စွက်ပြီး ဆရာတော်
ကြီးများ စီစဉ်ထားပါတယ်။ ဗောဇ္ဈင်္ဂသုတ်ဟာ ဘုရားဟော
တော်မူစဉ်က ရှေးဦးယကားပြေနဲ့ ဖြစ်နေလို့ ရွတ်ဖတ်ရလွယ်
ကူပြီး သာယာနာပျော်ဖွယ် ဖြစ်အောင် ရှေးဆရာတော်ကြီး
တွေက ဂါထာနဲ့ ပြန်စီကုံးထားပါတယ်။
ပရိတ်တော်တွေရဲ့ အစက တံဘဏာမဟေ အထိ ပါဠိ
တွေဟာ ဘုရားဟော မူရင်းမဟုတ်ဘဲ သက်ဆိုင်ရာ ပရိတ်ရဲ့

ဂုဏ်ကို ထုတ်ဖော်ချီးကျူးဖို့အတွက် ရှေးဆရာတော်ကြီး…
ထည့်သွင်း ရေးသားထားချက်တွေ ဖြစ်ပါတယ်။ ပရိတ်…
အစ သမန္တာ စက္ကဝါဠေသုတွေ့ နတ်ပင့်ကစပြီး အ…
ဂကုန္တု အထိဟာလဲ ရှေးဆရာတော်ကြီးတွေ စီစဉ်ထည့်သွင်း…
ထားချက် ဖြစ်ပါတယ်။ ဆရာတော်ကြီးတွေကလဲ ဘုရား…
ဟော ပါဠိတော်တွေထဲက ကောက်နုတ် ဖြည့်စွက်ထား…
ဖြစ်လို့ အားလုံး ဘုရားဟောဖြစ်တယ်လို့ ယူဆရင်လဲ …
ပါတယ်။

မိလိန္ဒပဉှာပါဠိတော်နဲ့ အဋ္ဌကထာတွေမှာ ပရိတ်…
မဖော်ပြတဲ့ ဝဋ္ဋသုတ်နဲ့ မင်္ဂလသုတ်ကိုလဲ ဘုရားရှင်ရဲ့ …
ပါဠိကို ဖော်ပြဖို့ လူတိုင်း ကျင့်သုံးစရာ မင်္ဂလာတွေ…
ဖော်ပြဖို့အတွက် မြန်မာဆရာတော်ကြီးတွေက ပရိတ်…
ထည့်သွင်းစီစဉ်ပါတယ်။ မင်္ဂလသုတ်က ဘုရားဟောဖြစ်…
ဝဋ္ဋသုတ်ကတော့ စရိယာပိဋကနဲ့ ဝဋ္ဋဇာတ်ကို ပေါင်း…
စီစဉ်ထားတာ ဖြစ်ပါတယ်။

မေး။ ။ပရိတ်နာလို့ အန္တရာယ်ကင်းနိုင်ပါသလား။

ဖြေ။ ။ပရိတ်နာလို့ အန္တရာယ်ကင်းတာလဲ ရှိပါတယ်၊ မကင်းတာလဲ ရှိပါတယ်။ ပရိတ်ရွတ်တဲ့ ပုဂ္ဂိုလ်က ပါဠိကို ပီပီသသရွတ်မယ်။ အနက်အဓိပ္ပာယ်ကို သိမယ်။ အန္တရာယ်ကင်းပါစေဆိုတဲ့ မေတ္တာစိတ်ထားနဲ့ ရွတ်မယ်။ ဒီအင်္ဂါသုံးပါးနဲ့ ညီအောင်ရွတ်ရင် ပရိတ်နာတဲ့လူကလဲ ပဉ္စာနန္တရိယကံမထိုက်ဘူး။ မိစ္ဆာဒိဋ္ဌိအယူ မရှိဘူး။ ပရိတ်တော်ဟာ အန္တရာယ်ကင်းတယ်လို့ နှစ်နှစ်ကာကာ ယုံတယ်။ ဒီအင်္ဂါ သုံးပါးနဲ့ ညီအောင် နာကြားမယ်ဆိုရင် ပရိတ်နာလို့ အန္တရာယ်ကင်းပါတယ်။



အထက်ပါ ပရိတ်ရွတ်သူ အင်္ဂါသုံးပါး၊ ပရိတ်နာသူ အင်္ဂါသုံးပါး မညီရင်တော့ ပရိတ်ဟာ အန္တရာယ် မကင်းပါဘူး။ ကိုယ့်ဘာသာကိုယ် အန္တရာယ်ကင်းအောင် ပရိတ်ရွတ်တဲ့ လူအဖို့တော့ ပါဠိပီအောင် ရွတ်မယ်။အနက်အဓိပ္ပာယ် သိနားလည်မယ်။ ပရိတ်ဟာ အန္တရာယ်ကင်းတယ်လို့ ယုံကြည်မယ်ဆိုရင် အန္တရာယ် ကင်းပါတယ်။ အခုခေတ် အများရွတ်နေကြတာက ပါဠိလဲ မှန်ပါတယ်။ ယုံကြည်မှုလဲ ရှိပါတယ်။ ဒါပေမယ့် ပရိတ်တော်ရဲ့ အနက်အဓိပ္ပာယ်ကို မသိကြတာ များနေပါတယ်။ အဓိပ္ပာယ် သိနားလည်အောင် လေ့လာပြီးမှ ရွတ်ကြဖို့ လိုပါတယ်။

မေး။ ။ဗုဒ္ဓဘာသာမှာ ဘုရားရှင်ကရော၊ သံဃာတော်များကပါ ဘာမှ မလုပ်မပေးနိုင်ဘူး။ကိုယ်လုပ်မှ ကိုယ်ရတယ်ဆိုပြီး လူတွေ အန္တရာယ်ကင်းအောင် ဘုန်းကြီးတွေက ပရိတ်ရွတ်ပေးရတယ်ဆိုတာ မဆန့်ကျင်ဘူးလား။

ဖြေ။ ။ဗုဒ္ဓဘာသာမှာ ဘုရားရှင်နဲ့ သံဃာတော်တွေက လူတွေအတွက် လူနတ် နိဗ္ဗာန်ချမ်းသာသုခတွေကို ရအောင် လုပ်မပေးနိုင်ပါဘူး။ ဒါန၊ သီလ၊ ဘာဝနာ ကုသိုလ်တွေကို ကိုယ်တိုင် လုပ်ယူမှ ရပါတယ်။ ဘုရားရှင်နဲ့ သံဃာတော်တွေကတော့ လမ်းမှန် ညွှန်ပြပေးရုံပါပဲ။ ပရိတ် ရွတ်ပေးတယ်ဆိုတာက ကုသိုလ်ရအောင် ရွတ်ပေးတာ မဟုတ်ပါဘူး။ ဘီလူး၊ သရဲဘဝေ့၊ မြွေသုတ်ဘီလူး၊ မင်စာ စတဲ့ ပြဿနာတွေ နတ်ဒိဋ္ဌာတွေကြောင့် ဖြစ်ပေါ်လာမယ့် အန္တရာယ်ကို ကာကွယ်စောင့်ရှောက်ပေးတာသာ ဖြစ်ပါတယ်။ မိဘတွေက သားသမီးတွေ အန္တရာယ်ကင်းအောင် ကာကွယ် ပေးနိုင်သလို

အစိုးရ၊ ရဲအဖွဲ့တွေက လူကောင်းတွေကို သူခိုးဓားပြတွေ ကာကွယ်ပေးနိုင်သလို ဘုရားသားတော် ရဟန်းရှင်လူများက ဘုရားရှင်ရဲ့ မေတ္တာ သစ္စာတော်ကို သုံးပြီး ရတနာသုံးပါးကို ကြည်ညိုလေးစားတဲ့ ဗုဒ္ဓဘာသာတွေကို ဘေးအန္တရာယ် အမျိုးမျိုးမှ ကာကွယ်တားဆီးနိုင်ပါတယ်။

မေး။ ။ပရိတ်ကြီး ၁၁-သုတ်မှာပါတဲ့ အကြောင်းအရာတွေဟာ အကျဉ်းချုပ်အားဖြင့် ဘာတွေပါလဲ။

ဖြေ။ ။ပရိတ်ကြီး ၁၁-သုတ်ကို လေ့လာကြည့်တဲ့ အခါမှာ ပါဝင်နေတဲ့ အဓိက အကြောင်းအရာတွေက—

(၁) ရတနာသုံးပါးရဲ့ ဂုဏ်တော်တွေ၊
(၂) သစ္စာဓိဋ္ဌာန်ပြုချက်တွေ၊
(၃) မေတ္တာပို့သချက်တွေ၊
(၄) နတ်ကောင်း နတ်မြတ်တွေကို မေတ္တာရပ်ခံချက်တွေ ဖြစ်ပါတယ်။

မေး။ ။ရတနာသုံးပါးရဲ့ ဂုဏ်တော်တွေပါတဲ့ ပရိတ်တော်ကို ရွတ်ဖတ်တာနဲ့ အန္တရာယ်ကင်းမှုဟာ ဘယ်လို ဆက်စပ်ပါသလဲ။

ဖြေ။ လူသားတွေမှာ အန္တရာယ်ဟာ နှစ်မျိုး ရှိပါတယ်။ မိမိဘဝ အဆက်ဆက်က ပြုခဲ့တဲ့ အကုသိုလ်ကံဟောင်းတွေကြောင့် ဖြစ်တဲ့အန္တရာယ်တွေနဲ့ အစိမ်းသရဲ၊ တစ္ဆေ၊ မြေဘုတ်ဘီလူး မှင်စာ စတဲ့ ပြိတ္တာ နတ်မိစ္ဆာ နတ်ဆိုးတွေကြောင့် ဖြစ်ရတဲ့ အန္တရာယ်ဆိုပြီး နှစ်မျိုးရှိပါတယ်။ ရတန ပရိတ် ဓဇဂ္ဂရိတ်တော်တွေဟာ ရတနာ သုံးပါးရဲ့ ဂုဏ်တော်တွေကို ဖော်ပြ ထားပါတယ်။ ဒီပရိတ်တော်တွေကို



ရွတ်တဲ့အခါ နတ်ကောင်း နတ်မြတ်တွေဟာ ရတနာသုံးပါးရဲ့ ဂုဏ်တော်တွေကို ကြည်ညိုနာကြားဖို့ ပရိတ်ရွတ်တဲ့ နေရာကို လာရောက်ကြပါတယ်။ ဒီနတ်ကောင်း နတ်မြတ်တွေ ရောက်လာတဲ့အတွက် လူကို ဘေးအန္တရာယ်ပြုမယ့် အစိမ်း သရဲ နတ်ဆိုးတွေဟာ ပရိတ်ရွတ်တဲ့လူ ပရိတ်နာတဲ့ လူနားကို မကပ်ဝံ့ပါဘူး။ ပရိတ်နာတဲ့သူဟာ ရတနာသုံးပါးရဲ့ ဂုဏ်ကို ယုံယုံကြည်ကြည် နာကြားတယ်။ ဂုဏ်တော်တွေကို စိတ်မှာထားပြီး ကြည်နူးနှစ်သိမ့်နေတဲ့အတွက် ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်တဲ့ စိတ်နဲ့ ရှိခိုးတဲ့ ကုသိုလ်စေတနာ ဖြစ်ပေါ်တယ်။ အဲဒီ ကုသိုလ်စေတနာဟာ ဘဝအဆက်ဆက်က ပြုခဲ့တဲ့ အကုသိုလ်တွေကြောင့် ဖြစ်မယ့် အန္တရာယ်တွေကို ကာကွယ်တားဆီးနိုင်တယ်။ ဒါကြောင့် ရတနာသုံးပါးရဲ့ ဂုဏ်တော်တွေပါတဲ့ ပရိတ်တော်တွေဟာ ဘေးအန္တရာယ်ကို ကာကွယ်တားဆီးနိုင်ခြင်း ဖြစ်ပါတယ်။

မေး။ ။သစ္စာဓိဋ္ဌာန် ပြုချက်တွေပါတဲ့ ပရိတ်တော်နဲ့ အန္တရာယ်ကင်းမှုဟာ ဘယ်လို ဆက်စပ်ပါသလဲ။

ဖြေ။ ရတနသုတ်မှာ ရတနာသုံးပါးရဲ့ ဂုဏ်တွေကို ထုတ်ဖော်ပြီးနောက် ဧတေန သစ္စေန သုဝတ္ထိ ဟောတု။ လို သစ္စာ စကားကြောင့် ပရိတ်နာသူအား ချမ်းသာခြင်း ဖြစ်ပါစေလို့ သစ္စာဓိဋ္ဌာန် ပြုတယ်။ ဝဋ္ဋသုတ်ပရိတ်မှာ ငုံးမင်းရဲ့ သစ္စာစကားကြောင့် တောမီးဟာ သူ့နားမရောက်ခင် ငြိမ်းသွားတယ်။ အင်္ဂုလိမာလသုတ်မှာ အင်္ဂုလိမာလထေရ်ရဲ့ သစ္စာဓိဋ္ဌာန် စကားကြောင့် ကိုယ်ဝန်လွယ်ကူစွာ မွေးရတယ်။ ကဋ္ဌဝါဟန ဇာတ်တော်မှာ မိခင်ရဲ့ သစ္စာဓိဋ္ဌာန်ကြောင့် ကလေးငယ်ဟာ ကောင်းကင်မှာ ရပ်တည်နိုင်တယ်။ ပါရမီ

၁၀-ပါးမှာ အပါအဝင်ဖြစ်တဲ့ သစ္စာတန်ခိုးဟာ အစွမ်းထက်ပါတယ်။ ဒါကြောင့် ပရိတ်ကြီးမှာပါတဲ့ သစ္စာခိုင္ဓာန်ပြုချက်တွေဟာ ပရိတ်နာယူ(ကိုယ်တိုင်ရွတ်သူ)တွေအတွက်အန္တရာယ်မှ ကာကွယ်နိုင်ခြင်း ဖြစ်ပါတယ်။

မေး။ ။မေတ္တာပို့သတာနဲ့ ဘေးအန္တရာယ်ကို ကာကွယ်တားဆီးမှုဟာ ဘယ်လိုဆက်စပ်ပါသလဲ။

ဖြေ။ ။မေတ္တာသုတ်မှာ တောထဲမှာ တရားကျင့်နေတဲ့ ရဟန်းတော်တွေကို နတ်တွေက ခြောက်လှန့်နေတယ်။ ဘုရားရှင်က မေတ္တာသုတ် ပရိတ်ရွတ် မေတ္တာ ပို့သကြလို့ ဟောတော့ ရဟန်းတွေကလဲ မေတ္တာသုတ် ပရိတ်ကိုရွတ် မေတ္တာပို့သကြတော့ နတ်တွေဟာ ချောက်လှန့်မှု မလုပ်ကြတဲ့ ရဟန်းတွေအပေါ်မှာ ချစ်ခင်လာကြတယ်။ ခန္ဓသုတ်မှာ နဂါးမင်းတွေကို မေတ္တာပို့လို့ မြွေကိုက်ပိုးထိခြင်း မရှိကြဘူး။ ပုဗ္ဗဏှသုတ်ဟာလဲ မေတ္တာပို့တဲ့ သုတ်ပဲ။ မေတ္တာအကျိုးဆယ့်တစ်မျိုးရှိတယ်။မေတ္တာဆိုင်ရာ ဖွင့်ပြချက်တွေလဲ ပိဋကတ်မှာ အများအပြား ရှိတယ်။ ဒါကြောင့် မေတ္တာပို့တာနဲ့ အန္တရာယ်ကင်းရခြင်း ဖြစ်ပါတယ်။

မေး။ ။နတ်ကောင်း နတ်မြတ်တွေက လူကို အန္တရာယ်ကင်းအောင် ပြုလုပ်နိုင်ပါသလား။

ဖြေ။ ။ဘုရားလက်ထက်တော်တုန်းက ဝေသာလီပြည်မှာ ရောဂန္တရကပ်၊ ဒုဗ္ဘိက္ခန္တရကပ်ကြီး ဆိုက်ပါတယ်၊ ဘုရားရှင်နှင့် ညီတော် အာနန္ဒာကိုယ်တိုင် ကြွသွားပြီး ဘုရားရှင် ညွှန်ကြားချက်အရ ညီတော် အာနန္ဒာကိုယ်တိုင် ရတနသုတ် ပရိတ်တော်ကို ရွတ်ပါတယ်။ ရတန ပရိတ်တော်ကို နာ



နတ်ကောင်း နတ်မြတ်တွေ စုဝေးရောက်လာကြတဲ့အခါ မှာ မူလက ဝေသာလီပြည်သားတွေကို ဒုက္ခပေးတဲ့ နတ်ဆိုး ဘုတ် ပြိတ္တာတွေဟာ ထွက်ပြေး တိမ်းရှောင် ကြရတယ်။ နတ်ဆိုး ပြိတ္တာတွေကြောင့် ဖြစ်နေတဲ့ ကပ်ရောဂါဟာလဲ ပျောက်ကင်းကုန်ကြတယ်။ ဘုရားရှင်ဟောတဲ့ ရတနသုတ် ပရိတ်အစမှာ လူတွေဟာ သင် နတ်မြတ် နတ်ကောင်းတွေကို နေ့ရောညပါ ပူဇော်နေကြတယ်။ ကျေးဇူးတုံ့ပြန်သောအားဖြင့် လူတွေကို မေတ္တာထားပြီး မမေ့မလျော့ စောင့်ရှောက်ပေးကြပါလို့ ပါရှိတယ်။ ဒါကြောင့် နတ်ကောင်း နတ်မြတ်တွေ အန္တရာယ်ကို ကာကွယ် တားဆီးနိုင်ခြင်း ဖြစ်တယ်။

မေး။ ။ပရိတ်တော်ဟာ ရွတ်ဖတ်ရ နာကြားရမယ့် တရားလား၊ ကျင့်ကြံအားထုတ်မယ့် တရားလား။

ဖြေ။ ။ပရိတ် တရားတော်တွေဟာ ရွတ်ဖတ်ရ နာကြားရတဲ့ တရားလဲ ဖြစ်ပါတယ်။ အားထုတ်ရတဲ့ တရားလဲ ဖြစ်ပါတယ်။

မေး။ ။ပရိတ် တရားတော် ရွတ်ဖတ် နာကြားလို့ အကျိုးရပုံကို ယုတ္တိသာဓကနဲ့ ပြနိုင်ပါသလား။

ဖြေ။ ။ပြနိုင်ပါတယ်၊ ဘုရားရှင် ဟောခဲ့တဲ့ တရားတော်တွေကို လူတိုင်း သင်အံ လေ့ကျက် မဆောင်ရွက်နိုင်ပါဘူး။ ရဟန်း သံဃာတော်များသာ ဆောင်ရွက်နိုင်ပါတယ်။ ရဟန်း သံဃာတော်များက တစ်ဆင့် ဓကာ ဓကာမတွေကို ဟောပြောပေးရပါတယ်။ ပရိတ်ရွတ်တယ် ဆိုတာက ပါဠိဘာသာနဲ့ ဟောပြောတာ ဖြစ်ပါတယ်။ ဒီလို ပါဠိဘာသာနဲ့ဟောပြောတာကို နာတဲ့လူတွေက နားမလည်ပေမယ့် ပရိတ်တော်ဟာ ဘုရားရှင်ရဲ့ နှုတ်တော်ထွက် ဓမ္မသနာ

တော် ဖြစ်ပါတယ်၊ နာကြားခြင်း ဓမ္မသာဝနကုသိုလ် ရနိုင်ပါတယ်၊ ဒီတရားနာတဲ့ ကုသိုလ်ဟာ ဘေးရန်အန္တရာယ်ကို ကာကွယ် တားဆီးနိုင်တယ်လို့ ယုံကြည်တယ်၊ ယုံကြည်တဲ့အတိုင်းလဲ တကယ်ပဲ အန္တရာယ်ကို ကာကွယ် တားဆီးပေးနိုင်တယ်။ ဒါကြောင့် ပရိတ်ရွတ်ရ ပရိတ်နာရကျိုး ရှိပါတယ်။

ဒုတိယယုတ္တိကတော့ လောကီဆရာတွေဟာ စုန်းတစ္ဆေ နတ်ဆိုးတွေ ဖမ်းစားတဲ့အခါ လောကီ ဂါထာမန္တရားတွေကို မန်းမှုတ်ပြီး နှင်ထုတ်နိုင်ပါတယ်။ ဂါထာမန္တရားတွေမှာ တန်ခိုးအစွမ်း ကုဋ္ဌိပါဒ်တွေ ရှိပါတယ်။ ဒီလို တန်ခိုးရှိတာဟာလဲ ဒီဂါထာမန္တန်တွေကို ရေးသားစီစဉ်သောင်း ဆရာပေါင်းတွေ ထွက်ရပ်ပေါက် ဝိဇ္ဇာဓိုရ်ဂိုဏ်း ဆရာကြီးတွေဟာ သမထကို ကျင့်ကြံအောင်မြင်ပြီးတဲ့ ပုဂ္ဂိုလ်ထူးတွေ ဖြစ်လို့ပါပဲ။

ပရိတ်တရားတော်တွေဟာ အထက်ပါ လောကီဂါထာမန္တရားတွေထက် အဆင့်မြင့် တန်ခိုးထက်တဲ့ ဗုဒ္ဓမန္တန်တော်တွေ ဖြစ်ပါတယ်။ ဘုရားရှင်ဟာ ဣဒ္ဓိအစိန္တေယျ မကြံစည်မတုပနိုင်တဲ့ တန်ခိုးအနန္တနဲ့ ပြည့်စုံပါတယ်။ ဒါကြောင့် ဗုဒ္ဓမန္တန်လို့ ခေါ်ဆိုနိုင်တဲ့ ပရိတ်တော်တွေဟာ ရွတ်ဖတ်ကြားနာရုံနဲ့ အန္တရာယ်ကင်း ဘေးရန်တွေ ရှင်းရခြင်း ဖြစ်ပါတယ်။

တတိယ ယုတ္တိကတော့ ဘုရားရှင်ရဲ့ ဂုဏ်တော်၊ သစ္စာတော်၊ မေတ္တာတော် ပါဝင်တဲ့ ပရိတ်တော်ကို ရွတ်ဖတ်တဲ့အခါမှာ သမ္မာဒေဝ နတ်တွေက လာရောက် နာကြားကြ



ပါတယ်။ ဒီသမ္မာဒေဝနတ်တွေ လာရောက် စုဝေးတဲ့အတွက် အစိမ်းသရဲ၊ ဘီလူး၊ နတ်ဆိုးတွေဟာ အဝေးကို ရှောင်ရှားပေးရပါတယ်။ အရှိန်အဝါရှိတဲ့ ပုဂ္ဂိုလ် တစ်ဦး တစ်ယောက်အတွက် လုံခြုံရေးတွေ စီစဉ်ထားတယ် ဆိုရင် အဲဒီပုဂ္ဂိုလ် အနီးတစ်ဝိုက် ပတ်ဝန်းကျင် တစ်ရပ် တစ်ရွာတစ်မြို့လုံး လုံခြုံစိတ်ချရသလိုပါပဲ။ သမ္မာဒေဝ နတ်တွေက လူသားတွေကို စောင့်ရှောက်ပြီး၊ ဘေးဒုက္ခ မပေးတဲ့ တရားနာဖို့ လာရင်းနဲ့ နတ်မိစ္ဆာ အစိမ်းသရဲတွေကို နှင်ပြီး ဖြစ်သွားတဲ့အတွက် ပရိတ်ရွတ်တာကို နာတဲ့ လူတွေဟာလဲ အန္တရာယ်ကင်း ချမ်းသာခြင်း ဖြစ်ပါတယ်။

ရတနသုတ် ပရိတ်ကို ရှင်အာနန္ဒာရွတ်ပေးလို့ ဝေသာလီပြည်သားတွေ အန္တရာယ် ကင်းပါတယ်။ အင်္ဂုလိမာလထေရ်အစွာဖြူ ပရိတ်တော်ကြောင့် မီးမဖွားနိုင်တဲ့ အမျိုးသမီးတွေ လွယ်ကူစွာ မီးဖွားနိုင်ပါတယ်။ အာဋာနာဋိယ ပရိတ်တော်ကို ရဟန်းသံဃာတွေ ရွတ်ပေးလို့ ဘုတ်တစ္ဆေ အစိမ်းသရဲဖမ်းစားခံနေရသူတွေ ရောဂါ ပျောက်ကင်းသွားခဲ့ပါတယ်။ ယနေ့ လက်တွေ့လဲ ပရိတ်တော်နာယူလို့ အကျိုးခံစားနေရပါတယ်။ နှစ်ပေါင်း ၂၅၀၀-ကျော်သည်အထိ ပရိတ်တော်ရဲ့အကျိုးတွေကို ရွတ်ဖတ်နာယူနေကြတာကတော့ ပရိတ်တော်ရဲ့အကျိုးကို တကယ် လက်တွေ့ခံစားနေရလို့ ဖြစ်ပါတယ်။ ဒါကြောင့် ပရိတ်တော်တွေအပေါ်မှာ သံသယ လုံးဝ မရှိဘဲ ယုံယုံကြည်ကြည် ရှိရှိသေသေ နာယူကြ၊ ရွတ်ဖတ်ကြဖို့ တိုက်တွန်းလိုက်ပါတယ်။

မေး။ ။ဘုရားရှင်ကိုယ်တော်တိုင် ပရိတ်ရွတ်ပြီး အသက်ကို ကယ်တင်ခဲ့တဲ့ထုံး ရှိပါသလား။

ဖြေ။ ။ရှိပါတယ်။ ဝိသာလီကျွန်းနေ ပုဏ္ဏားတစ်ယောက်ဟာ သူ့ရဲ့သား ၇-ရက်ကြာပြီး သေမယ်လို့ နိမိတ်တွေ ရှေ့သူ့က ပြောလို့ ဘုရားထံ ရောက်သွားတယ်။ ဘုရားကလဲ ၇-ရက်ပဲ အသက်ရှည်မယ်လို့ ပြောတယ်။ အသက်ရှည်အောင် လုပ်လို့ရပါသလား ဆိုတော့ ဘုရားရှင်က အိမ်ရှေ့မှာ မဏ္ဍပ်ထိုးပြီး ကလေးကို အလယ်မှာ ထားထား သံဃာ ၈-ပါးဖြစ်စေ၊ ၁၆-ပါးဖြစ်စေ ရွေ့မပြတ် ပရိတ်ရွတ်နိုင်းတယ်။ ၇-ရက်မြောက်ညမှာ ဘုရားရှင်ကိုယ်တိုင် ကြွရောက် ပရိတ်ရွတ်တယ်။ ပရိတ်တရားတော်ကို နာဖို့ နတ်ကောင်း နတ်မြတ်တွေ ရောက်လာတဲ့အတွက် တန်ခိုးနည်းတဲ့ နတ်တွေ၊ ဘီလူးတွေဟာ ဆုတ်ပေးရတယ်။ ဝေဿဝဏ် နတ်မင်းထံက အမိန့်ရလို့ ဒီကလေးကိုစားမယ့် အဝရုဒ္ဓက ဘီလူးဟာလဲ တန်ခိုးကြီးနတ်တွေနားမကပ်ဝံ့လို့ မဏ္ဍပ်နဲ့ ဝေးရာမှာ သွားနေရတယ်။ ကလေးကို စားခွင့်မရတော့ဘူး။ ၈-ရက်မြောက်နေ့မှာ ဘုရားရှင်ထံပို့ပြီး ရှိခိုးခိုင်းတော့ ဘုရားရှင်က အသက်ရှည်ပါစေ(ဒီဃာယုကောဟောတု) လို့ ဆုပေးတယ်။ ဒီကလေး အသက်ရှင်လာတော့ အသက်ရှည်အောင် လုပ်လို့ရပါသလားလို့ ရဟန်းတွေ မေးကြတယ်။ ဘုရားရှင်က အသက် ဂုဏ်သိက္ခာကြီးတဲ့ လူတွေကို ရှိခိုးလေ့ရှိသူဟာ အသက်ရှည်ရုံမဟုတ်၊ အဆင်းလှတယ်၊ ချမ်းသာတယ်၊ အင်အားကောင်းတယ်လို့ ဟောတယ်။

ဒီဝတ္ထုမှာ သိစေချင်တဲ့ လိုရင်းကတော့ ဘုရားရှင်ကိုယ်တော်တိုင် ပရိတ်ရွတ်ပြီး အသက်သေမယ့်လူကို ကယ်



တင်ခဲ့တယ်ဆိုတဲ့အကြောင်း၊ ပရိတ်တရားတော်မှာ ကာကွယ်တားဆီးနိုင်တဲ့ တန်ခိုးရှိတယ်ဆိုတဲ့အကြောင်းပဲ။ ဒါကြောင့် ပရိတ်တရားတော်ကို ယုံယုံကြည်ကြည်နဲ့ နာကြားကြပါ။ တတ်နိုင်ရင် ပရိတ်တရားတော်တွေမှာပါတဲ့ ဂုဏ်တော်တွေ မေတ္တာတွေကို ပွားများကြပါလို့ တိုက်တွန်းလိုက်ပါတယ်။

မေး။ ။ပရိတ်တရားတွေဟာ အကျင့်တရား ဖြစ်ပုံကို ရှင်းပြပါ။

ဖြေ။ ။အထက်မှာ ပြခဲ့တဲ့ ပရိတ်တော်တွေထဲမှာပါတဲ့ အကြောင်းအရာ လေးမျိုးအနက်က နတ်တွေကို မေတ္တာချခြင်း၊ အစောင့်အရှောက် အကာအကွယ်ယူခြင်းတစ်ခုကလွဲရင် ကျန်သုံးခုဟာ အကျင့်တရားတွေ ဖြစ်တယ်။ ဥပမာ မေတ္တာသုတ်ဆိုရင် မေတ္တာပွားနည်း၊ မေတ္တာစိတ်ထားနည်းကို ဖော်ပြခဲ့တဲ့သုတ် ဖြစ်တယ်။ ညွှန်ကြားခဲ့တဲ့အတိုင်း တကယ် မေတ္တာစိတ်ထား၊ မေတ္တာဘာဝနာပွားနေမယ်ဆိုရင် မေတ္တာသုတ်ပရိတ်ကို ရွတ်ဖတ် နာယူနေတာထက် ကုသိုလ်အကျိုး ပိုရှိမှာရှိတယ်။ ပရိတ်ရွတ် ပရိတ်နာတဲ့ မေတ္တာဒေသနာ-မေတ္တာသဝန ကုသိုလ်ထက် မေတ္တာ ဘာဝနာကုသိုလ်က ပိုပြီးအကျိုးရှိတယ်။

ရတနသုတ် ပရိတ်တော်ဟာ ရတနာသုံးပါးရဲ့ ဂုဏ်တော်တွေကို ဖော်ညွှန်းထားတဲ့သုတ် ဖြစ်တယ်။ အဲဒီမှာပါတဲ့ ရတနာသုံးပါးဂုဏ်တွေကို အောက်မေ့ပွားများနေမယ်ဆိုရင် ဗုဒ္ဓါနုဿတိ၊ ဓမ္မာနုဿတိ၊ သံဃာနုဿတိဆိုတဲ့ အနုဿတိ ဘာဝနာ သုံးပါးကို ပွားများရာ ရောက်ပါတယ်။

အာဋာနာဋိယသုတ်၊ ပုဗ္ဗဏှသုတ်တွေ ပရိတ်တော်တွေဟာလဲ ရတနာသုံးပါး ဂုဏ်တော်ကို ဖော်ထုတ် ချီးကျူး

ပူဇော်ထားတာတွေပါပဲ။ ဒီဂုဏ်တော်တွေကို အကာအကွယ်ရ ဆုတောင်းထားတာပါပဲ။ မေတ္တာတရား ပွားများနည်းတွေကို ဟောကြား ထားတာပါပဲ။ မင်္ဂလာသုတ်ဆိုရင် လူတိုင်း နေ့စဉ် ကျင့်ရမယ့် ကျင့်ဝတ်တွေကို မင်္ဂလာလုပ်ငန်းအဖြစ် ဖော်ပြထားတာ ဖြစ်ပါတယ်။ ဒါကြောင့် ပရိတ်တော်တွေကို ရွတ်လဲရွတ်ကြပါ။ လက်တွေ့ကျင့်နိုင်အောင် အနက်အဓိပ္ပာယ် ကျင့်ကြံပွားများနည်းတွေကို ဟောပေးကြပါ။ ပရိတ်တရား တော်ကို နာလဲ နာကြပါ။ အဓိပ္ပာယ်သိအောင် အားထုတ်ပြီး လက်တွေ့ ကျင့်ကြံအားထုတ်မှုလဲ ပြုလုပ်ကြပါလို့ တိုက်တွန်း သတိပေးပါတယ်။

မေး။ ။သမန္တာစက္ကဝါဠေသုတာ နတ်တွေကို တရား နာဖို့ ပင့်တဲ့ဂါထာဖြစ်တယ်။ ပရိတ်ရွတ်ခါနီး နတ်တွေကို ပင့်တာ ဘုရားအလိုတော်ကျ ဟုတ်ရဲ့လား။

ဖြေ။ ။နတ်တွေကို တရားနာဖို့ပင့်တာ ဘုရားရှင်ရဲ့ အလိုတော်ကျ ဖြစ်ပါတယ်။ သမန္တာစက္ကဝါဠေသုစတဲ့ နတ် ပင့်ဂါထာကို ရှေးဆရာတော်ကြီး ရေးထားတာပါ။ ဒီလို ရေးတာကလဲ အလွတ်သက်သက် မဟုတ်ပါဘူး။ ဘုရားရှင် ကိုယ်တော်တိုင် ရတနသုတ် ပရိတ်ကို ဟောတဲ့ နေရာမှာ ဘုရားရှင်ရဲ့ ဂုဏ်တော်တွေကို ဖော်ပြ သစ္စာမပြုခင်မှာ ယာနီဓ ဘူတာနိ သမာဂတာနိ စတဲ့ ဂါထာနဲ့ နတ်အပေါင်းဟာ နှစ်သက်ရွှင်လန်းပြီး ငါဘုရားရဲ့ တရားတော်ကို ရိုသေစွာ နာယူကြကုန်လော့လို့ တိုက်တွန်းတယ်။ အဲဒီ ရတနသုတ် အစကိုကြည့်ပြီး ပရိတ်ရွတ်ခါနီး နတ်တွေ အဆင်သင့်ဖြစ်နေ အောင်၊ အဆင်သင့် ရောက်အောင် သမန္တာ စက္ကဝါဠေသု



ဂါထာနဲ့ နတ်တွေကိုပင့်ဖို့ ရှေးဆရာတော်တွေ စီစဉ်တာ ဖြစ် တယ်။ ဘုရားအလိုတော်ကျလဲ ဖြစ်တယ်။

မေး။ ။လူတွေက နတ်တွေကို ပူဇော် ပသ ထိုက်ပါ သလား။

ဖြေ။ ။ဘုရားရှင်က လူတွေဟာ နတ်တွေကို ပူဇော် ပသ နိုင်တယ်လို့ ဟောတယ်။ အင်္ဂုတ္တိုရ်ပါဠိတော်မှာ လူ တွေဟာ မိမိကြိုးစား ရှာဖွေထားတဲ့ ပစ္စည်းဥစ္စာနဲ့ ဗလိ ငါးပါးကို ပူဇော်ရမယ်။ အဲဒီ ဗလိငါးပါးထဲမှာ ဒေဝတာ ဗလိလို့ ခေါ်တဲ့ နတ်တွေကို ပူဇော်ပသမှု ပြုရမယ်လို့ ပါတယ်။ ဒီလို ဗလိငါးပါးကို ပြုလုပ်ခြင်းဖြင့် စည်းစိမ် ဥစ္စာ တိုးတက်ကြောင်း ဖြစ်တယ်လို့ ဟောထားပါတယ်။ အပရိဟာနိယ ခေါ် တိုးတက်ကြီးပွားရေး တရား ၇-ပါး ထဲမှာ မိမိတို့ ပူဇော်ပသအပ်ဖြစ်တဲ့ နတ်တွေကို ဝတ္တရားမပျက် ပူဇော်ပသရမယ်လို့ ဟောထားပါတယ်။

ဝိနည်းမဟာဝါမှာလဲ ပညာရှိပုဂ္ဂိုလ်ဟာ သီလဝန္တရဟန်း တော်ကို ဆွမ်းလုပ်ကျွေးရမယ်။ နတ်တွေကို ပူဇော် ပသ အမျှဝေရမယ်။ အပူဇော်ခံတဲ့ နတ်တွေဟာ သူတို့ပူဇော် တဲ့ လူတွေကို ကျေးဇူးတုံ့ပြန်ပူဇော်ကြတယ်။ သူတို့မြတ်နိုး တဲ့ လူသားကို သားသမီးရင်းပမာ အမြဲတမ်း စောင့်ရှောက် လေ့ရှိတယ်။ နတ်တွေ အစောင့်ရှောက်ခံရတဲ့ လူဟာ ကောင်း မြင်တဲ့ အရာတွေကိုသာ တွေ့ကြုံရတယ်လို့ ဟောထားပါတယ်။ ကြက်ဆူပင်စောင့်နတ်ကို အစဉ်မှန်မှန်နဲ့ ပူဇော်တဲ့အတွက် ကြက် ဆူပင်စောင့်နတ်က ကျေးဇူးတုံ့ဆပ်တဲ့ အနေနဲ့ ရွှေအိုးတွေ တူးဖော်ပေးတယ်လို့ ဇာတ်တော်မှာ ဟောထားတယ်။

ဘုရားရှင်ဟာ လူတွေက နတ်တွေကို ပူဇော်ပသ နေသာကို ... မြင်မြင်တဲ့ ရတနသုတ်အစမှာ လူတွေဟာ သင်နတ်မင်းတို့ကို မနေ့ရောညပါ ပူဇော်ပသ နေကြသားပဲ။ ဒါကြောင့် လူသားတွေကို မမေ့ဘဲထားပြီး မမေ့မလျော့ စောင့်ရှောက် ကြကုန်လော့လို့ တိုက်တွန်းပြီးမှ ရတနာသုံးပါးရဲ့ ဂုဏ်တော်ကို ထုတ်ဖော်ဟောကြား ထားပါတယ်။ ဒါကြောင့် လူတွေဟာ နတ်တွေကို ပူဇော်ပသ သင့်ပါတယ်။

မေး။ နတ်တွေကို ပူဇော်ပသရမယ် ဆိုတာက နတ်တွေကို ကိုးကွယ်ရမယ်လို့ ဆိုလိုပါသလား။

ဖြေ။ ပူဇော်ပသရမယ် ဆိုတာက ကိုးကွယ် ဆည်းကပ်ရမယ်လို့ ဆိုတာ မဟုတ်ပါဘူး။ ဗလိဆိုတာက ပေးကမ်းထောက်ပံ့ခြင်း၊ ကျွေးမွေးခြင်းလို့ အဓိပ္ပာယ် ရပါတယ်။ ဒါကြောင့် ဗလိ ၅ ပါးမှာ ဒေဝတာဗလိ–နတ်တွေကို ပသခြင်း၊ အတိထိဗလိ–ဧည့်သည်ကို ကျွေးမွေးခြင်း၊ ဉာတိဗလိ–ဆွေမျိုးတွေကို ပေးကမ်းခြင်း၊ ပုဗ္ဗပေတဗလိ–ကွယ်လွန်သူ ဆွေမျိုးတွေအတွက် လှူဒါန်းအမျှဝေခြင်း၊ ရာဇဗလိ–ဘုရင်ကို အခွန်ပေးဆောင်ခြင်း ဆိုပြီး ဗလိ ၅-မျိုး၊ ပေးကမ်းထောက်ပံ့ခြင်း ၅ ပါးကို ပြပါတယ်။ နတ်တွေကို ပူဇော်ပသဆိုတာက နတ်တွေကို စားဖွယ် သောက်ဖွယ်နဲ့ သင်ပြောက်ခြင်း၊ ကုသိုလ်ကောင်းမှု ပြုပြီးတိုင်းအခါ အမျှဝေခြင်းကို လုပ်တာပါပဲ။ ဒါကြောင့် မြန်မာတွေက ဗလိနတ်စာ ကျွေးဖွယ်လို့ ခေါ်ကြတာ ဖြစ်တယ်။



နတ်တွေကို မကိုးကွယ်ရဘူးဆိုတဲ့ အကြောင်း၊ ကိုတော့ ဗုဒ္ဓဝင်မှာ အတိအလင်း ဟောထားပါတယ်။ ... သာဟာ တော၊ တောင်၊ ဥယျာဉ်၊ သစ်ပင်ကြီးတွေ နတ်ကွန်းတွေကို ကိုးကွယ်ဖို့ လူတွေကို ဟောတယ်။ ဒါကို ဘုရားရှင်သိတော်မူတော့ ဒီလို တော၊ တောင်၊ ဥယျာဉ်၊ သစ်ပင်ကြီး၊ နတ်ကွန်းတွေကို ကိုးကွယ်မှုဟာ ဘေးကင်းသော မြတ်သော ကိုးကွယ်မှု မဟုတ်၊ ဒီလို ကိုးကွယ်မှုကြောင့် ဒုက္ခအပေါင်းမှ မလွတ်နိုင်။ ရတနာသုံးပါးကိုသာ ကိုးကွယ်မှုဟာ ဘေးကင်းသော မွန်မြတ်သော ကိုးကွယ်မှု ဖြစ်တယ်။ ရတနာသုံးပါး ကိုးကွယ်မှုသာ ဒုက္ခပယ်သိမ်းမှ ကင်းငြိမ်း ချမ်းသာမယ်လို့ ဟောထားတယ်။ ဒါကြောင့် နတ်တွေကို မကိုးကွယ်ရဘူး၊ တင်မြှောက် ပသရမယ်၊ အမျှဝေ မေတ္တာ ပို့ရမယ်။ နတ်တွေကို ရှိခိုးကန်တော့ဖို့ မလိုကြောင်း၊ နတ်ကိုယ်တိုင် ကုန်သည်တွေကို ပြောတဲ့စကားအရ ဝိမာနဝတ္ထု အဋ္ဌကထာမှာ ဖော်ပြထားတာကို တွေ့ရတယ်။

အခါတစ်ပါး ကုန်သည်တွေဟာ လှည်းပေါင်း၊ တစ်ထောင်နဲ့ ကုန်ပစ္စည်းများ တင်ဆောင်ပြီး ကုန်ကူးကြရာ၊ သဲကန္တာရမှာ မျက်စိလည် လမ်းမှားပြီး ဒုက္ခရောက်နေကြလို့ အဲဒီ သဲကန္တာရထဲမှာ ဒုက္ခရောက်နေကြတဲ့ လူတွေကို စောင့်ရှောက်ဖို့ ဝေသဝဏ်နတ်မင်းရဲ့ စေခိုင်းချက်အရ ဗိမာန်နဲ့ ရောက်ရှိနေတဲ့ ပါယာသိရာဇည နတ်တစ်ဦးက ကယ်တင်လိုက်တယ်။ အဲဒီ ကယ်တင်ခဲ့တဲ့ ကျေးဇူးတရားကို ဆပ်တဲ့အနေနဲ့ ကုန်သည်တွေက အဲဒီနတ်ကို ရှိခိုး ကန်တော့ပသဖို့ ခွင့်တောင်းကြတယ်။ နတ်က အာမြော

လိုက်သလဲဆိုရင် 'အမောင်ကုန်သည်တို့၊ အကျွန်ုပ်ကို ဂရုစိုက် ပူဇော်ဖို့ မလိုပါ၊ သင်တို့ဟာ လူ့အသက် သတ်ခြင်း စတဲ့ မကောင်းမှုကို ရှောင်ကြဉ်ပြီး တရားတော်နဲ့ လျော်စွာ အလှူပေးခြင်း၊ ဥပုသ်စောင့်ခြင်း စတဲ့ ကုသိုလ်ကောင်းမှုကို ပြုလုပ်ကြမယ်ဆိုရင် အကျွန်ုပ်ကို ပူဇော်ရာ ရောက်ပေတယ်။ အခု သင်တို့ကို ကယ်တင်တာဟာလဲ သင်တို့အထဲမှာ ရတနာသုံးပါးကို ရိုသေကိုင်းညွှတ်တဲ့ ဥပါသကာတစ်ယောက် ပါလာတယ်။ အဲဒီ သူတော်ကောင်း၊ တစ်ယောက်အတွက် ကျန်တဲ့လူ အားလုံးဟာလဲ အသက်ချမ်းသာရ ရကြတယ်။ ဒါကြောင့် အကျွန်ုပ်နတ်ကို ဂရုစိုက်ပြီး ကန်တော့နေစရာ မလိုဘူး' လို့ ပြောလိုက်တယ်။

မေး။ ။နတ်တွေဟာ မေတ္တာထားပြီး စောင့်ရှောက်အောင် ပူဇော်ပသရမယ်လဲဆိုတယ်၊ နတ်တွေကို ကိုးကွယ်လို့ အားမကောင်းဘူးလဲ ဆိုတယ်၊ စကားနှစ်ရပ် ဆန့်ကျင်မနေဘူးလား။

ဖြေ။ ။မဆန့်ကျင်ပါဘူး။ လူအချင်းချင်းတောင်မှ ပေးကမ်းထောက်ပံ့ ချီးမြှင့်ထားမယ်ဆိုရင် ကိုယ့်မှာ ကိစ္စပေါ်တဲ့အခါ အကူအညီရနိုင်ပါတယ်။ နတ်တွေကို တင်မြှောက်ပသထားတဲ့အတွက် နတ်တွေက မေတ္တာထားပြီး စောင့်ရှောက်ရင် အစိမ်းသရဲ နတ်ဆိုးတွေရဲ့ ဘေးရန်က လွတ်ကင်းနိုင်ပါတယ်။ နတ်တွေက ဒီလောက်ပဲ ကူညီနိုင်ပါတယ်။ ဒီအကူအညီလောက် မျှော်မှန်းပြီးတော့ပဲ နတ်တွေကို ပူဇော်ပသကြတာ ဖြစ်ပါတယ်။

ကိုးကွယ်တယ် ဆိုတာက လူချမ်းသာ၊ နတ်ချမ်းသာ၊ နိဗ္ဗာန်ချမ်းသာအတွက် အခုဘဝချမ်းသာ၊ နောင် တမလွန် ချမ်းသာအတွက် ဖြစ်ပါတယ်။ ဒီ အခုဘဝ နောက်ဘဝ ချမ်းသာကိုတော့ ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်မှသာ ရနိုင်ပါတယ်။ ဘုရားမ[illegible]နဲ့ ဘုရားရှင်လက်ထက်တော်မှာ တော၊ တောင်၊ ဥယျာဉ်၊ [illegible]ပင်ကြီး နတ်ကွန်းတွေကို ကိုးကွယ်နေကြတဲ့ လူတွေရဲ့ ရည်ရွယ်ချက်က ဒီလိုကိုးကွယ်လိုက်ရင် တောစောင့်နတ် တောင်စောင့်နတ်တွေက စောင့်ရှောက်မလို့၊ စည်းစိမ်ဥစ္စာ ရာနာတွေတိုးမယ်၊ နောက်ဘဝအတွက်လဲ ချမ်းသာအောင် ကောင်းကင်ဘုံ ရောက်အောင် ရောက်လတ်အောင် ကယ်တင်လိမ့်မယ်လို့ မျှော်လင့်ကိုးကွယ်ကြတယ်။ အမှန်မှာတော့ နတ်တွေဟာ စည်းစိမ်ဥစ္စာလဲ မပေးနိုင်ဘူး။ နောင်တမလွန် သုဂတိလဲ မပို့ဆောင်နိုင်ပါဘူး။ အထက်မှာပြခဲ့သလို အစိမ်းသရဲ နတ်ဆိုးတွေရဲ့ ဘေးရန်က ကာကွယ်ပေးနိုင်တာလောက်ပဲ ရှိပါတယ်။ လူသားတွေဟာ ကိုယ့်ကိုယ်ကို ကိုယ်အားမကိုးဘဲ၊ ကိုယ်ပြုသမျှ ကံသာလျှင် အမွေအနှစ်ဖြစ်တယ်လို့ မခံယူပဲ နတ်ကွန်းတွေကို ရှိခိုးဆုတောင်းပြီး ပျင်းမနေအောင်လို့၊ တောတောင်သစ်ပင် နတ်တွေကို ကိုးကွယ်ဆည်းကပ်မနေအောင်လို့၊ ဒီ နတ်စသည် ကိုးကွယ်မှုဟာ ဘေးကင်းမှန်ဖြစ်တဲ့ ကိုးကွယ်နည်းမဟုတ်ဘူးလို့ ဟောပါတယ်။ အခုလောက်ရှင်းပြရင် ပူဇော်ပသတာနဲ့ ကိုးကွယ်ဆည်းကပ်တာ မတူတဲ့အကြောင်း သဘောပေါက်လောက်ပါပြီ။



မေး။ ။ပရိတ်ကြီး ၁၁-သုတ် အကုန်မကျက်နိုင်လို့ တစ်သုတ်လောက်ပဲ ကျက်နိုင်ရင် ဘယ်သုတ်ကိုကျက်ရ ကောင်းမလဲ။

ဖြေ။ ။တစ်သုတ်ပဲ ကျက်နိုင်တယ်ဆိုရင်တော့ မေတ္တသုတ်ဟာ အကောင်းဆုံးပါပဲ။ နောက်ပိုင်းမေတ္တာအပိုင်းမှာ

မေတ္တာနဲ့ ပက်သက်တဲ့ ဒီမှတ်ပုံတွေကို သိရမှာလဲ တစ်ကြောင်း၊ ရတနာသုတ်၊ ဓဇဂ္ဂသုတ်တွေထက် ရွတ်ရဖတ်ရ ဖို့ပြီး ချောမော လွယ်ကူတာလဲ တစ်ကြောင်း၊ သမထ ကမ္မဋ္ဌာန်း ၄၀-ထဲမှာ မေတ္တာကမ္မဋ္ဌာန်းဟာ တစ်ပါးအပါ အဝင် ဖြစ်တာလဲ တစ်ကြောင်းကြောင့် မေတ္တာသုတ်ကို ကျက် မှတ် ရွတ်သင့်ပါတယ်။

ရွတ်ရုံမက မေတ္တာဘာဝနာ ပွားများဖို့ လက်တွေ့ကိုပါ ကျင့်ကြံနိုင်ဖို့အတွက် ပါဠိပုဒ် တစ်ပုဒ်တစ်ပုဒ်ရဲ့ အဆုံးမှာ မြန်မာလို ဆိုလိုရင်းကို ထည့်ပေးထားတယ်။ အထက်ပါ ပါဠိကို ရွတ်တဲ့အခါ ဒီပါဠိဟာ အဓိပ္ပာယ်ရှိတယ်လို့ သိမှတ် ရွတ်ရမယ်။ ပါဠိကို မရွတ်ပဲ မြန်မာလို ဆိုလိုရင်းလေးတွေကို စိတ်မှာ ပွားများအောက်မေ့နေတာဟာလဲ မေတ္တာဘာဝနာ ပွားနေတာရောက်ပါတယ်။ မေတ္တာသုတ်ဟာ အန္တရာယ်တွေကို ကာကွယ်တားဆီးနိုင်တဲ့ ပရိတ်အရံအတားလဲ ဟုတ်တယ်၊ မေတ္တာကမ္မဋ္ဌာန်းလဲ ဟုတ်တယ်၊ လူတွေ နတ်တွေလဲ ချစ်ခင် တယ်၊ ဒါကြောင့် မေတ္တာသုတ်ကိုရွတ်ပါ၊ မေတ္တာဘာဝနာ ကို လက်တွေ့ပွားများပါ။

မေး။ ။အချို့ဘုန်းကြီးတွေက မေတ္တာသုတ် ရွတ်ခုမှာ ယသာနုဘာဝတော ဟာက စရွတ်တယ်၊ အချို့က ကရဏီယမေတ္တ ကုသလေနက စရွတ်တယ်၊ ဘယ်လို ထူးခြားပါသလဲ။

ဖြေ။ ။ယသာနုဘာဝတောစတဲ့ ဂါထာက ဘုရား ဟော မေတ္တပရိတ်မဟုတ်ဘူး၊ မေတ္တာသုတ်ကို ရွတ်ဖတ်ပွား များချင်လာအောင် မေတ္တာရဲ့ အကျိုးအာနိသင်တွေကိုပြကာ



ဂုဏ်အင်ချီးကျူးတဲ့ အမှာဂါထာသာ ဖြစ်ပါတယ်။ ရှေး ဆရာတော်ကြီးတွေက စီစဉ်ရေးထည့်ထားတာ ဖြစ်ပါတယ်။

ဒါကြောင့် တချို့ဆရာတော်တွေက မေတ္တာသုတ်အမှာ ကို ရွတ်မနေကြတော့ပဲ ဘုရားဟော မေတ္တာသုတ်ရဲ့ အစ ကရဏီယမေတ္တကုသလေနကစပြီး ရွတ်တာဖြစ်ပါတယ်။ အချို့ ဆရာတော်တွေကတော့ မေတ္တာသုတ်ကို မရွတ်ခင်မှာ ရွတ်အား ရှိအောင် မေတ္တာသုတ်ရဲ့အကျိုး၊ ဂုဏ်အင် အာနိသင်တွေကို အသိသင့်သိထိုက်လို့ ရှေးဆရာတော်ကြီးများက စီစဉ်ထားတာ ဖြစ်တယ်ဆိုပြီး ပရိတ်မှာ ယသာနုဘာဝတောကစပြီး ရွတ် ပါတယ်။ ဆရာတော်ကြီးတွေရဲ့ ပရိတ်အမှာက စရွတ်ရွတ်၊ ဘုရားဟော ပရိတ်တော်ကပဲ စရွတ်ရွတ် ကြိုက်သလို ရွတ်နိုင် ပါတယ်။

မေး။ ။ယသာနုဘာဝတော ယက္ခာ၊ နေဝဒဿေန္တိ ဘီသနံ မေတ္တာပရိတ် တန်ခိုးကြောင့် နတ်တွေက ကြောက် မက်ဖွယ် အဆင်းကို မပြဘူး၊ မခြောက်လှန့်ဘူးဆိုတာ ဘာကို ဆိုလိုပါသလဲ။

ဖြေ။ ။ဒီစကားက မေတ္တာသုတ် ပရိတ်တော်ရဲ့ အစွမ်းထက် နိဒါန်းကို နောက်ခံပြုထားတဲ့ စကားဖြစ်တယ်။ မေတ္တာသုတ် ပရိတ် ဖြစ်ပေါ်လာပုံ နိဒါန်းကို သိထားဖို့လိုတယ်။

ဘုရားရှင်လက်ထက်တော်တုန်းက ရဟန်း ၅၀၀ တို့ဟာ ဘုရားမြတ်ထံမှ ကမ္မဋ္ဌာန်းကို သင်ယူပြီး ဟိမဝန္တာနားက တောအုပ်တစ်ခုကိုသွားကာ သစ်ပင်ရင်းတွေမှာ တရား အား

ထုတ်ကြတယ်။ ရဟန်းတော်တွေက သီလရှိတော့ နတ်တွေဟာ သစ်ပင်တွေပေါ်မှာ မနေနိုင်ကြပဲ မြေကြီးပေါ် ဆင်းနေရ တယ်။ ဒါကြောင့် ရဟန်းတွေမနေဝံ့အောင် ကြောက်မက် ဖွယ် အဆင်းတွေပြ၊ အသံတွေအော်ပြီး ခြောက်လှန့်ကြတယ်။ ရဟန်းတွေကလဲ ထိတ်လန့်ပြီး သမာဓိမရ၊ တရားကို နှလုံး မသွင်းနိုင်တာနဲ့ ဘုရားထံ ပြန်လာကြတယ်။ ဘုရားရှင်က အကျိုးအကြောင်းသိပြီးတော့ ရဟန်းတွေကို ထိုတောကိုပြန် သွားပြီး မေတ္တသုတ်ပရိတ်ကို ရွတ်ကြ၊ မေတ္တာကမ္မဋ္ဌာန်း ပွားများကြဆိုပြီး မေတ္တသုတ်ကို ဟောတယ်။ ရဟန်းတော် တွေကလဲ တောကိုပြန်သွားပြီး မေတ္တသုတ်ရွတ် မေတ္တာဘာ ဝနာ ပွားများကြတော့ နတ်တွေက ချစ်ခင်လာပြီး မခြောက် မလှန့်ကြတော့ပဲ နတ်တွေက ရဟန်းတွေကို ကြည်ညိုပြီး စောင့် ရှောက်ကြတယ်။ ဝတ်ကြီးဝတ်ငယ်တွေကိုပင် ပြုလုပ်ပေးကြ တယ်။ ရဟန်းတွေကလဲ မေတ္တာဘာဝနာကိုပွားပြီး မေတ္တာကို အခြေခံကာ ဝိပဿနာဘာဝနာကို အားထုတ်ခြင်းဖြင့် ဝါ တွင်းမှာပင် ရဟန္တာ ဖြစ်ကုန်ကြတယ်။

ဒီဇာတ်သမ်းကို နောက်ခံပြုပြီးတော့ ယက္ခာ နေဝဒဿယုံ့ ဘီသနံ နတ်တွေဟာ ကြောက်မက်ဖွယ်ကို မပြကြတော့ဘူးလို့ ရေးထားတယ်။ သုခံ သုပတိ သုတ္တော စ ပါပကံ နပဿတိ ချမ်းသာစွာ အိပ်ရ၊ နိုးရပြီး အိပ်မက်ဆိုး မမက်ဘူးဆိုတာက မေတ္တာအကျိုး ၁၁-မျိုးထဲက သုံးမျိုးကို နမူနာထုတ်ပြ ထားတာ ဖြစ်တယ်။ မေတ္တာပရိတ် ကို ရွတ်ချင်အောင် မေတ္တာ ရဲ့ဂုဏ်ကို ချီးကျူးတင်ပြတာ ဖြစ်တယ်။

မေး။ ။ကရဏီယမေတ္တကုသလေန စတဲ့ နှစ်ဂါထာက ဘာကို ပြသလဲ။



ဖြေ။ ကရဏီယမေတ္တ ကုသလေနစတဲ့ ဂါထာက မေတ္တာ ပုဗ္ဗဘာဂပဋိပဒါ။ မေတ္တာဘာဝနာမပွားမီ မေတ္တာရှေ့ပြေး အကျင့်ကို ဖော်ပြတာ ဖြစ်ပါတယ်။ မေတ္တာမပွားမီ စွမ်းနိုင် ရန်အစ "လူတို့မှာတပ်မက်တွယ်တာမှု မရှိရဘူး" အဆုံး ၁၅ ပါးတဲ့ တရားတွေနဲ့ ပြည့်စုံရမယ်လို့ ဆိုလိုတယ်။

မေး။ ။နစ ခုဒ္ဒ မာစရေ ကိဉ္စိ ယေန ဝိညူ ပရေ ဥပ ဝဒေယျုံ အပိုဒ်ဟာ မေတ္တာဘာဝနာ အစလား။

ဖြေ။ မဟုတ်သေးပါဘူး။ မေတ္တာဘာဝနာပွားမယ့်လူ ဟာ အကုသိုလ်ဒုစရိုက် အသေးအဖွဲ့ နည်းနည်းလေးမှ မလုပ် ရဘူးလို့ အာကရဏီယ=အရှောင်တရားကိုပြပါတယ်။

သုခိနောဝ ခေမိနော ဟောန္တုကစပြီး ဒိဋ္ဌိဉ္စ အနုပဂ္ဂမ ရှေ့အထိ မေတ္တာဘာဝနာကို ပြပါတယ်။ ဒိဋ္ဌိဉ္စဂါထာက တော့ မေတ္တာဘာဝနာသမထမှ တစ်ဆင့်တက်ပြီး ဝိပဿနာ စခန်းသို့ တက်လှမ်းကာ သောတာပန်ဖြစ်၍ အဆင့်ဆင့် ရဟန္တာအထိ တက်သွားပုံကို အကျဉ်းပြပါတယ်။ မေတ္တာ ဘာဝနာဟာ ဆည့်စား သမထကမ္မဋ္ဌာန်းကလေးမဟုတ်ဘဲ ရဟန္တာဖြစ်သည်အထိ အဆင့်ဆင့်တက်နိုင်ပုံ မေတ္တာဘာဝနာ ရဲ့ အစွမ်းကို ပြပါတယ်။

ဒီလောက် အစွမ်းထက်တဲ့ လောကီလောကုတ္တရာအကျိုး ၂-ပါးကို ရစေနိုင်တဲ့ မေတ္တာသုတ်ပရိတ်ကိုရွတ်ပါ။ အောက် ပါ အဓိပ္ပာယ်တွေကို ဆင်ခြင် ပွားများပါ။ ရွတ်ဖို့ပါဠိနဲ့ ပွားများဖို့ မြန်မာလို အကျဉ်းချုပ်ကို ယှဉ်တွဲပြလိုက်ပါတယ်။

(မြန်မာပြန် အတိအကျ မဟုတ်ပါ။ လိုရင်းအကျဉ်း ဖြစ်ပါတယ်။ ဆင်ခြင်ပွားများရလွယ်အောင်လို့ စကားပြေ အရေး ပုံစံနဲ့ ပြလိုက်တယ်)။

၁။ ယဿာနုဘာဝတော ယက္ခာ၊ နေဝ ဒဿေန္တိ
ဘီသနံ။
ယမှိ စေဝါနုယုဉ္ဇန္တော၊ ရတ္တိန္ဒိဝ မတန္ဒိတော။

၂။ သုခံ သုပတိ သုတ္တော စ၊ ပါပံ ကိဉ္စိ န ပဿတိ၊
ဧဝမာဒိ ဂုဏူပေတံ၊ ပရိတ္တံ တံ ဘဏာမ ဟေ။

မေတ္တသုတ်ပရိတ်တော်၏ တန်ခိုးတော်ကြောင့် နတ်တွေက မခြောက်မလှန့်ကြတော့ မေတ္တာသုတ် ပရိတ်တော်ကို နေ့ည မပြတ် ရွတ်ဖတ်ပွားတဲ့လူတွေဟာ ချမ်းသာစွာ အိပ်ရတယ်။ အိပ်မက်ဆိုးများ မမြင်မက်ကြစေတဲ့ ဂုဏ် ၁၁-ပါးနှင့် ပြည့်စုံတဲ့ မေတ္တသုတ်ကို ငါတို့ ရွတ်ဖတ်ကြစို့။

၃။ ကရဏီယ မတ္ထကုသလေန၊ ယန္တသန္တံ ပဒံအဘိ
သမေစ္စ၊ သက္ကောဥဇူစ သုဟုဇူစ၊ သုဝစောစဿ
မုဒုအနတိမာနီ။

ငြိမ်းအေးသော နိဗ္ဗာန်ကို မျက်မှောက်ပြုလိုပြီး အကျိုးစီးပွားလိမ္မာသူဟာ သိက္ခာသုံးပါးကို ကျင့်သုံးရမည်။ ကျ စွမ်းနိုင်ရမည်၊ ဖြောင့်မတ်ရမည်။ အလွန်ဖြောင့်မတ်ရမည်၊ ဆုံးမလွယ်ရမည်၊ စိတ်နူးညံ့ရမည်။ မာန်မာန မကြီးရ။

၄။ သန္တုဿကောစ သုဘရောစ၊ အပ္ပကိစ္စော စ
သလ္လဟုကဝုတ္တိ၊ သန္တိန္ဒြိယောစ နိပကောစ၊ အပ္ပ
ဂဗ္ဘော ကုလေသု အနနုဂိဒ္ဓေါ။



ရောင့်ရဲလွယ်ရမည်၊ မွေးမြူလွယ်ရမည်၊ ကိစ္စနည်းပါးရမည်၊ ပေါ့ပါးသွက်လက်ရမည်၊ ငြိမ်သက်တဲ့ ဣန္ဒြေရှိရမည်၊ ပညာဉာဏ် ရင့်ကျက်ရမည်၊ ယဉ်ကျေးသိမ်မွေ့ရမည်။ လူတို့၌ တွယ်တာမက်မောခြင်း မရှိရဘူး။

၅။ နစ ခုဒ္ဒမာစရေ ကိဉ္စိ၊ ယေန ဝိညူ ပရေ ဥပဝ
ဒေယျုံ၊ သုခိနော ဝ ခေမိနော ဟောန္တု၊ သဗ္ဗ
သတ္တာ ဘဝန္တု သုခိတတ္တာ။

ပညာရှိတို့ ကဲ့ရဲ့ပြစ်တင်မည့် မကောင်းမှု ဒုစရိုက်ကို အသေးအဖွဲ့ အနည်းငယ်မျှပင် မပြုလုပ်ရ။ သတ္တဝါမှန်သမျှကို ချမ်းသာကြပါစေ၊ ဘေးရန်ကင်း၍ အေးချမ်းသာယာကြပါစေ၊ စိတ်ချမ်းသာကြပါစေလို့ (မေတ္တာပို့ရမယ်)။

၆။ ယေကေစိ ပါဏဘူတတ္ထိ၊ တသာဝါ ထာဝရာဝ
နဝသေသာ၊ ဒီဃာဝါ ယေဝ မဟန္တာ၊ မဇ္ဈိမာ
ရဿကာ အဏုကထူလာ။

၇။ ဒိဋ္ဌာဝါ ယေဝ အဒိဋ္ဌာ၊ ယေဝဒူရေ ဝသန္တိ
အဝိဒူရေ။
ဘူတာဝ သမ္ဘဝေသီဝ၊ သဗ္ဗသတ္တာ ဘဝန္တု
သုခိတတ္တာ။

ထိတ်လန့်တတ်တဲ့ ပုထုဇဉ်သေက္ခ၊ မထိတ်လန့်တတ်တဲ့ ရဟန္တာ။ ရှည်သော၊ တိုသော၊ ကြီးသော၊ ဝိုင်းသော၊ အလတ်စားဖြစ်သော၊ ငယ်သော သတ္တဝါများ၊ အဝေး အနီးရှိ သတ္တဝါများ၊ မြင်ဖူး မမြင်ဖူးသည့် သတ္တဝါများ၊ ပဋိသန္ဓေ ပြန်မနေရသည့် ရဟန္တာ၊ ပြန်နေမည့် ပုထု

သတ္တပုဂ္ဂိုလ်များ၊ လောကရှိ ဤသတ္တဝါအားလုံး ကိုယ်စိတ်နှစ်ဖြာ ချမ်းသာကြပါစေ။

၈။ နပရော ပရံ နိကုဗ္ဗေထ၊ နာတိမညေထ ကတ္ထစိ နံ ကိဉ္စိ။
ဗျာရောသနာ ပဋိဃသညာ၊ နာညမညဿ ဒုက္ခ မိစ္ဆေယျ။

တစ်ယောက်ကိုတစ်ယောက် စဉ်းလဲကောက်ကျစ် လှည့်ပတ်မှု မပြုကြပါစေနဲ့၊ ဘယ်အရပ်မှာ ဘယ်ပုဂ္ဂိုလ်ကိုမဆို မထီမဲ့မြင် မပြုကြပါစေနဲ့၊ တစ်ယောက်ကိုတစ်ယောက် ကိုယ်နှုတ်ဖြင့်လည်းကောင်း၊ ဒေါသစိတ်ဖြင့်လည်းကောင်း ဆင်းရဲအောင် မလုပ်ပါစေနဲ့။

၉။ မာတာ ယထာ နိယံ ပုတ္တ-မာယုသာ ဧကပုတ္တ မနုရက္ခေ။
ဧဝမ္ပိ သဗ္ဗဘူတေသု၊ မာနသံ ဘာဝယေ အပရိမာဏံ။

မိခင်သည် တစ်ဦးတည်းသော မိမိရင်သွေးကို အသက်နှင့်လဲကာ ကာကွယ် စောင့်ရှောက်သလို သတ္တဝါများအပေါ် အတိုင်းမသိ မေတ္တာစိတ်ကို ပွားနိုင်ကြပါစေ။

၁၀။ မေတ္တဉ္စ သဗ္ဗလောကသ္မိံ၊ မာနသံ ဘာဝယေ အပရိမာဏံ။
ဥဒ္ဓံ အဓော စ တိရိယဉ္စ၊ အသမ္ဗာဓံ အဝေရ မသပတ္တံ။



အထက်ဘက် အောက်ဘက်နဲ့ အလယ်ဘက်တွေရှိသတ္တဝါတွေအပေါ်မှာ အပိုင်းအခြားမရှိ ကျယ်ပြန့်တဲ့ မေတ္တာစိတ်နဲ့ အတွင်းရန်အပြင်ရန်တွေ ကင်းကြပါစေ (လို့ပွားများပါ)။

၁၁။ တိဋ္ဌံ စရံ နိသိန္နောဝါ၊ သယာနော ယာဝတာဿဝိတမိဒ္ဓေါ၊ ဧတံ သတိံ အဓိဋ္ဌေယျ၊ ဗြဟ္မမေတံ ဝိဟာရ မိဓမာဟု။

မေတ္တာဈာန်သတိနဲ့ နှလုံးကို မြတ်သောနေခြင်း ဖြစ်တယ်လို့ ဘုရားရှင် ဟောထားတဲ့အတွက် ရပ်ရင်း၊ သွားရင်း၊ ထိုင်ရင်း၊ လဲလျောင်းရင်း၊ အိပ်မပျော်တဲ့အခါ မေတ္တာဘာဝနာ ပွားများနေကြရမယ်။

၂။ ဒိဋ္ဌိဉ္စ အနုပဂမ္မ၊ သီလဝါ ဒဿနေန သမ္ပန္နော၊ ကာမေသု ဝိနေယျ ဂေဓံ၊ နဟိ ဇာတုဂ္ဂဗ္ဘသေယျ ပုနရေတိ။

ထိုပထမဈာန်ကို ရပြီးတဲ့ယောဂီဟာ အတ္တဒိဋ္ဌိ အစွဲမရှိအောင် ပြုပြီးနောက် သောတာပတ္တိမဂ်ဉာဏ်ကိုရ၍ ဝတ္ထုအာရုံကာမဂုဏ်တွေကို ပယ်ရှင်းနိုင်တဲ့အတွက် တစ်ဖန် မိ သန္ဓေနေစရာ မရှိတော့တဲ့ နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်တယ်။

...o...

# (၁၁)

## မေတ္တာပို့ခြင်း

မေး။ ဗုဒ္ဓဘာသာတွေရဲ့ နေ့စဉ်ကျင့်ဝတ်မှာ ပရိတ်ရွတ်ပြီး ဘာလုပ်ပါသလဲ။

ဖြေ။ ။မိမိကိုယ်မှာ ကျရောက်မယ့် အန္တရာယ်တွေ မကျရောက်အောင် အကာအကွယ် အတားအဆီး ပရိတ်တော်ကို ရွတ်ပြီးတဲ့နောက် သတ္တဝါအားလုံး ကျန်းမာချမ်းသာပါစေ၊ ဆင်းရဲ ကင်းပါစေ၊ ဘေးရန်ကင်းပါစေ၊ စိုးရိမ်ကင်းပါစေလို့ မေတ္တာပို့ရပါတယ်။ စာတွေထဲမှာ မေတ္တာပွားတယ်လို့ သုံးပါတယ်။ သတ္တဝါအားလုံး ချမ်းသာပါစေလို့ သတ္တဝါတွေကို မေတ္တာပို့လွှတ်တဲ့သဘော ဆက်ရောက်လို့ မြန်မာတွေကတော့ မေတ္တာပို့တယ်လို့ ခေါ်ပါတယ်။

မေး။ ။မေတ္တာဆိုတာ ဘာလဲ။

ဖြေ။ ။မေတ္တာဆိုတာက အဘိဓမ္မာ တရားကိုယ်အားဖြင့်တော့ မကြမ်းတမ်း၊ မပြစ်မှားတဲ့ အဒေါသ စေတသိက်ပါ။ ဒါပေမယ့် အဒေါသစေတသိက်အားလုံးဟာ မေတ္တာမဟုတ်ပါဘူး။ သီလ ဆောက်တည်တဲ့အခါ ဒါနပြုတဲ့အခါမှာလည်း



အဒေါသ ပါတာပဲ။ အဲဒီ အဒေါသက မေတ္တာမဟုတ်ဘူး။ သတ္တဝါအားလုံး၊ ဒါမှမဟုတ် ကိုယ်မေတ္တာပို့ချင်တဲ့လူကို စိတ်ထဲမှာရှုမှန်းပြီး ချမ်းသာပါစေ၊ ဘေးရန်ကင်းပါစေ၊ စိုးရိမ်ကင်းပါစေ၊ ဆင်းရဲကင်းပါစေလို့ ပွားနေတဲ့အခိုက်မှာ ဖြစ်တဲ့ အဒေါသကိုသာ မေတ္တာလို့ ခေါ်ပါတယ်။

မေး။ ။ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ ဆိုတာ ဘာလဲ။

ဖြေ။ ။သူတစ်ပါးရဲ့အကျိုးစီးပွားကိုလိုလားခြင်း။ ဆင်းရဲဒုက္ခရောက်နေတဲ့ ဒုက္ခိတ သတ္တဝါတွေကို ဒုက္ခဆင်းရဲ- ဆင်းရဲဒုက္ခမှ ကင်းလွတ်ကြပါစေလို့ ပွားများတာကို ကရုဏာ သနားကြင်နာခြင်းလို့ ခေါ်တယ်။

ချမ်းသာ ကြွယ်ဝပြီး နေမှု စားမှု အဆင်ပြေနေတဲ့ သုခိတ သတ္တဝါတွေကို အာရုံပြုပြီး ယထာ လဒ္ဓ သမ္ပတ္တိတော မာဝိဂစ္ဆန္တု ရပြီးတဲ့ စည်းစိမ်ဥစ္စာတွေ တည်မြဲကြပါစေလို့ ဝမ်းမြောက်ဝမ်းသာ ဖြစ်နေတာကို မုဒိတာ-သူတစ်ပါး ချမ်းသာနေတာကို ဝမ်းမြောက်ခြင်းလို့ ခေါ်တယ်။

မေတ္တာ၊ ကရုဏာ၊ မုဒိတာ တစ်ခုခုမဖြစ်ဘဲ သတ္တဝါတွေ အပေါ်မှာ ကမ္မဿကာ ။ကံသာလျှင် ကိုယ်ပိုင်ဥစ္စာ ရှိကြတယ်လို့ ကမ္မဿကတာချထားတဲ့ သဘောကို ဥပေက္ခာလို့ ခေါ်တယ်။

မေး။ ။မေတ္တာ၊ ကရုဏာ၊ မုဒိတာ ဥပေက္ခာလေးပါးကို ဘာဖြစ်လို့ အပ္ပမညာ ဗြဟ္မဝိဟာရ၊ ဗြဟ္မစရိယ တရားလို့ ခေါ်သလဲ။

ဖြေ။ ။ဒီ တရား လေးပါးဟာ အတိုင်းအဆ မရှိ များပြားတဲ့ သတ္တဝါတွေကို အာရုံပြုပြီး ပွားများရတဲ့အတွက်

အပ္ပမညာ တရားလို့ ခေါ်တယ်။ ဒီတရားလေးပါးကို မှ[...] များနေခြင်းဟာ မြင့်မြတ်တဲ့ နေခြင်းဖြစ်လို့ ဗြဟ္မဝိဟာ[...] လို့ ခေါ်တယ်။ မြင့်မြတ်တဲ့ ပုဂ္ဂိုလ်တွေရဲ့ အကျင့်တရား[...] ဖြစ်လို့ ဗြဟ္မစရိယတရား မြန်မာလို ဗြဟ္မစိုရ် တရားလို့ [...] ခေါ်တာ ဖြစ်ပါတယ်။

မေး။ ။မေတ္တာမပွားခင် ဘာလုပ်ဖို့လိုသလဲ။

ဖြေ။ ။မေတ္တာ ဘာဝနာကိုမပွားခင် ဒေါသရဲ့ အပြစ်[...] အနာအဆာတွေကို သဘောပေါက်အောင် ဆင်ခြင် သုံး[...] သပ်ဖို့ လိုတယ်။ သည်းခံခြင်း၊ ခန္တီတရားရဲ့ အကျိုး အာ[...] သင်တွေကို ဆင်ခြင်သုံးသပ်ဖို့လိုတယ်။ ဘာကြောင့်လဲ [...] တော့ မေတ္တာပို့တယ် ဆိုတာ ဒေါသကို ပယ်ဖျောက်[...] သည်းခံခြင်း၊ အလေ့အကျင့်ကို မွေးမြူကြတာ ဖြစ်တယ်။ အပြစ် အနာအဆာတွေကို သေသေချာချာ သိမြင်ပြီးမှ[...] တစ်ခုခုကို ပယ်စွန့်နိုင်ဖို့ လွယ်ကူပါတယ်၊ အကျိုး အာနိသံ[...] တွေကို ထင်သင်ရှားရှား မြင်ထားမှလဲ ရအောင်ကြိုးစားအား[...] ထုတ်ချင်တယ်။ ဒါကြောင့် မေတ္တာမပို့ခင် ဒေါသရဲ့ အပြစ်[...] သည်းခံခြင်းရဲ့ အကျိုးတွေကို ဆင်ခြင် အောက်မေ့ဖို့ လို[...] တယ်။

မေတ္တာသုတ် မှာတော့ မေတ္တာ မပွားခင် ကြိုတင်[...] ကျင့်ကြံအားထုတ်ရမယ့် တရား ၁၅ ပါးကို ဟောထား[...] တယ်။ မေတ္တာပုဗ္ဗဘာဂတရား ၁၅ ပါးလို့ ခေါ်ပါတယ်။ အဲဒီ မေတ္တာ ရှေ့ပြေး တရား ၁၅ ပါးကတော့ မေ[...] မေတ္တာသုတ် ပရိတ်တော်ရဲ့ မြန်မာပြန်မှာ (စာမျက်နှာ ၂၈၁)မှာ ရှမ်းနိုင်ရမှာက ဒုစရိုက်မှုကို အနည်းငယ်မျ[...]

[...]င်လဲ မကျင့်ရ အထိ ၁၅ ပါးပဲ ဖြစ်ပါတယ်။ အဲဒီမှာပဲ [...]ကြည့်မှတ်ကြပါ။ မေတ္တာမပွားမီ အဲဒီတရား ၁၅ ပါးနဲ့ [...]ည့်စုံအောင်လုပ်ပြီးမှ မေတ္တာပွားကြပါ။

မေး။ ။လူတစ်ယောက်ကို မေတ္တာ ဘယ်နှစ်ခု ပို့နိုင်[...]ပါသလဲ။ နမူနာ ပို့ပြပါ။

ဖြေ။ ။လူတစ်ယောက်ကို မေတ္တာ ၄ ခုသာ ပို့နိုင်ပါ[...]တယ်။ ဥပမာအားဖြင့်—

| ပါဠိလို | မြန်မာလို |
|---|---|
| မမ အာစရိယော | ငါ့ရဲ့ဆရာ( )သည် |
| ၁။ အဝေရော ဟောတု | ရန်ကင်းပါစေ၊ |
| ၂။ အဗျာပဇ္ဇော ဟောတု။ | ကြောင့်ကြကင်းပါစေ၊ |
| ၃။ အနီဃော ဟောတု၊ | ဆင်းရဲကင်းပါစေ၊ |
| ၄။ သုခီ အတ္တာနံ ပရိဟရန္တု၊ | ချမ်းချမ်းသာသာ ရှိပါ |

စေလို့ ဒီလေးပါးပဲ ပို့နိုင်ပါတယ်။

မေး။ ။ငါးရာနှစ်ဆယ် ရှစ်ဘွယ်မေတ္တာ အကျဉ်းပို့ပုံကို ဖော်ပြပါ။

| ပါဠိလို | မြန်မာလို |
|---|---|
| ၁။ သဗ္ဗေ သတ္တာ | ၁။ သတ္တဝါအားလုံး |
| ၂။ သဗ္ဗေ ပါဏာ | ၂။ အသက်ရှိအားလုံး |
| ၃။ သဗ္ဗေ ဘူတာ | ၃။ ဖြစ်နေသူအားလုံး |
| ၄။ သဗ္ဗေ ပုဂ္ဂလာ | ၄။ ပုဂ္ဂိုလ်အားလုံး |
| ၅။ သဗ္ဗေ အတ္တဘာဝ ပရိယာပန္နာ | ၅။ ကိုယ်ခန္ဓာ ရှိသူ အားလုံး |

ဖြစ်နေသူအားလုံး ရန်ကင်းပါစေ .... .... .... ၄
ပုဂ္ဂိုလ်အားလုံး ရန်ကင်းပါစေ .... .... .... ၄
ကိုယ်ခန္ဓာရှိသူအားလုံး ရန်ကင်းပါစေ .... .... .... ၄
မိန်းမအားလုံး ရန်ကင်းပါစေ .... .... .... ၄
ယောကျ်ားအားလုံး ရန်ကင်းပါစေ .... .... .... ၄
အရိယာအားလုံး ရန်ကင်းပါစေ .... .... .... ၄
ပုထုဇဉ်သတ္တဝါအားလုံး ရန်ကင်းပါစေ .... .... .... ၄
နတ်အားလုံး ရန်ကင်းပါစေ .... .... .... ၄
လူအားလုံး ရန်ကင်းပါစေ .... .... .... ၄
အပါယ်ဘုံသားအားလုံး ရန်ကင်းပါစေ .... .... .... ၄

၄၈

အရှေ့အရပ်မှာ သတ္တဝါအားလုံး ရန်ကင်းပါစေ ၄
" သက်ရှိအားလုံး ရန်ကင်းပါစေ ၄
" အပါယ်ဘုံသားအားလုံး ရန်ကင်းပါစေ ၄

၄၈

အနောက်အရပ်မှာ သတ္တဝါအားလုံး ရန်ကင်းပါစေ.... ၄

.... .... .... .... .... .... .... .... ....

အနောက်အရပ်မှာ အပါယ်ဘုံသားအားလုံး ရန်ကင်းပါစေ.... ....၄

၄၈

ကျန်အရပ်တွေမှာလဲ ၄၈ စီရအောင် ပွားများလိုက်ရင် ၅၂၈-သွယ်မေတ္တာ ဖြစ်ပါတယ်။



## ပါဠိတော်မူရင်း

အထက်ပါ ၅၂၈ သွယ်သော မေတ္တာအကျယ် ပို့နည်းဟာ မေတ္တာပို့ မူရင်းပါဠိတော်ဖြစ်တဲ့ ပဋိသမ္ဘိဒါမဂ် ပါဠိတော် မေတ္တာကထာမှာ လာတဲ့နည်း ဖြစ်ပါတယ်။ ဒါကြောင့် သဒ္ဓါတရား ထက်သန်ပြီး အချိန်ရသူတွေဟာ အထက်ပါ ပါဠိတော်နည်းအတိုင်း အကျယ်ပို့သင့်ပါတယ်။ အချိန်မရရင်တော့ ဆရာတော်ကြီးများ နည်းအတိုင်း အကျဉ်းပဲ ဆိုကြပါ။

မေး။ ။မေတ္တာဟာ ပို့လို့ ရောက်ပါသလား။

ဖြေ။ ။မေတ္တာဟာ ပို့လို့ ရောက်ပါတယ်။

စရိယာပိဋက ပါဠိတော်မှာ "ချစ်သား၊ သာရိပုတြာ၊ ငါဘုရားဟာ သုဝဏ္ဏသာမဖြစ်စဉ် သိကြားမင်း ဖန်ဆင်းပေးသော ကျောင်း၌နေကာ တောထဲမှာ ခြင်္သေ့၊ ကျား၊ တို့ကို မေတ္တာပွားနေတယ်။ ခြင်္သေ့၊ ကျားသစ်၊ ဝံ၊ ကျွဲ၊ သမင်၊ ဝက်တို့နှင့်အတူ နေခဲ့တယ်။ တိရစ္ဆာန်တွေက ငါ့ကို မကြောက်၊ ငါကလဲ တိရစ္ဆာန်တွေကို မကြောက်၊ မေတ္တာစွမ်းအား ထောက်ပံ့အားသည် ဖြစ်၍ ထိုအခါ တောထဲမှာ ငါမွေ့လျော်ခဲ့တယ်"ဟု ဘုရားရှင်က ဟောပါတယ်။

မြန်မာနိုင်ငံမှာ ထင်ရှားကျော်ကြားတဲ့ တောရဆရာတော် ဦးသီလဟာ တောထဲမှာ ကျားတွေ ဆင်တွေနဲ့ အတူတူ အန္တရာယ်မရှိဘဲ နေခဲ့တယ်။ ဒီနေရာမှာ သုဝဏ္ဏသာမနဲ့ ဆရာတော် ဦးသီလတို့ရဲ့ မေတ္တာဟာ ဆင် ကျား ခြင်္သေ့ စတဲ့ တောရိုင်းသတ္တဝါတွေဆီ ရောက်လို့သာ တောရိုင်းကောင်တွေဟာ သုဝဏ္ဏသာမနဲ့ ဆရာတော် ဦးသီလတို့ကို မေတ္တာတုံ့ပြန်

ဒီသေယျဇာတ် ကောရဇဇာတ် ရေး ဇမ္ဗူမင်းတို့ကို ထောက်ကြည့်ရင် မေတ္တာပို့သူ မေတ္တာရှင်ကို မေတ္တာနှံမတုံ့ပြန်တဲ့လူဟာ မေတ္တာတန်ခိုးတော်အရ ပူလောင်ပြင်းပြ ဒုက္ခရောက်ရတယ်။ မေတ္တာရှင်ဆီကို လာရောက် ဦးညွှတ်ရတယ်ဆိုတာနဲ့ မေတ္တာပို့လို့ ရောက်တယ်ဆိုတဲ့ သက်သေသာဓကတွေ ဖြစ်ပါတယ်။

မေး။ ။ငါက သူ့ကို ငါးရာနှစ်ဆယ့် ရှစ်သွယ်သော မေတ္တာနဲ့ပဲ ချစ်ပါတယ်ဆိုတဲ့ စကားဟာ မှန်ရဲ့လား။

ဖြေ။ ။မမှန်ပါဘူး။ အထက်မှာ ပြခဲ့တဲ့အတိုင်း လူတစ်ယောက်ဟာ တစ်ယောက်ကို မေတ္တာစိတ် ၄-ခုနဲ့သာ ချစ်နိုင်ပါတယ်။ လူတစ်ယောက်ကို မေတ္တာလေးခုသာ ပို့နိုင်ပါတယ်။ အထက်ပါ ၅၂၈-သွယ် မေတ္တာပို့ကို ကြည့်ရင် ရှင်းလင်းပါလိမ့်မယ်။ ရှေးခေတ် မေတ္တာစာ အချို့မှာ "ငါးရာနှစ်ဆယ့်ရှစ်သွယ် မေတ္တာ သွန်းလောင်းကာဖြင့်" စတဲ့ ပုဂ္ဂိုလ်တစ်ဦးဆီ ရေးတဲ့ မေတ္တာစာထဲမှာ မှားယွင်းသုံးနှုန်းလာခဲ့တာ ဖြစ်ပါတယ်။

တစ်နည်းအားဖြင့်တော့ ပြောသူရဲ့ ရည်ရွယ်ချက်က ကိလေသာချစ်နဲ့ မချစ်ဘူး၊ မေတ္တာချစ်ပဲ ချစ်ဘယ်လို့ ပြောလိုတာကို မေတ္တာချစ်လို့မပြောဘဲ ငါးရာနှစ်ဆယ့်ရှစ်သွယ် မေတ္တာနဲ့ ချစ်တယ်လို့ အသုံးအနှုန်း လွဲမှားသုံးမိတယ်လို့ ယူဆနိုင်ပါတယ်။

မေး။ ။အချစ်နဲ့မေတ္တာဟာ တူသလား၊ မတူဘူးလား။

ဖြေ။ ။အဘိဓမ္မာသဘောအရ အချစ်နဲ့ မေတ္တာဟာ မတူပါဘူး၊ အချစ်ဆိုတာက တဏှာလောဘ စေတသိက်



ဖြစ်ပါတယ်။ မေတ္တာဆိုတာက အဒေါသကုသိုလ် စေတသိက် ဖြစ်ပါတယ်။ အချစ်နဲ့ပတ်သက်ပြီး တစ်ခါတစ်ရံ စိတ်ချမ်းသာ ပျော်ရွှင်မှုရှိသလို ခံခါစိတ်ညစ်ရတယ်။ ပူပန်သောကရောက်ရတယ်၊ စိုးရိမ်ပူဆွေးရတတ်ပါတယ်၊ မေတ္တာက အမြဲတမ်း အေးမြကြည်လင်နေတဲ့အတွက် မေတ္တာစိတ် ကိန်းဝပ်နေတဲ့ ပုဂ္ဂိုလ်ဟာ အမြဲစိတ်ချမ်းသာပါတယ်။

ဒါပေမယ့် နေ့စဉ် မြန်မာတို့ အရပ်သုံးမှာတော့ မေတ္တာနဲ့ အချစ်ကို ခပ်တူတူလို့ သုံးနေကြပါတယ်၊ အချစ်ဆိုတဲ့ စကားလုံးဟာ နည်းနည်းရိုင်းတယ်။ ညစ်ညမ်းတယ်လို့ ယူဆပြီး အချစ်အစား မေတ္တာဆိုတဲ့ စကားလုံးကို သုံးနေကြပါတယ်။ ဘယ်သူက ဘယ်သူ့ကို မေတ္တာရှိနေတယ်၊ လူငယ်ချင်း မေတ္တာမျှနေကြတယ်ဆိုတာက ကိလေသာလောဘအချစ်ကို ယဉ်ကျေးအောင် သုံးသားတာ ဖြစ်ပါတယ်။

မေး။ ။မိဘက သားသမီးကို ချစ်တာဟာ မေတ္တာချစ်လား၊ တဏှာချစ်လား။

ဖြေ။ ။မိဘက သားသမီးကိုချစ်တာ၊ သားသမီးက မိဘကိုချစ်တာ၊ လင်မယားဆွေမျိုးသားချင်း အပြန်အလှန်ချစ်ကြတာဟာ သံယောဇဉ်မကင်းတဲ့ တဏှာချစ်ဖြစ်တယ်။ ကျမ်းဂန်တွေမှာတော့ ဂေဟာသိတပေမ=အိမ်မှာမှီတဲ့အချစ်၊ အိမ်စာ အိမ်သားချစ်လို့ခေါ်တယ်။ ဘုရားရှင်ရဲ့ မွေးဖက်တော်ယဉ်ကျော်ကြီး ဆန္နမထေရ်ဟာ ဘုရားရှင်ကို ဂေဟာသိတပေမနဲ့ ချစ်ခင်နေတဲ့အတွက် ဘုရား သက်တော်ထင်ရှားရှိတုန်းမှာ တရားထူးမရဘူး။ ဘုရားပရိနိဗ္ဗာန်စံပြီးမှ တရားထူးရတယ်။ ဒီ-အိမ်သူအိမ်သားချစ်၊ သမီးရည်းစားချစ်မျိုးကို မေတ္တာတုလို့ခေါ်တယ်။

မိဘ သားသမီး ညီအစ်ကိုမောင်နှမအချင်းချင်း၊ မေတ္တာ စစ်နဲ့ မချစ်နိုင်ဘူးလို့ပဲ ဘာ့ မှတ်ရမှာ။ အထူးသဖြင့် မိဘက သားသမီး၊ သားသမီးက မိဘအပေါ်မှာ အကျိုးစီးပွား လိုလားနေတာ၊ ကျန်းမာစေလိုတာဟာ စေတနာကြည်လင်တဲ့ မေတ္တာဖြစ်တယ်။ လိပ်မကြီးဟာ သဲထဲမှာဥတားပြီး အဝေးက မေတ္တာပို့နေလို့ ဥတွေဟာ မပုပ်ဘူးလို့ဆိုတယ်၊ သားငယ်ကို နို့တိုက်နေတဲ့နွားမကြီးကို မုဆိုးက လှံနဲ့ထိုးတာ လှံဟာမပူပဲ ယမ်းရွက်လို ပျော့ခွေကျသွားတယ်လို့ ဝိသုဒ္ဓိမဂ်မှာ ပြထား ပါတယ်။

ဒါကြောင့် အိမ်သူအိမ်သားချင်းချင်း မေတ္တာစစ်နဲ့ ချစ်နိုင်တယ်လို့ မှတ်နိုင်ပါတယ်။

။မေး။ မေတ္တာရဲ့ အနီးကပ်ရန်သူနဲ့ အဝေးရန်သူတွေ ဟာ ဘာတွေလဲ။

ဖြေ။ ။ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ (၃၇) ပါးထဲမှာ တဏှာပေမ— ဂေဟသိတပေမေ ဆိုတဲ့ အိမ်သူ အိမ်သားချစ်တာ မေတ္တာ အယောင်ဆောင်ပြီး လူသားတွေကို လှည့်ဖျားတယ်လို့ ပြထားပါတယ်၊ အဲဒီတဏှာချစ် မေတ္တာအတုဟာ အနီးရန်သူ ဖြစ်တယ်။

ဒေါသစိတ်ကတော့ အဝေးရန်သူဖြစ်တယ်။ အဝေးရန်သူ ဝင်ရောက်လာတာကိုတော့ ကိုယ်ကိုယ်တိုင်ရော အခြားလူကပါ အလွယ်တကူ သိနိုင်ပေမယ့် အယောင်ဆောင်ပြီး ဝင်လာတဲ့ မေတ္တာတု အနီးရန်သူ ဝင်လာတာကိုတော့ အေးလူလဲ သိဖို့



ခဲယဉ်းတယ်၊ တဏှာကိုရင်ကိုယ်တိုင်တောင်မှ ဘယ်အချိန်မှာ ဘယ်လိုဝင်လာမှန်း မသိလိုက်ကြဘူး၊ ဒါကြောင့် မေတ္တာ ဘာဝနာ ပွားတဲ့နေရာမှာ အဝေးရန်သူရော အနီးရန်သူပါ မဖျက်ဆီးနိုင်ဖို့ အထူးသတိပြုရမယ်။

မေး။ ။ဘယ်ပုဂ္ဂိုလ်တွေကို မေတ္တာစပို့လို့မရဘူးလဲ၊ ဘာကြောင့်လဲ။

ဖြေ။ ။လုံးဝမချစ်ခင်တဲ့ပုဂ္ဂိုလ်၊ သိပ်ပြီးစွဲလမ်းချစ်ခင် နေတဲ့ပုဂ္ဂိုလ်၊ အလယ်အလတ်ချစ်ခင်နေတဲ့ပုဂ္ဂိုလ်၊ ရန်သူပုဂ္ဂိုလ်၊ ဒီ လေးယောက်ကို မေတ္တာစ,မပို့ရဘူး။ ဘာကြောင့်လဲ ဆိုတော့ လုံးဝမချစ်မခင်တဲ့ သာမန် လူတစ်ယောက်ကို မေတ္တာစိတ် သက်ဝင်ပွားများဖို့ မလွယ်လို့ ဖြစ်ပါတယ်။ သိပ်ပြီးချစ်ခင် စွဲလမ်းနေတဲ့ လူကျတော့လဲ မြင်းထန်တဲ့ တဏှာချစ်ကနေ ပျော့ပျောင်းနူးညံ့တဲ့ မေတ္တာအဖြစ် ပြန် ပြောင်းဖို့ မလွယ်တဲ့အတွက် ဖြစ်ပါတယ်။ အလယ်အလတ် ချစ်ခင်တဲ့လူကိုလဲ စ,စချင်း မေတ္တာအရှိန်မရခင်မှာ မေတ္တာ စိတ် သက်ဝင်ပွားများဖို့ မလွယ်လို့ပါပဲ၊ ရန်သူအပေါ်မှာ မေတ္တာထားဖို့ မလွယ်တာကတော့ အထင်ရှားဆုံးဖြစ်လို့ ဒီပုဂ္ဂိုလ်လေးယောက်ကို မေတ္တာစ,မပို့ရပါဘူး။ အခြား ပုဂ္ဂိုလ်သူပို့ပြီးလို့ မေတ္တာအရှိန် ရလာတဲ့အခါကျတော့ အဲဒီ ပုဂ္ဂိုလ်လေးယောက်ကိုလဲ မေတ္တာပို့ရပါတယ်။ မေတ္တာ ပို့အစတွင်တော့ ဒီလေးယောက်ကို မပို့ရပါဘူး။

မေး။ ။ဘယ်ပုဂ္ဂိုလ်မျိုးကို မေတ္တာလုံးဝမပို့ရဘူးလဲ၊ ဘာကြောင့်လဲ။

ဖြေ။ ။လိင်မတူတဲ့ပုဂ္ဂိုလ်၊ ဥပမာ ယောကျာ်းက မိန်းမကို၊ မိန်းမက ယောကျာ်းကို တစ်ယောက်တည်း ခွဲခြား မေတ္တာမပွားရဘူး၊ ဘာကြောင့်လဲဆိုတော့ ဆန့်ကျင်ဘက်လိင်ဖြစ်လို့ မေတ္တာဟာ ရာဂအဖြစ် ပြောင်းလဲပြီး တဏှာရာဂတွေ ထကြွသောင်းကျန်းလာနိုင်လို့ ဖြစ်တယ်။

ပြီးတော့ သေသွားတဲ့လူကို မေတ္တာလုံးဝ မပွားရဘူး။ ဘာကြောင့်လဲဆိုတော့ သေသွားပြီးတဲ့ ပုဂ္ဂိုလ်ကို မိမိစိတ်မှာ ထင်မြင်သာအောင် အာရုံပြုလို့ မရတဲ့အတွက်ဖြစ်တယ်။

မေး။ ။ပထမဆုံး မေတ္တာ ဘယ်သူ့ကို ပို့ရသလဲ။ ဘာကြောင့်လဲ။

ဖြေ။ ။မေတ္တာပို့မယ့်လူဟာ ပထမဆုံး ကိုယ့်ကိုယ်ကို မေတ္တာပို့ရမယ်။ ပို့နည်းကတော့—

အဟံ အဝေရော ဟောမိ၊ ငါသည် ရန်ကင်းပါစေ၊
အဗျာပဇ္ဈော ဟောမိ၊ စိုးရိမ်ကင်းပါစေ၊
အနီဃော ဟောမိ၊ ဆင်းရဲကင်းပါစေ၊
သုခီ အတ္တာနံ ပရိဟရာမိ၊ ချမ်းသာပါစေ—

လို့ ပို့ရမယ်။

ဘာကြောင့် ကိုယ့်ကိုယ်ကို ပထမ ပို့ရသလဲ ဆိုတော့ ငါဟာ ရန်ကင်းချင်တယ်။ ဆင်းရဲကင်းပြီး ချမ်းသာချင်တယ်။ အသက်ရှည်ချင်တယ်။ ငါလိုပဲ အခြား သတ္တဝါတွေလဲ ချမ်းသာချင်မယ်၊ အသက်ရှည်ချင်မယ်လို့ ကိုယ်ချင်းစာစိတ် ဖြစ်ပေါ်မယ်၊ ဒီကိုယ်ချင်းစာစိတ်ဟာ မေတ္တာစိတ်ကို ဖြစ်ပေါ်စေမယ်။ ဒါကြောင့် မေတ္တာပွားတဲ့အနေနဲ့ ကိုယ့်ကိုယ်ကို ပထမဆုံး မေတ္တာပို့ရမယ်။



မေး။ ။ကိုယ့်ကိုယ်ကို မေတ္တာပို့ပြီး ဘယ်သူ့ကို ပို့ရမလဲ။

ဖြေ။ ။ကိုယ့်ကိုယ်ကို မေတ္တာပို့ပြီးရင် မိမိ ချစ်ခင်မြတ်နိုးတဲ့ ချီးမွမ်းဖွယ် အလေးပြုဖွယ်ကောင်းတဲ့ ဆရာသမား ကျေးဇူးရှင် စသည်တို့ကို ပို့ရမယ်။ အဲဒီ ချစ်ခင်လေးစားတဲ့ ပုဂ္ဂိုလ်ရဲ့ အကျင့်သီလ၊ အကြားအမြင် ဗဟုသုတ ရှိပုံတွေကို စိတ်မှာ အောက်မေ့ပြီး ငါ့ရဲ့ဆရာ ..............သည် ဘေးရန်ကင်းပါစေ၊ စိုးရိမ်ကင်းပါစေ၊ ဆင်းရဲကင်းပါစေ၊ ကိုယ်ရောစိတ်ပါ ချမ်းသာအေးမြပါစေလို့ မေတ္တာလေးချက် ပို့ရမယ်။

ချစ်ခင်လေးစားတဲ့လူကို မေတ္တာပို့ပြီးရင် သိပ်ချစ်ခင်တဲ့ ပုဂ္ဂိုလ်ကို မေတ္တာပွားရမယ်၊ ပြီးတော့ အလယ်အလတ် ချစ်ခင်တဲ့ သူကို မေတ္တာပွားရမယ်၊ ပြီးတော့ ကိုယ့်မှာ ရန်သူရှိရင် ရန်သူကို မေတ္တာပွားရမယ်၊ ရန်သူ မရှိရင် ရန်သူကို ပွားစရာမလိုဘူး။ ရန်သူကို ပွားရမယ်ဆိုလို့ ပုဂ္ဂိုလ် တစ်ယောက်ယောက်ကို ရန်သူအဖြစ်နဲ့ သတ်မှတ်ပြီး ရန်သူမဖြစ်ဖြစ်အောင်လုပ်ပြီး ပွားစရာမလိုဘူး။ အခုလို ကိုယ့်ကို ပထမ၊ ချစ်ခင်လေးစားသူ ဒုတိယ၊ အလွန်ချစ်သူ တတိယ၊ အလတ်ချစ်သူ စတုတ္ထ၊ ရန်သူကို ပဉ္စမ ပို့ရမယ်ဆိုတာက မေတ္တာဘာဝနာကို ပွားများမယ့် မေတ္တာကမ္မဋ္ဌာန်းထိုင်မယ့် ပုဂ္ဂိုလ်တွေအတွက် ဖြစ်တယ်။

မေး။ ။သာမန် ဗုဒ္ဓဘာသာတွေဟာ ကိုယ့်ကိုယ်ကို မေတ္တာပို့ပြီးရင် ဘယ်သူ့ကို မေတ္တာပို့ကြသလဲ။

မျိုးရဲ့ညက် အမြင့်ပေါက်မှ အမျိုးမျိုးရှိလို့ သတ္တဝါတွေကို အမျိုးမျိုး ခေါ်ထားတယ်။ မေတ္တာပို့မယ့်လူတွေက ကြိုက်ရာ ပုဂ္ဂိုလ်အမည်ကို ခေါ်ပြီး မေတ္တာပို့နိုင်အောင်လို့ အမျိုးမျိုး ပြထားတယ်။ ဒါကြောင့် ပုဂ္ဂိုလ် သတ္တဝါတွေရဲ့ နာမည် အမျိုးစုံတွေကို ခေါ်ပြီး မေတ္တာမပို့ဘဲ သတ္တဝါအားလုံး ပို့ပို့၊ ပုဂ္ဂိုလ်အားလုံး၊ ယောကျ်ား၊ မိန်းမ၊ အားလုံးတော့ တစ်ခုခုကိုခေါ်ပြီး မေတ္တာပို့ရင်လဲ ပြီးပါတယ်။ ဒါကြောင့် ရှေးဆရာတော်ကြီးတွေက အောက်ပါအတိုင်း သတ္တဝါတွေကို ကုန်းနေ၊ ရေနေ၊ ကောင်းကင်နေ သုံးမျိုးခွဲပြီး မေတ္တာပို့ကြပါသေးတယ်။ ဗုဒ္ဓဘာသာတွေ အရများတဲ့ မေတ္တာပို့ ဖြစ်လို့ ဖော်ပြလိုက်ပါတယ်။

ဥဒ္ဓံ ယာဝ ဘဝဂ္ဂါစ၊ အဓော ယာဝ အဝီစိတော။
သမန္တာ စက္ကဝါဠေသု ယေသတ္တာ။
(ပထဝီစရာ)၊ အဗျာပဇ္ဈာ နိဝေရာစ၊ နိဒ္ဒုက္ခာစ နုပဒ္ဒဝါ။

အထက်ဘဝဂ်၊ အောက်အဝီစိ၊ အတွင်း စကြဝဠာရှိ (ကုန်းနေ) သတ္တဝါအားလုံး ကြောင့်ကြကင်းကြပါစေ၊ ဘေးရန်ကင်းပါစေ၊ ဆင်းရဲကင်းပါစေ၊ ဥပဒ်ကင်းပါစေ။

ပါဠိ ပထဝီစရာ နေရာမှာ ဥဒကေစရာ လဲပြီး မြန်မာ ကုန်းနေသတ္တဝါ နေရာမှာ ရေနေသတ္တဝါ အစားသွင်းပြီး ရေသတ္တဝါတွေကို မေတ္တာပို့ပါ။

ပထဝီစရာ နေရာမှာ အာကာသေစရာ လဲပြီး ကုန်းနေ သတ္တဝါနေရာမှာ ကောင်းကင်နေသတ္တဝါလို့ ပြောင်းတာ ကောင်းကင်သတ္တဝါကို မေတ္တာပို့ပါ။



မေး။ ။မေတ္တာပို့လို့ ဘာအကျိုးတွေရသလဲ။

ဖြေ။ ။မေတ္တာပို့တဲ့အတွက် ပို့တဲ့လူမှာ အောက်ပါ မေတ္တာအကျိုး ၁၁-မျိုးကို ရပါတယ်။

အိပ်နိုးချမ်းသာ၊ ယုတ်မာမမက်၊ နှစ်သက် လူ
နတ်၊ စောင့်မှတ် နတ်များ၊ ဆိပ်ကားမနှံ့၊ စိတ်ပြန့်
တည်ကြည်၊ ရွှင်သည့်မျက်နှာ၊ သေခါမတွေ၊ လား
ဗြဟ္မာ၊ ဆယ့်တစ်ခါဟု၊ မေတ္တာနိသင်၊ ကျိုး
ဆက်ထင်သည်၊ ရှင်လူအများ ကျင့်ရာသော်....

ဆိုတဲ့ ဝိသုဒ္ဓိမဂ် နိဿယဆရာတော်ရဲ့ လင်္ကာအရ—

၁။ ချမ်းသာစွာ အိပ်ရတယ်။
၂။ ချမ်းသာစွာ နိုးရတယ်။
၃။ အိပ်မက်ဆိုး မမက်ဘူး။
၄။ လူတွေချစ်တယ်။
၅။ နတ်တွေချစ်တယ်။
၆။ နတ်တွေက စောင့်ရှောက်တယ်။
၇။ မီးမလောင်၊ အဆိပ်မတက်၊ လက်နက်မထိဘူး။
၈။ စိတ်တည်ငြိမ်တယ်။
၉။ မျက်နှာကြည်လင် ရွှင်ပြုံးတယ်။
၁၀။ ကြည်ကြည်လင်လင် သေရတယ်။
၁၁။ သေရင် ဗြဟ္မာပြည် ရောက်နိုင်တယ်။

အဲဒီ အကျိုး ၁၁ မျိုးကို ခံစားရတယ်။

ပြီးတော့ ဣတိဝုတ် ပါဠိတော် မေတ္တာ ဘာဝနာသုတ် မှာ ဒါန၊ သီလ စတဲ့ ပုညကိရိယာဝတ္ထု ၁၀-မျိုးကို ပြုလုပ် နေမှုဟာ မေတ္တာဈာန်ကို ပွားများမှုရဲ့ တစ်ဆယ့်ခြောက်

စိတ် တစ်စိတ်ကိုပင် မမီဘူး။ မေတ္တာ ဘာဝနာ အကျိုးကသာ လွှမ်းမိုးတောက်ပြောင် ထွန်းလင်း တင့်တယ်တယ်လို့ ဟောထားတယ်။

ပြီးတော့ မျက်စိတစ်မှိတ် လက်ဖျောက်တတီးကြာလောက် မေတ္တာ ဘာဝနာကို ပွားများပြီးတဲ့ ရဟန်းဟာ တိုင်းသူ ပြည်သား ဒကာ၊ ဒကာမတွေက အမြတ်တနိုး လှူဒါန်းတဲ့ ဆွမ်းကို စားသင့် စားထိုက်ပြီလို့ အင်္ဂုတ္တိုရ်မှာ ဟောပါ တယ်။

အခုကာလ မေတ္တာ ဘာဝနာ ပွားများပြီး အကြား အမြင်ပေါက်တာ သတ္တဝါတွေကို ကူညီစောင့်ရှောက်နေတဲ့ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်တွေ အထင်အရှား ရှိနေတာဟာလဲ မေတ္တာရဲ့ တန်ခိုးကို ဖော်ပြနေတာ ဖြစ်ပါတယ်။ နွားနို့ တစ်ညှစ်၊ နို့သာတရှုပ် ရှုသောကာလမျှ မေတ္တာဘာဝနာကို ပွားများတာက ဆွမ်းဟင်းကောင်း အိုးကြီးတစ်ရာ လှူတာထက် အကျိုးများကြောင်း နိဒါနသံယုတ် ဩပမ္မသုတ် မှာ ဟောထားပါတယ်။

အလွန်ထက်လှတဲ့ လှံသွားကို လူတွေ မကိုင်ဝံ့သလို မေတ္တာ ဘာဝနာ ပွားများနေသူကို ဘီလူး၊ အစိမ်းသရဲတွေက မမှီ မကပ်ဝံ့ဘူးလို့ နိဒါနသံယုတ်သတ္တိသုတ်မှာ ဟောထားတယ်။

ယောကျ်ား များတဲ့ အိမ်ကို ခိုးသားဓားပြ မနှိပ်စက်နိုင် သလို မေတ္တာဘာဝနာ ပွားထားသူကို ဘီလူး သရဲတွေက မကပ်ရောက် မနှိပ်စက်နိုင်ကြောင်း နိဒါနသံယုတ်မှာ ဟော ထားတယ်။



မေတ္တာအကျိုးနဲ့ ပတ်သက်ပြီး ဟောထားချက်တွေ ပိဋက မှာ အတော်များများ ရှိပါသေးတယ်။

မေး။ ။ညအိပ်တဲ့အခါ ဟောက်တတ်၊ ယောင်တတ်၊ သွားကြိတ်တတ်၊ အအိပ်ကြမ်းတဲ့ လူတွေဟာ 'မေတ္တာ များ များ ပို့ အိပ်ရင် အထက်ပါအကျင့်တွေ ပျောက်တယ်ဆိုတာ ဖြစ်နိုင်ပါသလား။

ဖြေ။ ။ဖြစ်နိုင်ပါတယ်။ မေတ္တာပို့သူ ရရှိတဲ့ အကျိုး ၁၁-ပါးထဲမှာ ချမ်းသာစွာ အိပ်ရတယ်။ ချမ်းသာစွာ နိုးရ တယ်။ အိပ်မက်ဆိုးတွေ မမက်ဘူးလို့ ပါပါတယ်။ ဟောက် တယ်၊ ယောင်တယ်၊ သွားကြိတ်တယ်၊ အိပ်တဲ့အခါ ငြိမ်ငြိမ် ဆိမ်ဆိမ် သိပ်မရှိဘဲ လူးလှိမ့် ကန်ကျောက်ပြီး အိပ်ရတယ် ဆိုတာက သက်သက်သာသာ မအိပ်နိုင်တဲ့သဘော၊ ချမ်းချမ်း သာသာ မနိုးရတဲ့သဘော ဖြစ်ပါတယ်။ မေတ္တာပွားများပြီး အိပ်ခြင်းဖြင့် အထက်ပါ ရောဂါတွေ ပျောက်ပြီး မေတ္တာ အကျိုးတွေကို ခံစားရဖို့ ရှိပါတယ်။ ကျမ်းဂန်မှာ တိုက်ရိုက် မလာပေမယ့် ချမ်းသာစွာ အိပ်ရ၊ နိုးရတယ်ဆိုတဲ့ မေတ္တာ အကျိုး ၂-ပါးမှာ အကျုံးဝင်တဲ့အတွက် မေတ္တာ အထုံပို့ အိပ်တဲ့လူဟာ အအိပ်ကြမ်း၊ ဟောက်ခြင်း၊ သွားကြိတ်ခြင်း တွေ ပျောက်နိုင်ခြင်း ဖြစ်ပါတယ်။

ဆရာတော်ကြီး တစ်ပါးက ဟောက်တတ်တဲ့ ဒုလ္လဘ ရဟန်းတစ်ပါးကို နည်းပေး လမ်းပြ ပြုလုပ်ခဲ့ရာ တစ်လ အတွင်း နည်းပါးသွားပြီး နှစ်လလောက်မှာ လုံးဝပျောက် သွားခဲ့တယ်။ သူ့ရဲ့ကိုယ်တွေ့ကို သူငယ်ချင်းတွေကို တစ်ဆင့် ပြောပြရာက သူငယ်ချင်းတွေလဲ လက်တွေ့ ပျောက်ကင်း

ခံစားရတယ်လို့ ဆိုပါတယ်။ ဟောက်တတ်၊ သွားကြိတ်တတ်၊ အအိပ်ကြမ်းရောဂါတွေကို ကုနိုင်တဲ့ ခေတ်မီဆေးဝါး သိပ္ပံဆေး မရှိသေးတဲ့ တန်ဖိုးမကြီးတဲ့ လက်တွေ့ပျောက်ကင်းနေတဲ့ ဘုရားရှင်ရဲ့ မေတ္တာဆေးတော်ကြီးကို ယုံကြည်စွာ မှီဝဲနိုင်ကြပါစေ။

မေး။ ။ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ ပွားနည်းတွေဟာ ပါဠိတော်မှာ မရှိဘူးဆိုတာ ဟုတ်ပါသလား။

ဖြေ။ ။ဟုတ်ပါတယ်။ ပဋိသမ္ဘိဒါမဂ် ပါဠိတော်မှာတော့ ၅၂၈-သွယ် မေတ္တာပွားနည်းပဲ ရှိပါတယ်။ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ ပွားလိုသူတွေဟာ မေတ္တာပွားနည်းကို နည်းမှီပြီး ပွားနိုင်ကြဖို့ ရှေးဆရာတော်ကြီးတွေက ထည့်သွင်းစီစဉ်ထားပါတယ်။ လူတိုင်းပွားရမယ်လို့တော့ မဆိုလိုပါဘူး။ ဗြဟ္မစိုရ်တရား လေးပါးလုံး စုံသွားအောင် ဆိုပြီး ဆရာတော်ကြီးတွေက ထည့်ပေးထားတာ ဖြစ်ပါတယ်။ ဆရာတော်ကြီးတွေကလဲ မဟာဝဂ္ဂသံယုတ် မေတ္တာသဟဂတသုတ် ပါဠိတော်မှာ မေတ္တာစိတ် ပျံ့နှံ့စေရန် ဟောတာကို မှီးပြီး ထည့်သွင်းစီစဉ်လိုက်တာ ဖြစ်ပါတယ်။

မေး။ ။တစ်ရာ့သုံးဆယ်နှစ်သွယ် ကရုဏာပွားပုံ ပို့ပုံကို အကျဉ်းဖော်ပြပါ။

ဖြေ။ ။အထက်မေတ္တာမှာ ဖော်ပြခဲ့တဲ့ ဩဓိသ၊ အနောဓိသ ပုဂ္ဂိုလ် ၁၂-မျိုးဟာ ဆင်းရဲဒုက္ခ ကြုံတွေ့နေရင် သဗ္ဗေသတ္တာ ဒုက္ခာမုစ္စန္တု – ဆင်းရဲဒုက္ခ ရောက်နေကြတဲ့



သတ္တဝါအားလုံး ဆင်းရဲဒုက္ခမှ လွတ်ကင်းပါစေလို့ ကရုဏာ ၁၂-မျိုးကို ပွားရမယ်။ ပြီးတော့ အရပ် ၁၀-မျက်နှာမှာ ရှိတဲ့ ပုဂ္ဂိုလ် ၁၂၀ ကို ဆင်းရဲဒုက္ခ ရောက်နေကြတဲ့ အရှေ့အရပ်မှာ များသတ္တဝါ ဆင်းရဲ ကင်းကွာကြပါစေ စသည်ဖြင့် ကရုဏာ ၁၂၀-ပွားရမယ်။ အဲဒီတော့ ကရုဏာ-၁၃၂-ပါး ဖြစ်သွားတယ်။

မေး။ ။၁၃၂-သွယ် မုဒိတာပွားပုံ အကျဉ်း ဖော်ပြပါ။

ဖြေ။ ။ကရုဏာမှာ ပွားသလိုပဲ သဗ္ဗေသတ္တာ ယထာ လဒ္ဓသမ္ပတ္တိတော မာ ဝိဂစ္ဆန္တု=ချမ်းသာနေကြတဲ့ အားလုံး သတ္တဝါ ရရှိစည်းစိမ် ရပါစေလို့ မုဒိတာ ၁၂-မျိုး၊ ချမ်းသာနေကြတဲ့ အရှေ့အရပ်မှာ များသတ္တဝါ ရရှိစည်းစိမ် ရကြပါစေလို့ မုဒိတာ ၁၂၀-ပေါင်းလိုက်ရင် မုဒိတာ ၁၃၂-ပါး ဖြစ်ပါတယ်။

မေး။ ။၁၃၂-သွယ် ဥပေက္ခာပွားပုံကို ဖော်ပြပါ။

ဖြေ။ ။သဗ္ဗေ သတ္တာ ကမ္မဿကာ=အားလုံး သတ္တဝါ ကံတရားသာ ကိုယ်ပိုင်ဥစ္စာ ရှိကြတယ်။ ..... သဗ္ဗေဝိနိပါတိကာ ကမ္မဿကာ=အပါယ်တို့ သတ္တဝါ ကံတရားသာ ကိုယ်ပိုင်ဥစ္စာ ရှိကြတယ်လို့ ဥပေက္ခာ ၁၂ မျိုးကို ပွားနိုင်တယ်။

ပုရတ္ထိမာယ ဒိသာယ သဗ္ဗေသတ္တာ ကမ္မဿကာ=အရှေ့အရပ်ရှိ သတ္တဝါ ကံတရားသာ ကိုယ်ပိုင်ဥစ္စာ ရှိကြတယ် စသည်ဖြင့် အရပ်ဒေသ တစ်ခုမှာ ပုဂ္ဂိုလ် ၁၂ယောက်လို ၁၂၀၊ ပွားရမယ်။ အရပ် ၁၀ မျက်နှာ ဥပေက္ခာ ၁၂၀ ရမယ်။ အရပ် မသတ်မှတ်တဲ့ ဥပေက္ခာ ၁၂ နဲ့ ပေါင်းလိုက်ရင် တစ်ရာ့သုံးဆယ့်နှစ်သွယ် ဥပေက္ခာ ဖြစ်ပါတယ်။

မေး။ ။မြဟ္မစိုရ်တရား ပွားနည်းအကျယ် ဘယ်လောက်ရှိသလဲ။

ဖြေ။ ။

| | |
|---|---|
| ငါးရာ့နှစ်ဆယ်ရှစ်သွယ်မေတ္တာ | ၅၂၈ |
| တစ်ရာ့သုံးဆယ့်နှစ်သွယ် ကရုဏာ | ၁၃၂ |
| တစ်ရာ့သုံးဆယ့်နှစ်သွယ် မုဒိတာ | ၁၃၂ |
| တစ်ရာ့သုံးဆယ့်နှစ်သွယ် ဥပေက္ခာ | ၁၃၂ |
| စုစုပေါင်း မြဟ္မစိုရ်တရား | ၉၂၄ |

ပါး ရှိတယ်။

မေး။ ။ရှေးဆရာတော်ကြီးတွေက မြဟ္မစိုရ် ၉၂၄ ပါးကို အကျဉ်းဆုံးပွားနည်း ဘယ်လို စီစဉ်ခဲ့သလဲ။

ဖြေ။ ။သဗ္ဗေ သတ္တာ သဗ္ဗေ ပါဏာ သဗ္ဗေ ဘူတာ သဗ္ဗေ ပုဂ္ဂလာ သဗ္ဗေ အတ္တဘာဝ ပရိယာပန္နာ၊ သဗ္ဗာ ဣတ္ထိယော၊ သဗ္ဗေ ပုရိသာ သဗ္ဗေ အရိယာ သဗ္ဗေ အနရိယာ သဗ္ဗေ ဒေဝါ သဗ္ဗေ မနုဿာ သဗ္ဗေ ဝိနိပါတိကာ။

အဝေရာ ဟောန္တု အဗျာ ပဇ္ဇာ ဟောန္တု အနီဃာ ဟောန္တု သုခီ အတ္တာနံ ပရိဟရန္တု (မေတ္တာလေးပါး)။ ဒုက္ခာ မုစ္စန္တု (ကရုဏာ) ယထာလဒ္ဓသမ္ပတ္တိတော မာဝိဂစ္ဆန္တု (မုဒိတာ) ကမ္မဿကာ (ဥပေက္ခာ)

ပုရတ္ထိမာယ ဒိသာယ ပစ္ဆိမာယ ဒိသာယ ဥတ္တရာယ ဒိသာယ ဒက္ခိဏာယ ဒိသာယ ပုရတ္ထိမာယ အနုဒိသာယ၊ ပစ္ဆိမာယ အနုဒိသာယ ဥတ္တရာယ အနုဒိသာယ ဒက္ခိဏာယ အနုဒိသာယ ဟေဋ္ဌိမာယ ဒိသာယ ဥပရိမာယ ဒိသာယ။

သဗ္ဗေ သတ္တာ သဗ္ဗေပါဏာ......သဗ္ဗေ ဝိနိပါတိကာ...

အဝေရာ ဟောန္တု အဗျာပဇ္ဇာ ဟောန္တု ...ကမ္မဿကာ။



အဲဒီ အချုပ်ခဲ့တာကတော့ မြဟ္မစိုရ်တရား ၉၂၄ ပါးကို အကျဉ်းချုံးပြီး ပွားခြင်း ဖြစ်ပါတယ်။ အထက်မှာ ပြပြီးဖြစ်လို့ မြန်မာလိုလဲ ပွားတတ်လောက်ပါပြီ။

မေး။ ။မေတ္တာချည်း သက်သက် သီးခြား ခွဲပွားလို့တော မရဘူးလား။

ဖြေ။ ။ရပါတယ်။ မေတ္တာသက်သက်ခွဲပွားတဲ့ ပုဂ္ဂိုလ်တွေလဲ အများပဲ ရှိပါတယ်။ ကမ္မဋ္ဌာန်းဘာဝနာ ပွားတဲ့ အခါမှာလဲ တစ်ခုစီ ပွားရတာပါပဲ။ မေတ္တာတစ်ခုတည်း ပွားရုံနဲ့ ဈာန်သမာဓိကို ရနိုင်ပါတယ်။ အခုလို မေတ္တာ အကျဉ်းသက်သက် ပွားချင်ရင်တော့ သုခီအတ္တာနံ ပရိဟရန္တုမှာ ရပ်လိုက်ရုံပါပဲ။

မေး။ ။ကရုဏာတစ်မျိုးတည်း၊ မုဒိတာတစ်မျိုးတည်း ဥပေက္ခာတစ်မျိုးတည်း ပွားချင်ရင် ဘယ်လို ပွားရမလဲ။

ဖြေ။ ။(က)သဗ္ဗေ သတ္တာ.......သဗ္ဗေ ဝိနိပါတိကာ၊ ဒုက္ခာ မုစ္စန္တုလို့ ပွားများရင် ကရုဏာသက်သက် ပွားနည်းဖြစ်ပါတယ်။

(ခ) သဗ္ဗေသတ္တာ.......သဗ္ဗေ ဝိနိပါတိကာ ယထာလဒ္ဓသမ္ပတ္တိတော မာဝိဂစ္ဆန္တုလို့ ပွားရင် မုဒိတာ သက်သက်ပွားနည်း ဖြစ်ပါတယ်။

(ဂ) သဗ္ဗေ သတ္တာ....သဗ္ဗေ ဝိနိပါတိကာ ကမ္မဿကာလို့ပွားရင် ဥပေက္ခာသက်သက် ပွားနည်းဖြစ်ပါတယ်။

မေး။ ။ငါးရာနှစ်ဆယ့်ရှစ်သွယ်မေတ္တာ အကုန် မပွားတဲ့ အကျဉ်းချုပ်ပွားလို့ ရပါသေးသလား။

သတ္တဝါတွေအကျိုးကို တကယ်မလိုလားဘဲ၊ ဒုက္ခိတသတ္တဝါကို တကယ်မသနားဘဲ၊သုခိတသတ္တဝါကိုတကယ်ဝမ်းမမြောက်ဘဲ သတ္တဝါတွေဟာ ကမ္မဿကာ ကံတရား စီမံရာပဲလို့ တကယ်စိတ်က မရောက်ဘဲ သဗ္ဗေသတ္တာ သဗ္ဗေပါဏာတွေကို အရကျက်ပြီး လျှောက်ရွတ်နေလို့တော့ မေတ္တာပို့ရာ မရောက်ပါဘူး။ ဒါကြောင့် ပါဠိကို ခက်လို့ အနက်မထင်တဲ့ ပါဠိမတတ်တဲ့လူတွေဟာ ရှေးငါးရာနှစ်ဆယ့်ရှစ်သွယ်သော မေတ္တာပွားနည်းမှာပြထားတဲ့အတိုင်း မြန်မာလို မေတ္တာပို့ကြ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာတွေ ပွားကြရင် အကောင်းဆုံးပါပဲ။

....o....

# (၁၂)

## အမျှဝေခြင်း

မေး။ ။မေတ္တာပို့ပြီးရင် ဘာဆက်လုပ်ရပါသလဲ။

အဖြေ။ ။မေတ္တာပို့ပြီးရင် အမျှဝေရပါတယ်။ အမျှဝေတယ်ဆိုတာက ကိုယ်ရရှိပြီးတဲ့ ကုသိုလ်ကောင်းမှုကို သတ္တဝါအားလုံးကို ကိုယ်နှင့်ထပ်တူ ရပါစေလို့ ထပ်ဆင့်ပေးဝေတာ ဖြစ်ပါတယ်။ ပါဠိလိုတော့ ပတ္တိဒါနလို့ ခေါ်ပါတယ်။ ရပြီးသားကုသိုလ်ကို ပေးဝေခြင်းလို့ အဓိပ္ပာယ်ရပါတယ်။ ကိုယ်နှင့် အညီအမျှ ရပါစေလို့ ပေးဝေတာဖြစ်လို့ မြန်မာတွေကတော့ အမျှဝေတယ်လို့ ခေါ်ပါတယ်။

ဗုဒ္ဓဘာသာဝင်တစ်ယောက်ရဲ့ နေ့စဉ်လုပ်ငန်းမှာ သရဏဂုံနှင့်တကွ ငါးပါးသီလကို ဆောက်တည်ကာ သီလကုသိုလ်ပြုပြီးပြီ။ ဆွမ်း၊ ပန်း၊ ရေချမ်း၊ ဆီမီးတွေ ဆက်ကပ်လှူဒါန်းကာ ဒါနကုသိုလ်တွေ ပြုပြီးပြီ။ ရတနာသုံးပါးကို ရှိခိုးပူဇော်မှု ပဏာမသုတ်တွေ ပြုပြီးပြီ၊ ပရိတ်ရွတ်မေတ္တာပို့ကာ ဘာဝနာကုသိုလ်တွေပြုပြီးပြီ။ အဲဒီ မိမိပိုင်ပြီးတဲ့ ဒါန၊ သီလ၊ ဘာဝနာနဲ့

ရတနာသုံးပါး ရှိခိုးတဲ့ ကုသိုလ်တွေကို မိမိနဲ့ ထပ်တူ အခြားသူတွေလဲ ရကြပါစေလို့ ကုသိုလ်တွေကို တစ်ဆင့်ဖြန့်ဝေလှူဒါန်းတာကို အမျှဝေတယ်လို့ ခေါ်ပါတယ်။

မေး။ ။အမျှဘယ်လိုဝေပါသလဲ။

ဖြေ။ ။ယနေ့ ကျွန်ုပ်ပြုလုပ်ခဲ့တဲ့ ဆွမ်း၊ ပန်း၊ ရေချမ်း၊ ဆီမီး လှူဒါန်းမှုဒါနကုသိုလ်၊ ဆောက်တည်ခဲ့တဲ့ သရဏဂုံ သုံးပါးနှင့်တကွ ငါးပါးသီလကုသိုလ်၊ ပရိတ်တော်ကို ရွတ်ဖတ်ကာ မေတ္တာပွားများခဲ့တဲ့ ဘာဝနာကုသိုလ် အဖို့အစုကို ကျေးဇူးရှင် အမိအဘ အဘိုးအဘွား ဆွေမျိုးမိတ်သင်္ဂဟနှင့် အိမ်သူအိမ်သားအားလုံး၊ ဆွေမျိုး တော်မတော်သော ပြိတ္တာအားလုံး၊ ကိုယ်စောင့်နတ်၊ အိမ်စောင့်နတ်၊ ခြံစောင့်နတ်၊ ရွာစောင့်နတ်၊ မြို့စောင့်နတ်၊ သာသနာတော်စောင့်နတ်၊ ဘုမ္မစိုး၊ ရုက္ခစိုး၊ အာကာသစိုး၊ အစရှိတဲ့ နတ်မြတ်နတ်ကောင်း နတ်အပေါင်းတို့အား လည်းကောင်း၊ ယမမင်းအား လည်းကောင်း အမျှပေးဝေပါ၏။ ကိုယ်စီကိုယ်ငှားလုံး အမျှရကြပါစေသတည်း။ အားလုံး ကြားကြားသမျှ အမျှရကြပါစေသတည်း၊ အမျှ....အမျှ....အမျှ ယူတော်မူကြပါကုန်လော့-လို့ အမျှဝေရပါတယ်။

မေး။ ။ကိုယ်ရပြီးတဲ့ကုသိုလ်တွေကို အမျှပေးဝေလိုက်လို့ ကိုယ့်မှာ လျော့သွားပါသလား။

ဖြေ။ မလျော့ပါဘူး။ ဆီမီးတိုင်တစ်တိုင် ထွန်းထားရာမှာ အခြားဆီမီးတိုင်တွေက လာကူးထွန်းတဲ့အခါ မူလမီးတိုင်မှာ အလင်းရောင် လျော့မသွားတဲ့ပြင် နောက်ထပ်ကူးထွန်းတဲ့မီးရောင်တွေ အကူအညီရလို့ ပိုပြီးတောင် ထင်လာသလို မူလ ကုသိုလ်ရှင်မှာလဲ ကုသိုလ်မလျော့တဲ့အပြင် ပတ္တိဒါနကုသိုလ်တစ်ခု အပိုထပ်ပြီး ရပါသေးတယ်။ ဒါကြောင့် ကုသိုလ်ပြုပြီးရင် အမျှဝေဖို့ မမေ့ပါစေနဲ့။



မေး။ ။အမျှဝေတိုင်း အမျှဝေခံရတဲ့ လူအားလုံး ကုသိုလ်ဝေစု ရကြပါသလား။

ဖြေ။ ။အဝေခံရသူ အားလုံး မရပါဘူး။ အမျှဝေသံကို ကြားရပြီး ဝမ်းမြောက်ဝမ်းသာ သာဓု-သာဓု-သာဓု ကောင်းပေစွ၊ ကောင်းပေစွလို့ သာဓုအနုမောဒနာ ခေါ်တဲ့ လူတွေသာ ရပါတယ်။ အမျှဝေတာကို မကြားရတဲ့သူ၊ ကြားသိရ ပေမယ့် သာဓု အနုမောဒနာ မခေါ်သူတွေကတော့ ကုသိုလ်ဝေစု မရကြပါဘူး။

မေး။ ။ပြုလုပ်ထားတဲ့ ကုသိုလ်ကို အမျှဝေလို့ရတယ်။ လျော့မသွားဘူး။ သာဓု ခေါ်တဲ့လူမှာလဲ ကုသိုလ်ထပ်ရတဲ့ သာဓက ရှိပါသလား။

ဖြေ။ ။ရှိပါတယ်။ မွေပဒ သုမနသာမဏေ ဝတ္ထုမှာ ပြထားပါတယ်။ အန္နဘာရဟာ သုမနသူဌေး အိမ်မှာ မြက်ထမ်းသမား တစ်ယောက် ဖြစ်ပါတယ်။ အန္နဘာရဟာ မြက်ထမ်းသွားရင်း ဥပရိဋ္ဌပစ္စေကဗုဒ္ဓါကို တွေ့ရပါတယ်။ ဆွမ်းလောင်းပြီး သုတောင်းတဲ့အခါ သုမနသူဌေးအိမ်မှာ စောင့်တဲ့ ထီးချက်စောင့် နတ်သမီးက သာဓုခေါ်ပါတယ်။ သုမနသူဌေးကလဲ ကုသိုလ်ဖြစ်သူ ဖြစ်ပါတယ်။ သာဓုခေါ်သံကြားတော့ သုမနသူဌေးက ဘုန်းကောင်းမှုကို သာဓုခေါ်တယ်ထင်

ပြီး ဒါတိုင်း ကောင်းမှုပြုတာ သာဓုမခေါ်ဘဲ အခုမှ ဘာ ဖြစ်လို့ သာဓုခေါ်သလဲလို့ မေးပါတယ်။

ထီးချက်စောင့်နတ်က သူဌေးရဲ့ ကောင်းမှုကို သာဓုခေါ်တာ မဟုတ်၊ အနာထရ မြက်ထမ်းသမားရဲ့ ကောင်းမှုကို သာဓုခေါ်တဲ့ အကြောင်း ပြောပြတယ်။ သုမနသူဌေးက မြက်ထမ်းသမားကို ခေါ်မေးပြီး ဒီကုသိုလ်ကို သူ့ကိုရောင်းဖို့ ပြောတယ်။ မြက်ထမ်းသမားက မရောင်းဘူး။ ဒါဖြင့် အမျှဝေပါလို့ ပြောတော့ မြက်ထမ်းသမားဟာ ပစ္စေကဗုဒ္ဓါသို့ လိုက်ပြီး အမျှပေးဝေလိုက်လျှင် သူ့ဆီမှာ ကုသိုလ်လျော့သွားမလားလို့ မေးပါတယ်။ ပစ္စေကဗုဒ္ဓါက အိမ်တစ်အိမ်က ဆီမီးတိုင်ကို ကျန်အိမ်တွေက လာညှိထွန်းတဲ့အတွက် မူလ မီးတိုင်မှာ အလင်းမလျော့ဘဲ အလင်းတွေ ပွားလာသလိုပဲ၊ အမျှဝေလို့ ဝေသူမှာ ကုသိုလ်မလျော့ဘဲ သာဓု ခေါ်သူမှာ ကုသိုလ်ရကြောင်း ဟောလိုက်တော့ ကုသိုလ်ကို အမျှဝေပါတယ်။ သုမနသူဌေးက ငွေ ၁၀၀၀ ပေးပါတယ်။ မြက်ထမ်းသမားက ကုသိုလ်ကို ရောင်းစားတာ မဟုတ်၊ စေတနာနဲ့ ပေးဝေခြင်းဖြင့်လို့ ငွေမယူလိုကြောင်း ပြောတော့ သူဌေးကလဲ ကျေးဇူးတင်လို့ ပူဇော်တဲ့အနေနဲ့ ပေးတာဖြစ်တယ်လို့ ပြောတယ်။ အခြားသူဌေးတွေက ကုသိုလ်ကို သာဓုခေါ်ပြီး ငွေတွေ ပေးလိုက်ကြတာ မြက်ထမ်းသမားဟာ သူဌေးဖြစ်သွားတယ်။

ဒါကတော့ ကုသိုလ်ကို အမျှဝေလို့ရတယ်။ သာဓုခေါ်ရင် ကုသိုလ်ရတယ်ဆိုတဲ့ သာဓကပဲ ဖြစ်တယ်။

မေး။ ဒါနပြုပြီးနောက် ကုသိုလ်ကို ရောင်းလို့ ဝယ်လို့ ရပါသလား။



ဖြေ။ ဒါန ကုသိုလ်ကို ရောင်းလို့ ဝယ်လို့ ရပါတယ်။ ပေးလို့ ကမ်းလို့လဲရပါတယ်။ ရောင်းလို့ ပေးလို့ လျော့မသွားဘဲ ဝယ်သူ ယူသူမှာတော့ ကုသိုလ်ရပါတယ်။ သာဓက မြရှင် ဘုရားရှင် သက်တော် ထင်ရှားရှိစဉ်က သာဝတ္ထိ မြို့သူ မြို့သား တွေဟာ ဘုရားရှင်နဲ့ သံဃာတော်တွေကို မိမိ တတ်နိုင်သလောက် ၁ ပါး၊ ၂ ပါး၊ ၅ ပါး၊ ၁၀ ပါးစသည် တာဝန်ယူပြီး စာရေးတံ ဆွမ်းပင့်ဖိတ်ပြီး ဆွမ်းကပ်ကြတယ်။ မြို့ထဲမှာ အလွန်တရာ ဆင်းရဲတဲ့အတွက် မဟာဒုဂ္ဂတလို့ ခေါ်တဲ့ မြန်မာတွေကတော့ မဟာဒုဂ်လို့ ခေါ်တဲ့ ဆင်းရဲသား တစ်ယောက် ရှိတယ်။

အဲဒီ စာရေးတံဆွမ်းကျွေးပွဲမှာ မဟာဒုဂ်ဟာ ဘုရားရှင်ကို ဆွမ်းကပ်လှူခွင့် ရပါတယ်။ ဘုရင်မင်းမြတ်နဲ့ သူဌေးသူကြွယ်တွေဟာ မဟာဒုဂ်ဆီလာပြီး သူ့ရဲ့ကုသိုလ်ကို ရောင်းဖို့ ဈေးအမျိုးမျိုးပေးပြီး ဝယ်ကြပါတယ်။ မဟာဒုဂ်က သူ့ရဲ့ ကုသိုလ်ကို ရောင်းလိုက်ရင် လျော့ မလျော့ ဘုရားရှင်ကို သွား မေးပါတယ်။ ဘုရားရှင်က တန်ဖိုးငွေယူပြီး ရောင်းတာပဲ ဖြစ်ဖြစ်၊ တန်ဖိုးမယူဘဲ ပေးဝေတာပဲဖြစ်ဖြစ် မူလကုသိုလ်ရှင်မှာ လျော့မသွားဘူး။ အနုမောဒနာ ပြုသူတွေမှာတော့ ကုသိုလ်တွေ ထပ်တူထပ်မျှ ရတယ်လို့ ဟောတယ်။ မဟာဒုဂ်ဟာ တန်ဖိုးယူပြီး အမျှဝေတယ်။ သူဌေးသူကြွယ်တွေက ပိုက်ဆံပေးပြီး သာဓုခေါ်ကြတယ်။ ဒါကတော့ အမျှဝေရုံ တင်မက ပြုလုပ်ပြီးတဲ့ ကုသိုလ်ကို အမျှရောင်းလို့လဲ ရတယ် ဆိုတဲ့ သာဓက ဖြစ်ပါတယ်။

မေး။ အမျှဝေတဲ့ အခါ ဘာဖြစ်လို့ ယမမင်းကို ထည့်ဝေရသလဲ။ ယမမင်းဆိုတာ ဘာလဲ။

ဖြေ။ ။ယမမင်း ဆိုတာက အကုသိုလ်ကံကြောင့် ငရဲ ကျခံရမယ့် သတ္တဝါတွေကို ငရဲဂိတ်ဝက လွှတ်နိုင်မယ့်ကုသိုလ် ပြုဖူး မပြုဖူး စစ်ဆေး မေးမြန်းကာ ကုသိုလ်ကောင်းမှု ပြုဖူးသူဖြစ်ပါက ငရဲမှလွှတ်ကာ လူ့ပြည်နတ်ပြည်သို့ တင်ပို့တဲ့ ပုဂ္ဂိုလ်ကို ယမမင်းလို့ ခေါ်တယ်။ ငရဲမကျသင့်တဲ့သူတွေ မကျအောင် စစ်ဆေး ကယ်တင်သူဖြစ်တယ်။

ယမမင်းဟာ ငရဲကိုရောက်လာတဲ့ လူကို သူအို၊ သူနာ၊ သူသေ ကလေးတွေကို တွေ့တဲ့အခါ တရားသံဝေဂရပြီး ကုသိုလ်ကောင်းမှု ပြုဖူး မပြုဖူး မေးပါတယ်။ ကုသိုလ်ကောင်းမှု တစ်ခုခုပြုဖူးတာကို သတိရပြီး ဖော်ပြနိုင်ရင် ငရဲက လွတ် ခွင့်ပြုပါတယ်။ ကုသိုလ်ကောင်းမှု ပြုစဉ်က ယမမင်းကို အမျှ အတမ်း ပေးဝေမယ်ဆိုရင် ကုသိုလ်ပြုသူ ကာယကံရှင်က မေ့ နေသည့်တိုင်အောင် အမျှဝေခြင်း ခံရတဲ့ ယမမင်းကြီး ကိုယ် တိုင်က သတိရပြီး သင်ဟာ ဘယ်နေ့ ဘယ်ရက်က ဘယ်နေရာ တယ်လို ကောင်းမှုတွေကို ပြုလုပ်ပြီး ကျုန်ုပ် ယမမင်းကိုတော် အမျှဝေခဲ့သေးတယ် မဟုတ်လားလို့ ထုတ်ဖော်သတိပေးပါ တယ်။ ကိုယ်ပြုခဲ့တဲ့ကုသိုလ်ကို ကိုယ်တိုင် မေ့နေရင်တောင်မှ ယမမင်းကြီးက သတိပေးနိုင်ဖို့အတွက် ကုသိုလ် ကောင်းမှု ပြုတိုင်း အမျှဝေတဲ့အခါတိုင်း ယမမင်းကြီးကို အမျှပေးဝေ ရမယ်လို့ ဥပရိပဏ္ဏာသ အဋ္ဌကထာမှာ ဖွင့်ပြထားပါတယ်။

သူကြွယ်တစ်ဦးဟာ မဟာစေတီကို မြတ်လေးပန်းကုံး တစ်ခုကိုလှူပြီး ယမမင်းကြီးကိုပါ အမျှပေးဝေ ခဲ့ပါတယ်။ သေတဲ့အခါ အဲဒီကုသိုလ်ကို မေ့ပြီး ငရဲဂိတ်ဝကို ရောက်



သွားတယ်။ ကုသိုလ်ကောင်းမှု လုပ်ခဲ့ဖူးတာကို သတိမရ ဘူး။ ဒီတော့ ယမမင်းကြီးက မြတ်လေးပန်း တစ်ကုံးကို မဟာစေတီကို ပူဇော်ပြီး ကျုန်ုပ် ယမမင်းကြီးကိုပါ အမျှ ဝေဖူးသေးတာပဲလို့ သတိပေးတော့မှ သတိရပြီး ငရဲက လွတ်သွားဖူးတယ်။ ဒါကြောင့် ကုသိုလ်ကောင်းမှု ပြုပြီးရင် အမျှဝေပါ။ ယမမင်းကို သီးခြားနာမည်ခေါ်ပြီး အမျှဝေ ပေးပါ။

မေး။ ။ကွယ်လွန်သူ မိဘ၊ ဘိုးဘွား ဆွေမျိုးများကို ဘာဖြစ်လို့ အမျှဝေရသလဲ။

ဖြေ။ လူတစ်ယောက်သေရင် ဘဝငါးမျိုးကို ရောက် နိုင်တယ်။ ၁-ငရဲ၊ ၂-တိရစ္ဆာန်-၃-ပြိတ္တာ၊ ၄-အသုရကာယ်၊ ၅-လူ့ဘဝ၊ ၆- နတ်ပြည်ဆိုတဲ့ ဘဝငါးမျိုးကို ရောက်နိုင် တယ်။ ဒီဘဝငါးမျိုးအနက် ပြိတ္တာဘဝ ရောက်နေမယ်ဆိုရင် ကျန်တဲ့ ဆွေမျိုးသားချင်းတွေက ကုသိုလ်ပြုပြီး အမျှပေးဝေ ရင် အဲဒီဆွေမျိုး ပြိတ္တာတွေ ကြားသိပြီး သာဓုခေါ်နိုင်ရင် ပြိတ္တာဘဝက ကျွတ်လွတ်ပြီး ကောင်းရာသုဂတိ ရောက်နိုင် တယ်။

ကိုယ့်ရဲ့ မိဘ၊ ဘိုးဘွား၊ ဆွေမျိုးတွေဟာ ပြိတ္တာဘဝ ရောက်မယ် မရောက်ဘူးဆိုတာဟာ အတတ် မပြောနိုင်ပေ မယ့် တကယ်လို့များ ရောက်နေခဲ့သော် ကုသိုလ်အဖို့ကိုရပြီး ကောင်းရာသုဂတိ ရောက်ပါစေဆိုတဲ့ စေတနာ စိတ်ထားနဲ့ ကုသိုလ်ကောင်းမှုပြုပြီးတိုင်း မိဘ၊ ဘိုးဘွား ဆွေမျိုးတွေကို အမျှ ပေးဝေရမယ်။ ဒါကြောင့် သိင်္ဂါလောဝါဒသုတ် သားသမီးကျင့်ဝတ် ငါးပါးထဲမှာ အလှူဒါန ပြုပြီးတိုင်း

ကိုယ်လွန်သူ မိဘ၊ ဘိုးဘွား၊ ဆွေမျိုးတွေကို အမျှဝေရမယ်လို့ ဘုရားရှင်က ဟောထားတယ်။ ဒါနပြုပြီးတိုင်း ဆွေမျိုး ပြိတ္တာတွေ အမျှဝေကြပါ။

မေး။ ။ပတ္တိဒါန အမျှပေးဝေပြီး ဘာဆက်လုပ်ပါသလဲ။

ဖြေ။ ။အမျှပေးဝေပြီးရင် မိမိကဲ့သို့ ကုသိုလ်ကောင်းမှုပြုပြီး အမျှပေးဝေတဲ့ သူတော်ကောင်းတွေ ရှိတယ်။ အဲဒီသူတော်ကောင်းတွေပေးဝေတဲ့ ပတ္တိဒါန အမျှဝေတဲ့ကုသိုလ်ကို ဝမ်းမြောက် ဝမ်းသာ သာဓု အနုမောဒနာလို့ ခေါ်ရမယ်။ ဒီလို သာဓု အနုမောဒနာခေါ်တာကို ပုညကြိယဝတ္ထု ၁၀-ပါးထဲမှာ ပတ္တာနုမောဒနာလို့ ခေါ်တယ်။ အခု သူတစ်ပါးပြုတဲ့ ကုသိုလ်အဖို့ကို သာဓုခေါ်တဲ့အတွက် မူလကုသိုလ် ပြုသူနဲ့အတူ ကုသိုလ်ထပ်ရတယ်။

မေး။ ။ပြိတ္တာတွေဟာ ကုသိုလ်ရှင်က အမျှဝေလို့ သာဓုခေါ်မှ ပတ္တာ နုမော ဒနာ ကုသိုလ်ရသလား။ အမျှမဝေတဲ့ ကောင်းမှု ကုသိုလ်ပြုတာကို မြင်ရ ကြားရလို့ သာဓုခေါ်ရင်ကော ပတ္တာနုမောဒနာ ကုသိုလ် ရပါသလား။

ဖြေ။ ။ပြိတ္တာတွေဟာ ကုသိုလ်ကောင်းမှု ပြုတဲ့လူက အမျှပေးဝေလို့ သာဓုအနုမောဒနာခေါ်မှ ပတ္တာနုမောဒနာ ကုသိုလ်ရပါတယ်။ အမျှမဝေတဲ့ မြင်လို့ ကြားလို့ သာဓုခေါ်ရုံနဲ့ ပတ္တာနုမောဒနာ ကုသိုလ် မရပါဘူး။

သာဓကပြရမယ်ဆိုရင်တော့ ဗိမ္ဗိသာရမင်းကြီးဟာ ဝေဠုဝန်ကျောင်းကို ဆောက်လုပ်ပြီး ဘုရားရှင်ကို လှူဒါန်းပါတယ်။ ကျောင်းအလှူ ရေစက်ချ ပွဲတော်ကြီးလဲ အကြီးအကျယ် ကျင်းပတယ်။ ဒီလို ကောင်းမှုပြုနေတာကို ရှေး



ယခင်က ဆွေမျိုးတော်ဖူးတဲ့ ပြိတ္တာတွေက တွေ့နေ မြင်နေရပါတယ်။ ဒါပေမယ့် ဗိမ္ဗိသာရမင်းကြီးက ဆွေမျိုး ပြိတ္တာတွေကို အမျှမဝေတဲ့အတွက် သာဓု မခေါ်ရပါဘူး။ ဒါကြောင့် ကျောင်းရေစက်ချပွဲကြီး ပြီးတဲ့ညမှာ ဆွေမျိုး ပြိတ္တာတွေက ကိုယ်ထင်ပြပြီး အသံတွေဆူညံ အော်ဟစ်ပါတယ်။ ဒါကို ဘုရားရှင်ကို သွားလျှောက်တော့ ဆွေမျိုး ပြိတ္တာတွေက မင်းကြီးကို သတိပေးတာ ဖြစ်တယ်။ မင်းကြီး ကုသိုလ်ပြုပြီး အမျှမဝေလို့ သာဓုမခေါ်ရလို့ သူတို့ရှိကြောင်း သိအောင် သတိပေးတာဖြစ်တယ်လို့ မိန့်ပါတယ်။ ဒါနဲ့ မင်းကြီးက ဘုရားအမှူးရှိတဲ့ သံဃာတော်တွေကို ပင့်ပြီး ဆွမ်းဆက်ကပ် လှူဒါန်း ကုသိုလ်ပြုပြီးတော့ အမျှဝေပါတယ်။ ဒီတော့မှ သာဓုခေါ်ရလို့ ချမ်းသာသုခ ရကြတယ်လို့ ဓမ္မပဒမှာ ပြပါတယ်။

သိင်္ဂါလောဝါဒသုတ် သားသမီး ကျင့်ဝတ် ငါးပါးမှာ ကုသိုလ်ကောင်းမှု ပြုပြီးရင် မိဘ၊ ဘိုးဘွား၊ ဆွေမျိုး ပြိတ္တာတွေကို အမျှဝေဖို့ ဝတ္တရားတစ်ခု ပါပါတယ်။ တကယ်လို့သာ ကျန်ရစ်တဲ့သားသမီးက အမျှမဝေလဲ ဆွေမျိုးပြိတ္တာတွေက ကျန်ရစ်သူတွေ ကုသိုလ်ပြုတာကို ချောင်းကြည့်ပြီး သာဓုခေါ်လို့ ရတယ်ဆိုရင် ဒီလိုအမျှဝေဖို့ တာဝန် ဝတ္တရားကို သီးသန့်ဖော်ပြမှာ မဟုတ်ပါဘူး။ ချောင်းကြည့် သာဓုခေါ်လို့ မရလို့သာ ဆွေမျိုး ပြိတ္တာတွေကို အမျှဝေခိုင်းတာ ဖြစ်ပါတယ်။

ဒီသာဓကနှစ်ခုကို ကြည့်လိုက်ရင် ကုသိုလ်ပြုသူက အမျှမဝေတဲ့ တွေ့မြင် ကြားသိလို့ သာဓုခေါ်ရုံနဲ့ ပတ္တာနုမောဒနာ မဖြစ်ဘူးလို့ မှတ်ပါ။

လောကသဘာဝယုတ္တိကို ကြည့်ရင်လဲ ပိုင်ရှင်က မပေးတဲ့ ပစ္စည်းကို လူတစ်ယောက်ဟာ ရယူပိုင်ခွင့် မရှိပါဘူး။ မူလ ကုသိုလ်ပိုင်ရှင်က အမျှ ပေးဝေခြင်း မပြုဘဲ သာဓုခေါ်လို့ ပတ္တာနုမောဒန ကုသိုလ်ရဖို့ မရှိပါဘူး။

ဒါကြောင့် ကုသိုလ်ပြုသူအဖို့ အမျှအတမ်း ပေးဝေရတာ တာ တာမှ ဝန်လေး ပင်ပန်းတဲ့ အလုပ်မဟုတ်ပေမယ့် ဆွေမျိုး ပြိတ္တာတွေအဖို့ မစားရ မသောက်ရ အလွန် ဆင်းရဲလှတဲ့ ပြိတ္တာဘုံဘဝက လွတ်မြောက်ခြင်းဆိုတဲ့ မဟာ ချမ်းသာကြီး ကို ရရှိစေနိုင်တဲ့အတွက် ဒါနပြုတိုင်း ကုသိုလ်ပြုပြီးတိုင်း ဆွေမျိုး ပြိတ္တာတွေကို အမျှအတမ်းဝေကြဖို့ အထူးသတိ ပြုသင့်ကြပါတယ်။

မေး။ ။ရှိးရှိးလူတွေဟာ ကုသိုလ်ရှင်က အမျှမဝေတဲ့ ကုသိုလ်ပြုနေတာကို တွေ့ရ၊ ကြားရလို့ သာဓုအနုမောဒနာ ခေါ်ရင်ကော ကုသိုလ်ရပါသလား။

ဖြေ။ ။အလှူရှင်က အမျှမဝေတဲ့ သာဓုအနုမောဒနာ ခေါ်ရင်လဲ ကုသိုလ်တော့ ရပါတယ်။ အထက်မှာပြခဲ့တာက ပြိတ္တာတွေ လက်ငင်း အကျိုးခံစားခွင့် မရှိတာကို ပြခြင်း ဖြစ် ပါတယ်။ ကောသလမင်းကြီးမှာ အသဒိသအလှူ ဘယ်သူမှ ဘယ်တုန်းကမှ မလှူဖူးတဲ့ ဘုရားတစ်ဆူအတွင်း တစ်ကြိမ် သာ လှူနိုင်တဲ့ တစ်နေ့တည်း တစ်ဆယ့်လေးကုဋေကုန် အလှူ ကြီးကို ပေးလှူပါတယ်။ အဲဒီအလှူမှာ ကာဠအမတ်ကတော့ တစ်နေ့တည်း တစ်ဆယ့်လေးကုဋေ လှူပစ်တာ မငွဖြုန်းတီး ပစ်တာပဲ။ တာအကျိုးမှ ရှိမှာလဲ မဟုတ်ဘူး။ ဒီရဟန်းတွေ ကလဲ စားပြီး အိပ်ကြမှာပဲလို့ စိတ်ထဲမှာ မနာလို ဝန်တို



ဖြစ်တယ်။ ဇုဏှအမတ်ကတော့ ဒီအလှူမျိုး ဘုရင်မို့သာ လှူနိုင်ပေတာပဲ။ ဒီအလှူရဲ့အဖို့ကို သတ္တဝါတွေ အမျှတော့ ပေးဝေမှာပါပဲ။ ငါလဲ ဒီကောင်းမှုကို ဝမ်းမြောက်ဝမ်းသာ သာဓုအနုမောဒနာ ခေါ်ပါတယ်လို့ ချီးကျူးတယ်။

ဒီအမတ်နှစ်ယောက်ရဲ့ အကြံကို ဘုရားရှင်ကသိတော့ ဒီ အလှူရဲ့ အကျိုးတရားတွေကို ဟောရင် ကာဠအမတ်ဟာ ဦးခေါင်း ခုနစ်စိပ်ကွဲမယ်။ ဇုဏှအမတ်ကတော့ သောတာပန် တည်မယ်ဆိုတာကို မြင်တော့ ကာဠကို သနားသောအားဖြင့် ဒီအလှူတော်ကြီးရဲ့ အကျိုးတရားတွေ မဟောဘဲ ဘုရားရှင်က ကြွသွားတယ်။ ကောသလမင်းကြီးက တရားမချီးမြှင့်ဘဲ ကြွ သွားလို့ စိတ်မကောင်းဘူး။ ဘုရားကျောင်းတော်ကို လိုက်ပြီး ဘာကြောင့် အနုမောဒနာတရား မဟောပါသလဲလို့ လျှောက် ထားတယ်။ ဘုရားရှင်က အမတ်နှစ်ယောက်ရဲ့ အကြံဖြစ်ပုံ၊ ကာဠ ခုက္ခရောက်မှာမြင်လို့ မဟောပုံကို မိန့်ကြားတယ်။

ဘုရင်ကြီးက ကာဠအမတ်ကို ခေါ်ပြီး "မင်း ပိုက်ဆံ မပါဘဲ ငါပစ္စည်း ငါလှူတာ မင်း ဘာဖြစ်လို့ မနာလိုဝန်တို ရသလဲ" ဆိုပြီး တိုင်းပြည်က နှင်ထုတ်လိုက်တယ်။ အလှူကို ဝမ်းမြောက် ဝမ်းသာရှိတဲ့ ဇုဏှအမတ်ကိုတော့ ဘုရင့်ဘဏ္ဍာ တော်တွေနဲ့ ၇-ရက်တိတိ အလှူပြုခွင့် ပေးတယ်။ ဒီတော့မှ ဘုရားရှင်က မင်းကြီး၊ လူမိုက်တွေကတော့ သူတစ်ပါး အလှူ ပေးတာကို မနာလို ဝန်တိုဖြစ်ကာ အပါယ်ဒုဂ္ဂတိ ရောက် ရတယ်။ ပညာရှိ လူလိမ္မာတွေကတော့ သူများပြုတဲ့ အလှူ တွေကို ဝမ်းမြောက်ဝမ်းသာ သာဓုအနုမောဒနာ ခေါ်ပြီး

လူနတ်ချမ်းသာကို ခံစားရတယ်လို့ တရား ဟောပါတယ်။ ဇုဏှအမတ်ဟာလဲ သောတာပန် တည်သွားပါတယ်။ ဒါကြောင့် သူများလှူတာကို မနာလိုဝန်တိုတဲ့ ကာဠအမတ်လို မဖြစ်ကြဘဲ သူများအလှူကို ဝမ်းသာအားရ သာဓုခေါ်ပြီး ကုသိုလ် ဝေစုရအောင် ယူနိုင်တဲ့ ဇုဏှအမတ်လို လူလိမ္မာ ပညာရှိတွေ ဖြစ်နိုင်ကြပါစေ။

မေး။ ။ကိုယ်တိုင် ကောင်းမှု မပြုဘဲ သာဓု ခေါ်ရုံနဲ့ ကုသိုလ်ဝေစု ရနိုင်ပါ့မလား။

ဖြေ။ ။ရနိုင်ပါတယ်။ သီလာနိသံသဝတ္ထုမှာ သူတော်စင် ကုန်သည်ကြီးနဲ့ တပည့် နှာပိတာဟာ သင်္ဘောပျက်ပြီး ပင်လယ်ထဲ ကျွန်းတစ်ခုပေါ် ရောက်နေရာမှာ အရိယာကုန်သည်ကတော့ ဥပုသ်စောင့် မေတ္တာပို့တယ်။ နှာပိတာကတော့ လိပ်ဥ ငှက်ဥတွေ ရှာစားနေတယ်။ နဂါးမင်းက လှေတစ်စင်း ဖန်ဆင်းပြီး သူတော်ကောင်း ကုန်သည်ကို ခေါ်တယ်။ ငှက်ဥ လိပ်ဥစားတဲ့ တပည့်ကိုတော့ မခေါ်နိုင်ဘူးလို့ ပြောတယ်။ ဒီအခါ ကုန်သည်က သူ့ရဲ့ ကုသိုလ်အဖို့ကို အမျှအတန်း ပေးဝေတယ်။ တပည့်က သာဓုခေါ်တယ်။ ဒီတော့မှ နဂါးမင်းက တပည့် နှာပိတာကိုလဲ လှေပေါ် တက်လိုက်ခွင့် ပြုတယ်။

ဝိသာခါ ကျောင်းအမကြီး ပုဗ္ဗာရုံကျောင်းကြီးကိုဆောက် လုပ် လှူဒါန်းပြီးတဲ့အခါ အမျှဝေတယ်။ အမျိုးသမီးတစ်ဦးဟာ ဝမ်းမြောက်ဝမ်းသာ အနုမောဒနာ ခေါ်တယ်။ သေတော့ နတ်ပြည်မှာ ခမ်းနားကြီးကျယ်တဲ့ ဗိမာန်ကြီးပိုင် နတ်သမီး သွားဖြစ်တယ်။ အနုရုဒ္ဓါ နတ်ပြည်ရောက်လို့ ဘာ



ဖြစ်လို့ ဒီလို ခမ်းနားကြီးကျယ်တဲ့ ဗိမာန်ပိုင်ရှင် ဖြစ်ရသလဲ မေးတဲ့အခါ ဝိသာခါရဲ့ ကျောင်းအလှူ အမျှဝေတဲ့အခါ သာဓုခေါ်ခဲ့ရလို့ ဖြစ်ကြောင်း လျှောက်ထားတယ်။

ဒါကြောင့် အမျှဝေလို့ ဝမ်းမြောက်ဝမ်းသာ သာဓု အနုမောဒနာ ခေါ်ရင် ကုသိုလ်ဝေစုကို ရနိုင်တယ်။ အကုန်အကျမများ၊ အလုပ်မပင်ပန်းဘဲ အလွယ်တကူ ကုသိုလ်ရနိုင်တဲ့ သာဓုခေါ်ခြင်း လုပ်ငန်းကို ယုံယုံကြည်ကြည် ပြုလုပ်သင့်ကြပါတယ်။

မေး။ ။အမျှပေးဝေတဲ့အခါ ဘာဖြစ်လို့ ကြေးစည် တီးကြပါသလဲ။

ဖြေ။ ။ကုသိုလ်ကောင်းမှု ပြုတဲ့အခါ ကိုယ့်မှာရပြီးတဲ့ ကုသိုလ်ကို အခြားသူတွေ ထပ်တူရဖို့ အမျှပေးဝေတယ်။ အဝေးက ပေးဝေရာမှာ ကိုယ့်ရဲ့အသံက သိပ်မကျယ်ဘူး။ အဝေးက ကြားအောင် အကျယ်ကြီး အော်ပြောလို့လဲ ပတ်ဝန်းကျင် လူတွေမှာ အနှောင့်အယှက်ဖြစ်ဖို့ ရှိတယ်။ ဒါကြောင့် အမျှ ပေးဝေနေပါတယ်။ ဝမ်းမြောက်ဝမ်းသာ သာဓုအနုမော ဒနာ ခေါ်ကြပါလို့ တိုက်တွန်းတဲ့အနေနဲ့၊ အသံပေးတဲ့ အနေနဲ့ အမျှဝေပြီးရင် ကြေးစည် တီးလေ့ရှိပါတယ်။ ကြေးစည်သံ ကြားရင်လဲ ကြားရသူ ဗုဒ္ဓဘာသာတွေ သာဓု သာဓုလို့ အနုမောဒနာ ပြုကြပါတယ်။ အမျှပေး ဝေမှန်း သိရအောင်လို့ ကြေးစည်တီး ကြေညာခြင်း ဖြစ်ပါတယ်။

မေး။ ။ပတ္တာနုမောဒန သာဓုအနုမောဒနာ ဘယ်လို ခေါ်ရသလဲ။

ဖြေ။ ။သူတော်ကောင်း သူမြတ်လောင်းတို့ ပေးဝေသော ကုသိုလ်ကောင်းမှု၏ အဖို့ကို အကျွန်ုပ် ဝမ်းမြောက် ဝမ်းသာ သာဓုအနုမောဒနာ ခေါ်ဆိုပါ၏။ သာဓု သာဓု သာဓုလို့ အနုမောဒနာ ပြုရမယ်။

....o....

# (၁၃)

# ဘာဝနာ ပုတီးစိပ်ခန်း

မေး။ ။အမျှဝေ သာဓုခေါ်ပြီးရင် ဘာလုပ်ကြပါသလဲ။

ဖြေ။ ။ဗုဒ္ဓဘာသာ အများစု အထူးသဖြင့် လူငယ်ပိုင်းကတော့ အမျှဝေ သာဓုခေါ်ပြီးရင် ဦးသုံးကြိမ်ချပြီး ဘာသာရေး လုပ်ငန်းကို အဆုံးသတ်ပါတယ်။ ဒါပေမယ့် သက်ကြီးရွယ်ကြီးသူတွေကတော့ အပြီးမသတ်သေးပါဘူး။ ဘုရားရှေ့ထိုင်ပြီးတော့ဖြစ်ဖြစ်၊ ပက်လက်ကုလားထိုင် အိပ်ရာ ခုတင်ပေါ်မှာဖြစ်ဖြစ် ပုတီးစိပ်ပါတယ်။

မေး။ ။ပုတီးစိပ်တယ်ဆိုတာ ဘာလဲ။

ဖြေ။ ။ပုတီးစိပ်ဆိုတာ စိတ်ခေတ်တည်ငြိမ်မှု သမာဓိရဖို့အတွက် ပြင်ပအာရုံတွေကို စိတ်မရောက်စေဘဲ ကမ္မဋ္ဌာန်းအာရုံတစ်ခုမှာ စိတ်ကို တည်ငြိမ်နေအောင် ပွားများတာဖြစ်ပါတယ်။ ဒီလိုပွားများတဲ့နေရာမှာ စိတ်ဆိုတာက ဖမ်းချုပ်ဖို့ ခဲယဉ်းတယ်။ အလွန် လျင်မြန်တယ်။ ပြင်ပအာရုံတွေကို

ဖြန့်ပြီး ကျက်စားတတ်တယ်။ ဒီစိတ်ကို ထိန်းဖို့ခက်တော့ ရုပ်ဝတ္ထုဖြစ်တဲ့ ပုတီးရဲ့ အကူအညီကိုယူပြီး စိတ်ကိုတည်ငြိမ်အောင် လုပ်ရတယ်။ ဒါကို ပုတီးစိပ်တယ်လို့ ခေါ်တယ်။

မေး။ ။ပုတီးစိပ်ပါ၊ ပုတီးစိပ်ရမယ်လို့ ပိဋကတ်မှာ ဘုရားဟောခဲ့ပါသလား။

ဖြေ။ ။နိကာယ်ငါးရပ်၊ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာတွေမှာ ပုတီးစိပ်တာနဲ့ ပတ်သက်ပြီး ဟောထား ရေးထားတာ မတွေ့ရပါဘူး။ ယခု ဗုဒ္ဓဘာသာ မြန်မာလူမျိုးတွေ အိမ်တိုင်းမှာလိုလို ပုတီးရှိပြီး လူကြီးတိုင်းလိုလို ပုတီးစိပ်ကြပါတယ်။ ပိဋကတ်တတ်ကျွမ်းတဲ့ ဆရာတော်ကြီးများလဲ ပုတီးစိပ်ကြပါတယ်။ ဒါပေမယ့် မြန်မာဆရာတော်တွေ ပြုစုရေးသားလဲ ကျမ်းဂန်တွေမှာလဲ ပုတီးစိပ်တာနဲ့ ပတ်သက်ပြီး ရေးထားတာ မတွေ့ရပါဘူး။ ဒါပေမယ့် ဘာသာရေး လိုက်စားတဲ့လူတွေရော ဘုန်းကြီးတွေရော မြန်မာတစ်ပြည်လုံးမှာ ရှေးအခါကတည်းက အခုထိ ပုတီးစိပ်နေကြတာပါပဲ။

မေး။ ။ပုတီးစိပ်တာနဲ့ ပတ်သက်ပြီး ပိဋကတ်မှာ မပြောဘူး ဆိုရင် ပုတီးစိပ်တာဟာ ဘာသာရေး လုပ်ငန်းလား။

ဖြေ။ ။ပုတီးစိပ်ပါ၊ ပုတီးကို ဘယ်လိုစိပ်ရမယ်လို့သာ ပိဋကတ်မှာ မပြောတာပါ။ ပုတီးစိပ်တဲ့ လုပ်ငန်းရဲ့ အနှစ်သာရကတော့ ဘာသာရေးလုပ်ငန်းပဲ ဖြစ်ပါတယ်။ ဗုဒ္ဓဘာသာတွေ လုပ်ဆောင်ရမယ့် ဘာသာရေး အဓိကလုပ်ငန်းကြီး သုံးခုရှိတယ်။ ဒါန—အလှူပေးရမယ်၊ သီလ—ကိုယ်ကျင့်တရားသီလ



စောင့်ထိန်းရမယ်၊ ဘာဝနာ—ကမ္မဋ္ဌာန်းဘာဝနာ စီးဖြန်းရမယ်ဆိုပြီး အဓိက ကုသိုလ်ရေးလုပ်ငန်းကြီး သုံးခုရှိတယ်။ ပုတီးစိပ်တာဟာ အဲဒီ လုပ်ငန်းကြီး သုံးခုထဲက နောက်ဆုံးဖြစ်တဲ့ ကမ္မဋ္ဌာန်းဘာဝနာ စီးဖြန်းခြင်းအလုပ် ဖြစ်ပါတယ်၊ ကမ္မဋ္ဌာန်းဘာဝနာ စီးဖြန်းမှုကို ပိဋကတ်မှာတော့ စိတ်နဲ့ စီးဖြန်းဖို့ ဟောပါတယ်။ ဒါကြောင့် ပုတီးစိပ်တယ်ဆိုတာ ကမ္မဋ္ဌာန်းဘာဝနာ ပွားများတာ ဖြစ်တဲ့အတွက် ဘာသာရေးရဲ့ ပြင်ပလုပ်ငန်း မဟုတ်ပါဘူး။

မေး။ ။ဘုရားက စိတ်နဲ့ စီးဖြန်းဖို့ ဟောတာကို လူတွေက ဘာဖြစ်လို့ ပုတီးစိပ်နဲ့ လုပ်ပါသလဲ။

ဖြေ။ ။ဘုရားက စိတ်နဲ့ စီးဖြန်းဖို့ ဟောပေမယ့် လူတွေက ပုတီးစိပ်နဲ့ စီးဖြန်းတာ အကြောင်းရှိပါတယ်။ ကမ္မဋ္ဌာန်းဘာဝနာ ပွားတယ် ဆိုတာက စိတ်တည်ငြိမ်မှုအတွက် ဖြစ်ပါတယ်။ စိတ်ကပျံ့လွင့်တဲ့သဘော၊ လျင်မြန်တဲ့သဘော ရှိတယ်။

ထိုထိုအာရုံတွေကို အမြဲ ရောက်သွားတတ်တယ်။ ဒီလို အဖမ်းရခက်တဲ့အတွက် ပုတီးဆိုတဲ့ ရုပ်ဝတ္ထု အကူအညီယူပြီး ရှေးဆရာတော်ကြီးတွေက စီစဉ်ခဲ့ပုံရပါတယ်။ ပုတီးစိပ်က လက်မှာရှိနေတော့ စိတ်ဟာ တခြားကို ပျံ့လွင့်သွားဦးတော့ ချက်ချင်း ပြန်သတိရပြီး ကမ္မဋ္ဌာန်းအာရုံပေါ် ပြန်တင်နိုင်တယ်။ ဘုရားရှင်ရဲ့ ဂုဏ်တော်တွေကို အောက်မေ့သတိရဖို့ အတွက် ရုပ်ပွားစေတီတော် တည်ထားပေးရသလိုပါပဲ။ ကမ္မဋ္ဌာန်းအာရုံမှာ စိတ်မြဲနေဖို့ ပုတီးစိပ် အသုံးပြုနည်းကို ရှေး

ဆရာတော်တို့ စီစဉ်ခဲ့တာ ဖြစ်ပါတယ်။ ပုတီးမပါဘဲ ဂုဏ်တော်တွေကို ဆင်ခြင်တာနဲ့ ပုတီးကိုင်ပြီး ဂုဏ်တော်တွေကို ဆင်ခြင်တာ ဘယ်သူက နှံ့မြို့ ရှိတယ်ဆိုတာကို လက်တွေ့ လုပ်ကြည့်ရင် ပုတီးစိပ်ရဲ့ အကျိုးကို သိနိုင်ပါတယ်။ ဒီလို အကျိုးလက်တွေ့ရှိလို့ ပိဋကမှာ မပါပေမယ့် ရှေးဆရာတော်တွေက စီစဉ်ခဲ့တာ ဖြစ်ပါတယ်။

ဖြေ။ ။ပုတီးစိပ်တော့ ဘာတွေ စိပ်ရသလဲ။

မေး။ ။ပုတီးစိပ်တယ် ဆိုတာ ဘာဝနာပွားတာ ဖြစ်တယ်။ ဘာဝနာက သမထဘာဝနာ၊ ဝိပဿနာဘာဝနာ ဆိုပြီး နှစ်မျိုးရှိတယ်။ သမထကမ္မဋ္ဌာန်း သမထဘာဝနာက ၄၀ ရှိတယ်။ အဲဒီ ၄၀ ထဲက ယနေ့ မြန်မာအများစု စီးဖြန်းနေတဲ့ ဘာဝနာကတော့ အနုဿတိ ၁၀ ပါးထဲမှာ ပါတဲ့ ဗုဒ္ဓါနုဿတိ ဘုရားရှင်ရဲ့ ဂုဏ်တော်တွေကို ပွားများခြင်းကို အပြုလုပ်များပါတယ်။ ဂုဏ်တော်ပုတီးတွေကို စိပ်နေကြပါတယ်။ ဝိပဿနာ ဘာဝနာကတော့ မြင်မြင်သမျှ သက်ရှိ သက်မဲ့ တွေဟာ အမြဲမရှိသောကြောင့် အနိစ္စ၊ ဆင်းရဲခြင်းကြောင့် ဒုက္ခ၊ အစိုးမရသောကြောင့် အနတ္တဟု ထပ်ခါတလဲလဲ ရှုပွား ဆင်ခြင်ခြင်း ဖြစ်ပါတယ်။ ဂုဏ်တော်လကွာ သုံးပါးကို ပွားများမှု အရေအတွက်ကို ပုတီးလုံးရေနဲ့ မှတ်တာကို ပုတီးစိပ်တယ်လို့ ခေါ်တာပါပဲ။

မေး။ ။လက်တွေ့ဂုဏ်တော် ပုတီးစိပ်နည်းကို ညွှန်ပြပါ။

ဖြေ။ ။ဘုရားရှေ့မှာ သက်သာသလို ထိုင်ပြီးတော့ ဖြစ်ဖြစ်၊ ပက်လက်ကုလားထိုင်၊ ခုတင်ပေါ်မှာ သက်သာသလိုထိုင်ပြီး၊ လဲလျောင်းပြီး ဖြစ်ဖြစ်၊ အခြားအာရုံတွေကို



စိတ်မရောက်အောင် မျက်စိကို မှိတ်ထားပြီး (ဘေးပတ်ဝန်းကျင် အသံများ တိတ်ဆိတ်နေချိန်ဆိုလျှင် ပိုကောင်းသည်။) မိမိစိတ်အာရုံထဲမှာ သက်တော်ထင်ရှား ဘုရားရှင်ရဲ့ပုံ ပေါ်လာအောင် အာရုံပြုပါ။ ပြီးမှ ဘုရားဂုဏ်တော်ကိုးပါးထဲက အရဟံဂုဏ်တော် တစ်မျိုးတည်းကို အရဟံတစ်ခါဆို ပုတီးတစ်လုံးချ၊ အရဟံ တစ်ခါဆို ပုတီးတစ်လုံးချပြီး ပါဠိလို စိပ်ချင်လဲ စိပ်နိုင်တယ်။ အရဟံ အရဟံဆိုပြီး ပါဠိလိုစိပ်ရင် ပူဇော်အထူးကို ခံယူတော်မူထိုက်သော မြတ်စွာဘုရားဆိုတဲ့ အဓိပ္ပာယ်ဟာ ထင်ပေါ်စေရမယ်။ ပူဇော်အထူးကို ခံတော်မူထိုက်သော မြတ်စွာဘုရားဆိုပြီး ပုတီးတစ်လုံးချ၊ ဒီလို မြန်မာလို ပွားများတာက ပိုကောင်းတယ်။

ဂုဏ်တော် ကိုးပါးထဲက အခြား ဂုဏ်တော် တစ်ခုခုကိုလဲ ဒီအတိုင်း စိပ်နိုင်တယ်။ ဘုရားရှင်ကို အာရုံပေါ်မှာ စိတ်တည်ငြိမ်နေဖို့ မိမိစိတ်အစဉ်မှာ ဘုရားရှင်ရဲ့ ဂုဏ်တော်တွေသာ ထင်မြင်နေဖို့လိုတယ်။ ဂုဏ်တော် တစ်ပါးတည်းကို မဟုတ်။ ဂုဏ်တော်ကိုးပါးကို တစ်ပါးပြီး တစ်ပါး ဆက်ပွား၊ ဘဂဝါပြီး အရဟံ ပြန်ဆက်ပွားရင်လဲ ရတယ်။ ကိုယ်သတ်မှတ်ထားတဲ့ ပုတီးပတ်ကို ရတော့ ရပ်လိုက်ရုံပါပဲ။

ဝိပဿနာ ဘာဝနာပွားရဲ့ ပုတီးစိပ်နည်းကတော့ မြင်မြင်သမျှ သင်္ခါရတွေရဲ့ မမြဲပုံ ဆင်းရဲပုံ အစိုးမရပုံတွေကို ဉာဏ်မှာ ဆင်ခြင်ပြီး နာမရူပံ အနိစ္စံ=နာမ်ရုပ်တရားတို့သည် အမြဲမရှိ အနိစ္စဆိုပြီး ပုတီးတစ်လုံး ချရမယ်။ နာမရူပံ ဒုက္ခံ=နာမ်ရုပ်တရားတို့သည် ဆင်းရဲ၏ ဒုက္ခ။ နာမရူပံ အနတ္တ=

နာမ်ရုပ်တရားတို့သည် အစိုးမရ အနတ္တဟု စိတ်မှာဆင်ခြင်ပြီး ပုတီးတစ်လုံးစီ ချရမယ်။ အဓိဋ္ဌာန်ဆက်မှတ်ထားတဲ့ ပုတီး ပတ်ပြီးတော့ ရပ်လိုက်ရုံပါပဲ။

မေး။ ။ပုတီးစိပ် မပါဘဲ ဂုဏ်တော်တွေကို အောက်မေ့ အနိစ္စ ဒုက္ခ အနတ္တကို ရှုလို့ရပါသလား။

ဖြေ။ ။ရပါတယ်။ အတူတူပါပဲ၊ ပိဋကတ်ထဲမှာလဲ စိတ်မှာ ပွားများဆင်ခြင်ဖို့ ဉာဏ်နဲ့မြင်အောင် ရှုဖို့သာ ဆိုပါတယ်။ ဒါကြောင့် ပုတီးမပါဘဲ ရပါတယ်။ ပုတီးမပါဘဲ ဂုဏ်တော်တွေနဲ့ လက္ခဏာသုံးပါးကို ဆင်ခြင် ရှုများနိုင်မှတော့ ပိုပြီး အဆင့်အတန်း မြင့်တာပေါ့။ ဒါကြောင့် အခုခေတ် ကမ္မဋ္ဌာန်းရိပ်သာတွေမှာ ပုတီးမပါဘဲ သမထ ဝိပဿနာတွေကို ရှုဖို့သာ သင်ပြကြပါတယ်။ ပုတီးစိပ်ဖို့ မသင်ပြကြပါဘူး။

မေး။ ။ဂုဏ်တော်တွေကို ဉာဏ်မှာမထင်မြင်ဘဲ အရဟံ အရဟံ အနိစ္စ ဒုက္ခ အနတ္တ စသည်ဆိုပြီး ပုတီးလုံးတွေ ချသွားတာ မှန်ပါသလား။

ဖြေ။ ။မမှန်ပါဘူး၊ ပုတီး ဘယ်နှစ်ပတ် စိပ်မယ်ဆိုတဲ့ အဓိဋ္ဌာန်ကြောင့် အနက်အဓိပ္ပာယ်ကို မစဉ်းစားဘဲ အမြန်ဆုံး အမြန်စိပ်သွားတာက အကျိုးမများလှပါဘူး။ ဒါကြောင့် ပုတီးပတ် မပြည့်ချင် နေပါစေ။ ပုတီးပတ်အရေ နည်းချင် နည်းပါစေ၊ ဂုဏ်တော်တွေကို တကယ်ဉာဏ်မှာ ပေါ်လာအောင် ရုပ်နာမ်တရားတွေရဲ့ မမြဲပုံ ဆင်းရဲပုံ အစိုးမရပုံ ပေါ်လာအောင် ဆင်ခြင် ရှုမှတ်ရပါမယ်။ ပုတီးစိပ်တယ်ဆိုတာ နာမ်လုပ်ငန်း စိတ်လုပ်ငန်း ဖြစ်တယ်။ ဒီတော့ မျ



လွင့်တဲ့ ကမ္မဋ္ဌာန်းအာရုံ ဂုဏ်တော်တွေ ပွားများမှုထဲမှာ တည်ငြိမ်နေရင် လောဘ ဒေါသ မောဟတွေ မဖြစ်ဘူး။ အကုသိုလ်စိတ်တွေ မဝင်ဘူး။ ဒီလို စိတ်တည်ငြိမ်ဖို့အတွက် သမထ ဘာဝနာကို ပွားရတယ်။ ဂုဏ်တော်ပုတီး စိပ်ရတယ်။ ပုတီးစိပ်တဲ့နေရာမှာ အရေအတွက်ထက် အရည်အချင်းက ပိုအရေးကြီးတယ်။ ဒါကြောင့် ပုတီးကို အပြေးမစိပ်ပါနဲ့။

မေး။ ။သမထအားထုတ်လို့ အကြားအမြင် ရတယ်ဆိုတာ မှန်ပါသလား။ ကျမ်းဂန်မှာ ဆိုပါသလား။

ဖြေ။ ။မှန်ပါတယ်။ တကယ်အားထုတ်လို့ သမာဓိအား တကယ်ကောင်းလာရင် အကြားအမြင် ရနိုင်ပါတယ်။ ဒိဗ္ဗစက္ခု နတ်မျက်စိ၊ ဒိဗ္ဗသောတ နတ်နားရတယ်လို့ ဆိုပါတယ်။ အာဒေသနာ ပါဠိဟာရှိတယ်လို့ ခေါ်ပါတယ်။

မေး။ ။အကြားအမြင် ရတယ်ဆိုတဲ့ ပုဂ္ဂိုလ်တွေဟာ နောက်ပိုင်းမှာ ဘာဖြစ်လို့ အကြားအမြင်တွေ မကြည်လင်ဘဲ အမှားမှားတွေ ဖြစ်ကုန်ကြပါသလဲ။

ဖြေ။ ။အကြားအမြင် ရတယ်။ တန်ခိုး ဖန်ဆင်းနိုင်တယ်ဆိုတာတွေဟာ လောကီတရားတွေ လောကီ အဘိညာဉ်တွေ ဖြစ်ပါတယ်။ လောကီအဘိညာဉ်တွေဟာ သမာဓိအား ကောင်းတဲ့အခါ ဖြစ်ပေါ်လာပြီး သမာဓိအား နည်းတဲ့အခါ ပျောက်ကွယ်နိုင်ပါတယ်။ သမာဓိအားနည်းလာအောင် လောဘ ဒေါသစတဲ့ ကိလေသာတရားတွေ ဝင်လာပါတယ်။ အဲဒီအခါမှာ အကြားအမြင်တွေ မှန်ကန်ခိုင်မှုတွေဟာ ပျောက်ကွယ်သွားပါတယ်။ လောကီဖြစ်တဲ့ ငါးပါးအဘိညာဉ်တွေဟာ လောကုတ္တရာ

ဖြစ်တဲ့ မဂ်ဖိုလ်တရားတွေလို မမြဲပါဘူး၊ သောတာပန် သကဒါဂါမ်စတဲ့ လောကုတ္တရာတရားတွေက တစ်ခါရပြီးရင် ပြန်ပြီး ပျောက်ကွယ်တယ်လို့ မရှိပါဘူး။ ဈာန်တွေ အကြားအမြင်တွေကတော့ ပြန်ပျောက်ကွယ်သွားနိုင်တယ်လို့ မှတ်ပါ။ ဒါကြောင့် အချို့ အကြားအမြင် ပေါက်သူတွေဟာ လာဘ်လာဘ၊ ဘုန်းကြီးမှု လောဘဘက်ကို လိုက်သွားတဲ့အခါ အကြားအမြင်တွေဟာ မမှန်တော့ဘဲ ဖြစ်ရပါတယ်။

**မေး။** ။သမထ ကမ္မဋ္ဌာန်းဆိုတာ ဘာလဲ၊ သမထအားထုတ်ရင် ဘာဖြစ်မလဲ။

ဖြေ။ ။သမထ ကမ္မဋ္ဌာန်းတွေဟာ ကိလေသာအပူတွေကို ငြိမ်းအေးစေသောကြောင့် သမထလို့ ခေါ်တယ်။ သမထ ကမ္မဋ္ဌာန်းလေးဆယ်ထဲက တစ်ပါးပါးကို စွဲစွဲမြဲမြဲ ပွားများနေရင် ကိလေသာငြိမ်းပြီး စိတ်ဓာတ် တည်ငြိမ်မှုကို ရမယ်။ ဒီသမထအား ကောင်းလာရင် ဈာန် ၄-ပါး အဆင့်ဆင့်ကို ရမယ်၊ ဒိဗ္ဗစက္ခုခေါ် အမြင်ဓာတ်၊ ဒိဗ္ဗသောတခေါ် အကြားဓာတ်၊ ပရစိတ္တ ဝိဇာနနခေါ် သူတစ်ပါးရဲ့ စိတ်ကို သိမြင်မှု၊ ပုဗ္ဗေနိဝါသာနုဿတိခေါ် ရှေးဘဝတွေကို ပြန်လည်အောက်မေ့မြင်သိနိုင်မှု၊ ဣဒ္ဓိဝိဓခေါ် တန်ခိုးဖန်ဆင်းနိုင်မှုစတဲ့ လောကီအဘိညာဉ်တွေ ရနိုင်တယ်။

သမထ အားကောင်းပြီး စိတ်တည်ငြိမ်နေတဲ့ ပုဂ္ဂိုလ်ဟာ လောကီလိုင်း ဖြစ်တဲ့ ဈာန် အဘိညာဉ် တွေကို မသွားဘဲ ရုပ်နာမ်တရားတွေရဲ့ မမြဲမှု၊ ဆင်းရဲမှု အစိုးမရမှုကို သုံးသပ်ဆင်ခြင်ခြင်းဖြင့် ဝိပဿနာနယ်ကို ကူးလိုက်ရင် ဈာန်အဘိညာဉ်မရဘဲ သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်၊ ရဟန္တာ



အဆင့်ဆင့် ဖြစ်သွားနိုင်တယ်။ ဒါဟာ သမထရဲ့ အစွမ်းပါပဲ။

**မေး။** ။ဝိပဿနာ ကမ္မဋ္ဌာန်းဆိုတာ ဘာလဲ၊ ဝိပဿနာအားထုတ်ရင် ဘာဖြစ်မလဲ။

ဖြေ။ ။ရှိရှိသမျှ ရုပ်နာမ်ဓမ္မ သင်္ခါရတွေဟာ အမြဲမရှိ ဆင်းရဲ၏၊ အစိုးမရဟု အဖန်ဖန် ရှုမြင်သုံးသပ်မှုကို ဝိပဿနာလို့ ခေါ်တယ်။ ဒီလက္ခဏာသုံးပါးကို အထပ်ထပ် ရှုမြင်သုံးသပ်ရင် ရုပ်နာမ်တရားတွေကို တပ်မက်စွဲလမ်းမှု မဖြစ်တော့ဘူး၊ မတပ်မက်ရင် ငြီးငွေ့လာမယ်။ ငြီးငွေ့ရင် ဒီရုပ်နာမ်တွေ ချုပ်ငြိမ်းရာ နိဗ္ဗာန်ကို မျက်မှောက် ပြုနိုင်တဲ့ သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ် ရဟန္တာ အဆင့်ဆင့် ဖြစ်သွားနိုင်တယ်။ ရဟန္တာဖြစ်ပြီးရင်တော့ ဘာသာရေးကိစ္စ လမ်းဆုံးပြီ။ နောက် မဂ်ကိစ္စပြတ်သွားပြီး ဘာမှလုပ်စရာ မလိုတော့ဘူး။ လောကီဈာန် အကြားအမြင်တွေလိုလဲ တစ်ခါ ပြန်ပျောက်သွားစရာ မရှိဘူး၊ ဒါ ဝိပဿနာရလို့ရတဲ့ အကျိုး ဖြစ်ပါတယ်။ အရဟတ္တမဂ်ကိုရမှ ရဟန္တာဖြစ်မှုဟာ ဗုဒ္ဓဘာသာတွေရဲ့ နောက်ဆုံး ရည်မှန်းချက် ပန်းတိုင်ပါပဲ၊ ရဟန္တာအဖြစ်ထက် ပိုမြင့်တဲ့ ဘာသာရေးရည်မှန်းချက် မရှိတော့ဘူး။

မေး။ ။တရားထိုင်တယ်ဆိုတာ ဘာလဲ၊ တရားထိုင်တော့ ဘာဖြစ်မလဲ။

ဖြေ။ ။တရားထိုင်တယ် ဆိုတာက ဗုဒ္ဓဘာသာတွေရဲ့ လိုရင်းအကျဆုံး အဆင့်မြင့်ဆုံး ကျင့်ဝတ်ဖြစ်တယ်။ ဗုဒ္ဓဘာသာတွေရဲ့ ပန်းတိုင်က ရုပ်နာမ်တို့ချုပ်ရာ တရားကုန်

နန်းရာ နိဗ္ဗာန်ကို ရောက်ဖို့ ဖြစ်တယ်။ အဲဒီ နိဗ္ဗာန်ရောက်ဖို့အတွက် သတိပဋ္ဌာန်တရားကို အားထုတ်ကြတယ်၊ အားထုတ်တဲ့အခါ ဘုရားရှေ့ သို့မဟုတ် ဆိတ်ငြိမ်ရာ နေရာမှာ ကိုယ်ကို ပလ္လင်ခွေထိုင်ပြီး ထွက်သက် ဝင်သက်ကို မလွတ်တမ်း သိအောင် နှာသီးဖျားနှုတ်ခမ်းမှာ တိုးထွက် သွားတာကို သိအောင် သတိနဲ့ ရှုမှတ်ရတယ်။ အဲဒီလိုထိုင်ပြီး ရှုမှတ်ရလို့ တရားထိုင်တယ်လို့ ခေါ်တာပဲ။ လက်တွေ့ အားထုတ်နည်း အကျယ်ကိုတော့ ဝိသုဒ္ဓိမဂ်စတဲ့ တရားအားထုတ်နည်း စာအုပ်တွေဖတ်၊ ဆရာကောင်း (သို့မဟုတ်) ရိပ်သာတစ်ခုကို ချဉ်းကပ်ပြီး လေ့လာ အားထုတ်သင့်ပါတယ်။

မေး။ ။သမထမပါဘဲ ဝိပဿနာကို ရှုမှတ်အားထုတ်လို့ ရပါသလား။

ဖြေ။ ။ပါရမီ ရင့်ပြီး ဉာဏ်အမြင် ရင့်နေသူတွေဟာ စိတ်တည်ငြိမ်မှု သမာဓိရဖို့အတွက် သမထ ဘာဝနာကို အားထုတ်စရာ မလိုပါဘူး၊ ဘုရားရှင်လက်ထက် တရားဟော တော်မူပြီး သောတာပန် စသည် ဖြစ်သွားတယ်ဆိုတာ ဒီလို ပုဂ္ဂိုလ်တွေပါပဲ။

ဒါပေမယ့် သာမန်ပုဂ္ဂိုလ်တွေမှာတော့ သီလ၊ သမာဓိ၊ ပညာဆိုတဲ့ အဆင့်သုံးဆင့်ကို အစဉ်အတိုင်း တက်ရပါတယ်။ ရှေးဦးစွာ အကျင့်သီလ စင်ကြယ်ရမယ်။ နောက် သမာဓိရအောင် စိတ်တည်ငြိမ်အောင် သမထကို အားထုတ်ရမယ်။ ပြီးမှ ရုပ်နာမ်ဓမ္မတွေကို ရှုပြီး ဝိပဿနာကို ပွားရမယ်။



မေး။ ။ဝိပဿနာကို ဆက်မရှုဘဲ သမထကို ဆက်ပွားရင် ဘာဖြစ်မလဲ။ ဈာန်ရပုဂ္ဂိုလ်သေရင် ဘယ်မှာ ဖြစ်မလဲ။

ဖြေ။ ။ရပါတယ်။ သမထအားထုတ်လို့ သမာဓိအား ကောင်းတဲ့အခါ ပထမဈာန်၊ ဒုတိယဈာန်၊ တတိယဈာန်၊ စတုတ္ထဈာန်ဆိုတဲ့ ဈာန်လေးဆင့်ကို ရမယ်။ ဈာန်ရအဖြစ်နဲ့ သေရင် ဗြဟ္မာဘုံ ၂၀-မှာ ဗြဟ္မာဖြစ်ပြီး ဈာန်ချမ်းသာကို စံစားနေနိုင်မယ်။ ဗြဟ္မာပြည် ဆိုတာက အသက်မွေး ဝမ်း ကျောင်းမှု ဘာစီးပွားရေးမှ လုပ်စရာမလိုဘူး။ ဘာအာဟာ ရမှ စားစရာလဲမလိုဘူး၊ လောကီအာရုံ ပေါ်ကလဲ မစား ကြတော့ဘူး။ ပြီးတော့ သမာဓိ အားကောင်းတဲ့အခါ ရှေး ဘဝကို ပြန်မြင်နိုင်တယ် (ပုဗ္ဗေနိဝါသာနုဿတိ အဘိညာဉ်)။ အဝေးကအရာကိုလှမ်းမြင်နိုင်တယ် (ဒိဗ္ဗစက္ခု အဘိညာဉ်)။ အဝေးက အသံကို လှမ်းကြားနိုင်တယ် (ဒိဗ္ဗသောတ အဘိညာဉ်) (အကြားအမြင် ပေါက်တယ်)။ တန်ခိုး ဖန်ဆင်းနိုင်တယ် (ဣဒ္ဓိဝိဓ အဘိညာဉ်)။ သူတစ်ပါးစိတ်မှာ ဘာတွေ တွေးနေတယ်ဆိုတာ သိနိုင်တယ် (ပရစိတ္တဝိဇာနန အဘိညာဉ်) တွေကို ရနိုင်တယ်။ ဒါဟာ သမထရဲ့စွမ်းအားပဲ။

မေး။ ။ဈာန်အဘိညာဉ်တွေရပြီး ဝိပဿနာရှုပြီး မဂ် ဖိုလ်ရအောင် အားထုတ်လို့ ဖြစ်ပါသလား။

ဖြေ။ ။ဖြစ်ပါတယ်။ ဈာန်အဘိညာဉ်တွေက တစ်ဆင့် မဂ်ဖိုလ်ကို ကူးတာလဲ ရှိပါတယ်။

မေး။ ။ဈာန်ရတဲ့ ပုဂ္ဂိုလ်တွေဟာ ဈာန်ပြန်လျှောသလို မဂ်ရတဲ့ပုဂ္ဂိုလ်တွေဟာ မဂ်ပြန်လျှောတတ်ပါသလား။

ဖြေ။ ။မဂ်ဖိုလ်ရတဲ့ ပုဂ္ဂိုလ်တွေဟာ မဂ်ဖိုလ်က ပြန်မလျှောတော့ပါဘူး။ ရပြီးတဲ့ မဂ်ဖိုလ်ဟာမြဲပါတယ်၊ အထက်ဆင့်၊ အထက်မဂ်ကိုသာ တစ်ဆင့်ပြီး တစ်ဆင့် တက်သွားပါတယ်။ အရိယာ ပုဂ္ဂိုလ်က ရိုးရိုးပုထုဇဉ် ပြန်ဖြစ်တယ်လို့ မရှိဘူး။

မေး။ ။သောတာပန်စတဲ့ အရိယာပုဂ္ဂိုလ်တွေ သေရင် ဘယ်ဘဝမှာ ဘာသွားဖြစ်သလဲ။

ဖြေ။ ။သောတာပန်ပုဂ္ဂိုလ်ဟာ လောကီစည်းစိမ်တွေကို ခံစားမွေ့လျော်နေရင် အများဆုံး (၇)ဘဝ လူပြန်ဖြစ်နိုင်တယ်။ တစ်ဘဝ နှစ်ဘဝ အတွင်းမှာလဲ အထက်မဂ်ဖိုလ်တွေကို ရသွားနိုင်တယ်။ (၇)ဘဝထက်တော့ ပိုပြီး ပဋိသန္ဓေ မနေနိုင်ဘူး၊ သကဒါဂါမ်ပုဂ္ဂိုလ်ဟာ သေပြီး လူ့ပြည်မှာ တစ်ကြိမ်ပဲ ပြန်ဖြစ်နိုင်တယ်။ အနာဂါမ်ပုဂ္ဂိုလ်ကတော့ သေပြီးရင် လူ့ပြည်မှာ လူပြန်မဖြစ်ရဘူး။ အထက်ဗြဟ္မာ့ဘုံမှာဖြစ်ပြီး ရဟန္တာဖြစ်ကာ နိဗ္ဗာန်ကို ရောက်ရတယ်။ ရဟန္တာပုဂ္ဂိုလ် သေရင်တော့ ဘယ်ဘုံမှာမှ ဘာမှ ပြန်မဖြစ်တော့ဘူး။ ခန္ဓာငါးပါး ချုပ်ငြိမ်းပြီး ထာဝရကုန်ခမ်းရာ အေးငြိမ်းချမ်းသာတဲ့ နိဗ္ဗာန် ရောက်သွားတယ်။

....၀....

# (၁၄)

# ဒါနခန်း

မေး။ ။ဒါန=အလှူပေးတယ်ဆိုတာ ဘာလဲ။

ဖြေ။ ။ဒါန=အလှူပေးတယ် ဆိုတာက ပေးလှူလိုတဲ့ ပုဂ္ဂိုလ်ရဲ့ သန္တာန်မှာဖြစ်တဲ့ စေတနာကို ဒါနလို့ ခေါ်တယ်။ စေတနာရှိမှ ပေးလှူဖြစ်တယ်။ စေတနာမရှိက မပေးလှူဖြစ်။ ဒါန ဖြစ်မြောက်ရေးမှာ စေတနာက အကြောင်းရင်းဖြစ်လို့ စေတနာကို ဒါနလို့ ခေါ်ရတယ်။ စေတနာ ဒါနလို့ ခေါ်တယ်။

အဲဒီ စေတနာနဲ့ အတူတကွ ဖြစ်တဲ့ လိုချင်တပ်မက်မှု မရှိတဲ့ စွန့်လွှတ်ပေးကမ်းမှု အလောဘကိုလဲ ဒါနလို့ ခေါ်နိုင်တယ်။ လောဘစိတ်များနေရင် အလှူ မဖြစ်ဘူး။ လောဘနည်းမှ အလှူဖြစ်တယ်။

မေး။ ။ဒါနံ ဒေတိ=အလှူကို ပေးလှူ၏ ဆိုတဲ့စကားမှာ စေတနာတွေကို ပေးလိုက်တာလား။

ဖြေ။ ။ဒါနံဒေတိ ဆိုတဲ့ စကားမှာတော့ စေတနာကို ဒါနလို့ မခေါ်ဘူး။ လှူဒါန်းဖွယ်ရာ ပစ္စည်းဝတ္ထုတွေကို

ဒါနလို့ ခေါ်ရတယ်။ ဒါကြောင့် အထက်ပါ ပဋိဂ္ဂါဟကကို မြင်မာပြန်ရင် ဒါနံ၊ ဆွမ်း, သင်္ကန်း, ကျောင်း, ဆေးစသော လှူဖွယ်ပစ္စည်းကို။ ဒေတိ၊ ပေးလှူတာကို ပြန်ရမယ်။ လှူဖွယ်ပစ္စည်းတွေကို ဝတ္ထုဒါနလို့ ခေါ်ရတယ်။

မေး။ ။စွန့်လွှတ်ပေးကမ်းမှု ဟူသမျှကို ဒါနလို့ ခေါ်ရပါသလား။

ဖြေ။ ။ခံကြွက်၍ ပေးခြင်း၊ ပြန်ပေး ဓားပြတွေကို ငွေပေးရခြင်းမျိုး၊ လာဘ်ကို မျှော်ကိုး၍ ပေးခြင်း၊ သူ့ဆီက လက်ဆောင်လိုချင်၍ ကိုယ်က လက်ဆောင်ယူသွားခြင်းမျိုး၊ ချစ်ကြိုက်၍ ပိုးကြေးပန်းကြေး ပေးခြင်းမျိုးမှာ ဒါန မဖြစ်ပါ။

ဒါနံ နာမ ပရံ ဥဒ္ဒိဿ သုဗုဒ္ဓိ ပုဗ္ဗိကာ အန္နာဒိဒါနဝတ္ထု ပရိစ္စာဂစေတနာ= ဒါနဆိုတာ သူတစ်ပါးကို ရည်ရွယ်၍ ကံ ကံ၏အကျိုးကို ယုံကြည်သော ကမ္မဿကတာဉာဏ် ရှေ့သွားရှိတဲ့ စွန့်လှူကြောင်းစေတနာ၊ ထိုစေတနာ အရ ပေးလှူမှုကိုသာ ဒါနလို့ ခေါ်ရတယ်။

မေး။ ။ဒါနမြောက်ဖို့ အင်္ဂါဘယ်နှစ်ပါးရှိသလဲ။

ဖြေ။ ။(၁) အလှူပေး ပုဂ္ဂိုလ်၊ (၂) အလှူခံ ပုဂ္ဂိုလ်၊ (၃) လှူဖွယ်ဝတ္ထု၊ (၄) လှူလိုသော စေတနာ၊ ဤအင်္ဂါ ၄-ချက် ညီညွတ်ပြည့်စုံမှ အလှူမြောက်တယ်။

မေး။ ။စေတီ ရုပ်ပွား တည်ထားတဲ့ အလှူရှင်တွေဟာ အလှူခံမရှိလို့ ဒါန မမြောက်ဘူးလား။



ဖြေ။ ။မြောက်ပါတယ်။ လူတွေ သွားလာရာ ခရီးလမ်းဆုံမှာ ရေတွင်းရေကန် တူးထားလိုက်လျှင် ခရီးသွားများ ခပ်ယူသုံးဆောင်နိုင်၏။ ခရီးသွား ခပ်သုံးသူများသည် အလှူခံဖြစ်နိုင်သကဲ့သို့ စေတီရုပ်ပွား တည်ထားပေးလိုက်ပါက နောင်လာ နောက်သားတို့ ဖူးမြော်ရင် အဲဒီ ဖူးမြော်သူတွေဟာ အလှူခံသဘော သက်ရောက်တဲ့အတွက် ရုပ်ပွားစေတီ တည်ထားမှုဟာ ဒါနမြောက်တယ်လို့ ဆိုနိုင်ပါတယ်။

မေး။ ။အလှူပေးတဲ့အခါမှာ ရေစက်ချမှ အလှူမြောက်ပါသလား။

ဖြေ။ ။ဒါနလက္ခဏာ ၄-ပါးမှာ ရေစက်ချခြင်းလို့ မပါတဲ့အတွက် အင်္ဂါ-၄ပါး ပြည့်စုံရင် ရေစက်မချလဲ အလှူမြောက်ပါတယ်။

မေး။ ။ရေစက်မချဘဲ အလှူမြောက်ရင် ဘာဖြစ်လို့ ဗုဒ္ဓဘာသာတွေဟာ အလှူ လှူပြီးရင် ရေစက်ချနေကြသလဲ။

ဖြေ။ ရေစက်ချတယ် ဆိုတာက ဆုတောင်း၊ အမျှဝေခြင်းကို လူတွေကိုယ်စား ဘုန်းကြီးတွေက ဆိုပေးတာ ဖြစ်တယ်။ လူတွေ စနစ်တကျ မဆိုတတ်လို့ ဘုန်းကြီးတွေက ဆိုပေးထားခြင်း ဖြစ်တယ်။

မေး။ ။ကျမ်းဂန်တွေမှာ ဆင်ဖြူတော်လှူစဉ် ဇေတဝန်ကျောင်းတော်ကြီး လှူတဲ့အခါ ရေစက်ချလှူတယ်လို့ ပါတယ်။ ဒီနေ့ မြန်မာတွေ ရေစက်ချသလို ချပါသလား။

ဖြေ။ ။ကျမ်းဂန်ထဲမှာပါတဲ့ ရေစက်ချနည်းကတော့ အလှူခံပုဂ္ဂိုလ်ရဲ့ လက်ထဲကို အလှူရှင်က ရေလောင်းချလိုက်

ဘယ်လို ဆိုပါတယ်။ အခုမှာကတော့ ဆင်ဖြူတော် ကျောင်းတော်ကြီးတွေဟာ မရှိပြီး ကိုယ်ထိ လက်ရောက် သာဟတ္ထိကဒါနမြောက်ဖို့အတွက် အဲဒီမရှိမနိုင်တဲ့ ဆင်ကြီး၊ ကျောင်းကြီးတွေအစား ရေကို ကိုယ်ထိ လက်ရောက် လှူတာ ဖြစ်ပါတယ်။

မြန်မာပြည် ရေစက်ချနည်းကတော့ ကိုယ်ထိလက်ရောက် လှူဒါန်းမှုကို ကိုယ်စားပြုတဲ့ အလှူ့တကာ ကိုယ်စား ဘုန်းတော်ကြီးက ဆုတောင်း၊ အမျှဝေပေးတဲ့အခါနဲ့ ရှေး ဆရာတော်ကြီးတွေက တီထွင်ခဲ့ပုံ ရပါတယ်။ ဒကာကိုယ်စား ဘုန်းကြီးက ဆုတောင်း၊ အမျှဝေပေးတဲ့အခါ အလှူရှင် ဒကာကို စိတ်မပျံ့လွင့်အောင် ရေကို တစ်စက် တစ်စက် ချခိုင်းတယ်လို့ ထင်ရပါတယ်။ ဒီလို တစ်စက် တစ်စက်ချတာကို ကြည့်ပြီး ရေစက်ချတယ်လို့ တွင်နေတာ ဖြစ်ပါတယ်။ ကျမ်းဂန်တွေမှာတော့ ဒက္ခိဏောဒက—မြတ်သောအလှူ့ရေကို၊ ပါတေတွာ—ကျစေ၍၊ (ဝါ) ချ၍လို့သာ ဆိုတယ်။ ဥဒကဗိန္ဒု—ရေစက်ကို၊ ပါတေတွာ—ကျစေ၍၊ ဝါ၊ ချ၍လို့တော့ မတွေ့ရပါဘူး။

မေး။ ။ဒါနဟာ သံသရာ ရှည်စေတယ် ဆိုတာ မှန်ပါသလား။

ဖြေ။ ။မဟုတ်ပါဘူး။ သံသရာမှ လွတ်မြောက်လိုတဲ့ အလောင်းတော်တွေဟာ ဒါနဟာ သံသရာမှ ထွက်မြောက်ကြောင်း ဖြစ်လို့သာ ဒါနပါရမီကို ပြုလုပ်ကြပါတယ်။ ပါရမီ ၁၀-ပါးမှာ ဘုရားလောင်းတွေဟာ ဒါနပါရမီကို ပထမဆုံး ဖြည့်ကြပါတယ်။



အလောင်းတော်တွေဟာ မိမိအတွက် ဤဘဝ နောက်ဘဝ သာယာရေးအတွက် ဘာတစ်ခုမျှ မတောင့်တကြ၊ သတ္တဝါ အများ ကောင်းစားစေလို ချမ်းသာစေလိုသော စေတနာ သာထား၍ လှူဒါန်းပေးကမ်းကြတယ်။ ဤဒါနမျိုးကို ပါရမီ မြောက် ဒါနလို့ ခေါ်တယ်။ အကယ်၍ မတောင့်တလိုလျှင် လည်း သံသရာမှ လွတ်မြောက်ရေး အတွက် နိဗ္ဗာန်ကိုသာ တောင့်တ၏။ ထိုကဲ့သို့လွတ်ရာ နိဗ္ဗာန်ကို တောင့်တသော ဝဋ္ဋနိဿိတဒါနသည် သံသရာကို မရှည်စေသည့်ပြင် သံသရာမှ မြန်စွာ လွတ်မြောက်ကြောင်းပင် ဖြစ်နိုင်ပါတယ်။

မေး။ ။အကျိုးကြီးအောင် ဘယ်လို လှူရမလဲ။

ဖြေ။ ။မလှူမီ ဝမ်းမြောက်၊ လှူဆဲမှာ စိတ်ကြည်လင်၊ လှူပြီး ဝမ်းမြောက် ကြည်နူးခြင်းဆိုတဲ့ ဒကာဘက်က အင်္ဂါ ၃-ပါး၊ အလှူခံဘက်က ရာဂ-ဒေါသ-မောဟ ကင်းပြီးသူ၊ ကင်းအောင် ကျင့်နေသူ ဖြစ်ခြင်းဆိုတဲ့ အင်္ဂါ ၃-ပါးနဲ့ပြည့်စုံရင် အကျိုးကြီးတယ်။

မဟာသမုဒ္ဒရာရေကို နှိုင်းဆမရသလို ဒီအင်္ဂါ ၆-ပါးနဲ့ ညီတဲ့ အလှူရဲ့ အကျိုးကျေးဇူးကိုလဲ နှိုင်းယှဉ်ရေတွက်မရဟု အင်္ဂုတ္တိုရ်ဆက္ကနိပါတ် နန္ဒမာတာသုတ်ပါဠိတော်မှာ အလှူအကြောင်း ဘုရား ဟောထားတယ်။

မေး။ ။ဥစ္စာပစ္စည်း ရှာဖွေရရင် ဘယ်လို ခွဲခြမ်းဝေဖန်ရမလဲ။

ဖြေ။ ။ကောသလ သံယုတ်မှာ သူဌေးကြီး တစ်ဦးဟာ သိန်း ၈၀-ကြွယ်ဝတယ်။ မစားရက်၊ မလှူရက်ဘူး။ နေ့စဉ်

ပုန်းရည်နဲ့ ဆန်ကွဲထမင်းစားတယ်။ သူသေတော့ သူ့ပစ္စည်း ဘုရင် သိမ်းသွားတယ်။ ဒါကို အကြောင်းပြုပြီး ဘုရားရှင်က....

> လူသူမရှိရာ တောသဲ၌ ဘယ်သူမျှ သောက်သုံးရ
> ခြင်း မရှိတဲ့ ခြောက်ခန်းသွားသော ရေကန်ကြီး
> မှာ လူညံ့များ၊ ဥစ္စာရသော် မိမိလည်း မစား
> ရက်၊ သူတစ်ပါးကိုလည်း မပေးရက်ကြ။ ပညာ
> ရှိကား ဥစ္စာရသော် မိမိလည်း သုံးစား၊ အများ
> ကိုလည်း ဆောင်လျက် ဆွေမျိုး အပေါင်းကို
> ကျွေးမွေးကာ အကဲ့ရဲ့ မခံရ၊ အချီးမွမ်းသာခံရ၍
> သေသော် နတ်ပြည်သို့သာ ရောက်ရ၏

ဟု ဟောထားတယ်။ ဒီတော့ ကိုယ်ရှာလို့ ရရှိတဲ့ ပစ္စည်း ဥစ္စာကို ပညာရှိသုံး သုံးနိုင်ကြဖို့ အထူးသတိပြုသင့်ပါတယ်။

မေး။ ။ဒါနပြုတဲ့ လူဟာ ငွေကုန် လူပန်းတာပဲ အဖတ် တင်တယ်ဆိုတာ မှန်ပါသလား။

ဖြေ။ ။မမှန်ပါဘူး။ ဒါနပြုတယ်ဆိုတာက အခုအစိုးရ ပင်ဆောင်စပါး ဝယ်သလိုပါပဲ။ မိုးဦးကျမှာ စိုက်ပျိုးစရိတ် တွေကို အစိုးရက ထုတ်ပေးထားပြီး စပါးပေါ်တော့ စပါး ပြန်ရပါတယ်။ ပေးလှူတာဟာလဲ ပေးတဲ့အခါ ကုန်သွား တာတော့ မှန်ပါတယ်။ အခုဘဝနဲ့ နောက်ဘဝအဆက်ဆက် မှာ အကျိုးခံစားခွင့်ရနိုင်မယ့် ကုသိုလ်ကို ကိုယ်က ပြန်ရလိုက် ပါတယ်။ ကိုယ်ပိုင်တဲ့ ပစ္စည်းကို ယခုဘဝ တစ်သက်တာ သုံးစွဲခြင်း မဟုတ်ဘဲ နောင်သံသရာ ဘဝအဆက်ဆက်မှာ ကိုယ်နဲ့သုံးစွဲနိုင်ဖို့ ကိုယ်နဲ့တစ်ပါတည်း ယူသွားခြင်းသာ ဖြစ်



ပါတယ်။ အဲဒီလို ကိုယ်ဘယ်ဘဝရောက်ရောက် ကိုယ်နဲ့ထပ်တူ အမြဲပါနေတဲ့အတွက် အနုဂါမိကရွှေအိုး = ကိုယ်နဲ့ အမြဲပါ နေတဲ့ ရွှေအိုးကြီးနဲ့ တူတယ်လို့ ကျမ်းဂန်မှာ ပြပါတယ်။

ဒီနေ့ ကျွန်တော်တို့ပိုင်တဲ့ ငွေတွေဟာ ဒီမြန်မာပြည်မှာသာ သုံးလို့ရပါတယ်။ အမေရိကန်ဒေါ်လာသုံးတဲ့ နိုင်ငံကို သွား တော့မယ်ဆိုရင် မြန်မာငွေလဲဌာနမှာ ထားခဲ့ပြီး ချက်လက် မှတ်သာ ယူသွားရသလိုပါပဲ။ အလှူဒါနပြုတယ် ဆိုတာက မြန်မာငွေတွေကို ငွေလဲရေးဌာနမှာ သွင်းခဲ့တာ ဖြစ်ပါတယ်။ ပြီးတော့ ချက်လက်မှတ် ထုတ်ယူသွားသလို ကုသိုလ်စေတနာ ဆိုတဲ့ ချက်လက်မှတ်ကို ထုတ်ယူထားခြင်း ဖြစ်တယ်။

လူတိုင်းဟာ ဘဝသံသရာခရီးကို သွားကြရမှာ ဖြစ်တော့ သံသရာခရီးမှာ သုံးလို့ရမယ့် စွဲလို့ရမယ့် ဒါနချက်လက်မှတ် ကိုလဲ လဲလှယ်ထားကြဖို့ အထူး လိုအပ်ပါတယ်။

မေး။ ။နိဗ္ဗာန်ရောက်ကြောင်း အကျင့်သီလ၊ သမာဓိ၊ ပညာ သုံးဆင့်သာ ပြပါတယ်။ ဒါန မပါဘူး မဟုတ်လား။

ဖြေ။ ။မှန်ပါတယ်။ သီလ၊ သမာဓိ၊ ပညာအဆင့်ဆင့် တက်သွားရင် နိဗ္ဗာန်ရောက်သွားပါမယ်။ ဒါပေမယ့် နိဗ္ဗာန် ခရီးကို တစ်ဘဝတည်း သွားလို့ ရောက်တာ မဟုတ်ပါဘူး။ တကယ်လို့သာ အခု တစ်ဘဝတည်းနဲ့ နိဗ္ဗာန်ရောက်မှာ သေ ချာတယ်ဆိုရင်တော့ ဒါနမပြုလဲ ဖြစ်နိုင်ပါတယ်။ လူသူမရှိတဲ့ တောကြီးတောင်ကြီးထဲမှာ သစ် ဝါး သွားခုတ်မယ့် လူဟာ အဓိကလက်နက်ဖြစ်တဲ့ ဓားတွေ လှံတွေ ကြိုးတွေ ပါရုံလောက် နဲ့ မလုံလောက်ပါဘူး။ သုံးရက် ငါးရက် ကြာမယ်ဆိုရင်

သုံးရက်၊ ငါးရက်စာ ရိက္ခာပါဖို့လိုပါတယ်။ ရိက္ခာ မပါရင် တော့ သူ့ရဲ့ အဓိကလုပ်ငန်း သစ်ဝါးတွေကို မခုတ်မသယ် နိုင်တော့ပါဘူး။ အလားတူပါပဲ၊ သံသရာခရီးပေါင်း တယ် လောက် လျှောက်ကြရဦးမယ်လို့ မသိကြတဲ့ လူတွေဟာ ဒီခရီးရှည် အနာဂတ်အတွင်းမှာ စားသုံးဖို့ ရိက္ခာလိုပါတယ်။ ဒါနဟာ အကောင်းဆုံး ရိက္ခာထုပ် ဖြစ်ပါတယ်။ ဒါနံ ပါထေယျံ မှတ္တံ—လို့ ဟောပါတယ်။ ဒါကြောင့် ဒါနဟာ နိဗ္ဗာန်ရောက်ကြောင်း၊ လမ်းစဉ်မဟုတ်ပေမယ့် နိဗ္ဗာန်လမ်း ခရီးရှည်ကြီးကို လျှောက်တဲ့အခါမှာ မရှိမဖြစ် လိုအပ်တဲ့ ရိက္ခာထုပ်ကြီးဖြစ်လို့ မလွဲမသွေ ပြုလုပ်ရမယ့် ဘာသာရေး လုပ်ငန်းကြီး ဖြစ်တယ်လို့ မှတ်ပါ။

....ဝ....

# (၁၅)

## ကံစီမံရာ

သုဘာအမေး။ ။အရှင်ဘုရား၊ လူတွေဟာ လူချင်း တူပါလျက် အသက် တို-ရှည်၊ ရောဂါ နည်း-များ၊ အဆင်း လှ-မလှ၊ အခြံအရံ များ-မများ၊ စည်းစိမ်ဥစ္စာ နည်း-များ၊ အမျိုး ယုတ်-မြတ်၊ ပညာရှိ-မဲ့ ကွဲပြားနေရတာ ဘာကြောင့်ပါလဲ။

ဘုရားရှင် ဖြေ။ ။လုလင်၊ သတ္တဝါတို့သည် ကံသာလျှင် မိမိဥစ္စာ ရှိကြတယ်။ ကံရဲ့ အမွေခံတွေ ဖြစ်ကြတယ်။ ကံသာ လျှင် ဆွေမျိုး၊ ကံသာလျှင် မှီခိုရာ ရှိကြတယ်။ အယုတ်အမြတ် ချမ်းသာ ဆင်းရဲဖြစ်ဖို့ ကံသာလျှင် ဝေဖန်ပိုင်းခြား ပေးနေ တယ်။

သုဘာအမေး။ ။လူတွေ ဘာကြောင့် အသက် တို-ရှည် ဖြစ်ရပါသလဲ။

ဘုရားရှင် ဖြေ။ ။လုလင်၊ သူ့အသက်ကို သတ်လေ့ရှိသူ၊ ကြမ်းကြုတ်ရက်စက် သနားကြင်နာမှု ကင်းတဲ့လူဟာ သေရင် ငရဲကို ရောက်ရမယ်။ ငရဲမရောက်ဘဲ လူလာဖြစ်ရင် အသက် တိုရတတ်တယ်။

သူ့အသက် သတ်ခြင်းမှ ရှောင်လေ့ရှိသူ၊ သနားကြင်နာတတ်သူ၊ သတ္တဝါတွေရဲ့ အကျိုးကို လိုလားသူဟာ သေရင် နတ်ပြည်ရောက်ရမယ်၊ လူ့ပြည်မှာ ဖြစ်ရင်လဲ အသက်ရှည်ရတယ်။

သုဘအမေး။ ။လူတွေဟာ ဘာကြောင့် အနာရောဂါ နည်းရ များရသလဲ။

ဘုရားရှင်ဖြေ။ ။တုတ်၊ လက်နက် စသည်ဖြင့် သတ္တဝါတွေကို ညှဉ်းဆဲနှိပ်စက်တတ်တဲ့လူဟာ သေရင် အပါယ်ရောက်ရမယ်။ လူလာဖြစ်ရင် အနာရောဂါ များရတယ်။ အချို့လူများက ညှဉ်းဆဲနှိပ်စက်လေ့မရှိဘူး။ သူတို့သေသော် နတ်ပြည်မှာ ဖြစ်ရတယ်။ လူ့ပြည်မှာဖြစ်ရင်လဲ အနာရောဂါ ကင်းကြတယ်။

သုဘအမေး။ ။လူတွေ ဘာကြောင့် ရုပ်ဆိုး–ရုပ်ချော ဖြစ်ကြရပါသလဲ။

ဘုရားရှင် ဖြေ။ ။အချို့လူတွေဟာ အမျက်ဒေါသကြီးတယ်၊ မနှစ်သက်ဖွယ်စကား၊ ကြမ်းတမ်းတဲ့ စကားကို ပြောဆိုကြတယ်၊ ထိုသူတွေ သေရင် ငရဲရောက်ရတယ်။ လူ့ပြည်မှာ လာဖြစ်ရင်လဲ အရုပ်ဆိုးကြတယ်။

အချို့ လူတွေကတော့ အမျက်မထွက်၊ မကြမ်းတမ်း၊ သည်းခံတတ်တယ်။ ထိုသူတို့သေရင် နတ်ပြည် ရောက်ရတယ်၊ လူလာဖြစ်ပြန်ရင်လဲ အဆင်းလှပ ရှုချင်ဖွယ် ရှိကြတယ်။

သုဘအမေး။ ။လူတွေ ဘာကြောင့် အခြံအရံ နည်းကြ များကြပါသလဲ။



ဘုရားရှင်ဖြေ။ ။အချို့လူတွေဟာ သူတစ်ပါးတို့ လာဘ်ရမှု၊ အရိုအသေ၊ အမြတ်အနိုး၊ အပူဇော်ခံရမှုကို မနာလိုဖြစ်ကြ၏။ ထိုသူတို့သေလျှင် ငရဲပြည်ကိုရောက်၍ လူဖြစ်ပြန်သောအခါ အခြံအရံမရှိ ဖြစ်ရတတ်တယ်။

သူတစ်ပါး၊ လာဘ်ရခြင်း၊ အရိုအသေ၊ အမြတ်အနိုး၊ အပူဇော် ရှိခိုးခံရမှုကို မနာလို ဝန်တိုမှုမဖြစ်၊ ထိုသူ သေသောအခါ နတ်ပြည်မှာ ဖြစ်ရတယ်၊ လူလာဖြစ်ပြန်တော့လဲ အခြံအရံ များကြရတယ်။

သုဘအမေး။ ။လူတွေဟာ ဘာ့ကြောင့် စည်းစိမ် နည်းများ ကွဲပြားကြပါသပါသလဲ။

ဘုရားရှင် ဖြေ။ ။အချို့လူတွေဟာ သမဏဗြာဟ္မဏခေါ် ရဟန်းပုဏ္ဏားတွေကို ပေးလှူပူဇော်မှု မပြုကြဘူး။ ပေးလှူလို့ အကျိုးမရှိဟု မှားယွင်းစွာ ယူဆကြတယ်။ ထိုလူတွေ သေတဲ့အခါ ငရဲမှာ ဖြစ်ရတယ်။ လူလာဖြစ်ပြန်တော့ စည်းစိမ်ဥစ္စာ နည်းပါးကြတယ်။

အချို့ကတော့ သမဏဗြာဟ္မဏ ရဟန်းပုဏ္ဏားတွေကို ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေး ပစ္စည်းလေးပါးကို ပေးလှူကြတယ်။ ထိုသူတွေဟာ သေရင် နတ်ပြည်ရောက်ရတယ်၊ လူလာဖြစ်ပြန်ရင် စည်းစိမ်ဥစ္စာ ပေါများကြတယ်။

သုဘအမေး။ ။လူတွေဟာ ဘာကြောင့် အမျိုးယုတ်ကြ မြတ်ကြပါသလဲ။

ဘုရားရှင်ဖြေ။ ။အချို့လူတွေဟာ မာန်မာန ခက်ထန် ထောင်လွှားကြတယ်။ ရှိသေမြတ်နိုး ရှိခိုးပူဇော်ထိုက်သူကို မရှိသေ မမြတ်နိုး၊ မရှိခိုး၊ မပူဇော်၊ ထိုလူတို့ သေရင် ငရဲပြည်မှာဖြစ်၍ လူဖြစ်ပြန်သောအခါ အမျိုး ယုတ်မာ

အောက်ကျ နောက်ကျ ဘဝမှာ ဆင်းဆင်းရဲရဲဘဝမှာ လာဖြစ်ရတယ်။

အချို့လူများကတော့ မာန်မာန မထောင်၊ ရှိသေဖြတ်နိုးရိုရိုးပူဇော်ထိုက်သူကို ပူဇော်တယ်။ ထိုသူသေရင် နတ်ပြည်ရောက်တယ်။ လူ့ပြည်လာဖြစ်ရင် အမျိုးမြတ်၍ ဂုဏ်သရေရှိအသက်တန်းလွှာမှာ လာဖြစ်ရတယ်။

သူဘအမေး။ ။လူတွေ ဘာကြောင့် ပညာမဲ့ ပညာရှိ ဖြစ်ကြပါသလဲ။

ဘုရားရှင်ဖြေ။ ။အချို့သူများသည် သမဏဗြာဟ္မဏပညာဘတ်မြောက်သူကို ချဉ်းကပ်၍ ဆွေးနွေးမေးမြန်း နာခံနတ်သားလေ့မရှိ၊ ထိုလူမျိုးသေရင် ငရဲဖြစ်ရတတ်၍ လူဖြစ်သာသောအခါ ပညာမဲ့ကြ၏။ ဉာဏ်ထိုင်းကြ၏။

အချို့သူများကား သမဏဗြာဟ္မဏ ရဟန်းပုဏ္ဏားတို့ထံ ချဉ်းကပ်လျက် အကောင်း၊ အဆိုး အကြောင်း၊ အကျိုးတရားသဘောတို့ကို ဆွေးနွေးမေးမြန်းကြ၏။ ထိုသူတို့ သေသော်နတ်ပြည်မှာ ဖြစ်၍ လူဖြစ်လာပြန်သောအခါ ပညာရှိ၏။ ဉာဏ်ထက်မြက်၏။

မေး။ ။အထက်ပါ မကောင်းမှု ကောင်းမှုတွေဟာ နောက်ဘဝမှာ အကျိုးပေးပါသလား။ ဒီပစ္စုပ္ပန် ဘဝမှာ အကျိုးမပေးဘူးလား။

ဖြေ။ ။အထက်ပါ ကောင်းမှုတွေကို ပြုလုပ်သူတွေဟာ အခုဘဝမှာ လက်ငင်းဒိဋ္ဌ အကျိုးတွေကို ခံစားနိုင်ပါတယ်။ မကောင်းတဲ့ အဖြစ်တွေကို ပြုလုပ်တဲ့ သူတွေဟာလဲ ချက်ချင်း လက်ငင်း မကောင်းတဲ့အကျိုးကို ခံစားကြရပါတယ်။ ဒါတွေကတော့ မျက်မြင်ဒိဋ္ဌဖြစ်လို့ ဘုရား



ရှင်က သိပ်ပြောမနေတော့ဘာ ဖြစ်ပါတယ်။ သူဘက မေးလို့ဘုရားရှင် ဖြေထားတဲ့ မိမိပြုသမျှ ကံသာလျှင် အကြောင်းရင်း၊ ထိုကံ၏ အမွေခံသာ ဖြစ်ကြရမည်ကို နှလုံးသွင်းပြီးကောင်းတဲ့ အကျိုးတွေရအောင် ကောင်းတာတွေ လုပ်ဖို့မကောင်းတဲ့ အကျိုးတွေ မဖြစ်ရအောင် မကောင်းတာတွေမလုပ်မိအောင် သတိပြုအပ်ပေသတည်း။ ။

....o....

# နိဂုံး

ကျွန်ုပ်တို့ ကိုးကွယ်ဆည်းကပ် အားထားရာ ဖြစ်သော ဂေါတမဘုရားရှင်သည် အိန္ဒိယပြည် မဇ္ဈိမဒေသ၌ ပွင့်တော်မူသည်။ တရားတော်များကို ပါဠိဘာသာဖြင့် ဟောကြားတော်မူခဲ့သည်။ ဘုရားဟော တရားတော်များကို နိကာယ်အားဖြင့် ငါးရပ်၊ ပိဋကအားဖြင့် သုံးပုံခွဲခြားကာ ပါဠိဘာသာဖြင့်ပင် သံဂါယနာခြောက်တန် တင်ခဲ့ကြသည်။ ရှေးဆရာတော်ကြီးများက ဗုဒ္ဓဘာသာတို့၏ နေ့စဉ်ကျင့်ဝတ်များကိုလည်း ပါဠိဘာသာဖြင့်ပင် အများအားဖြင့် စီစဉ်ခဲ့ကြသည်။

သို့ရာတွင် သမိုင်း၏ ပြောင်းလဲရေး ဖြစ်စဉ်အရ ရဟန်းသာမဏေမဟုတ်သော မြန်မာအရပ်သူ အရပ်သား လူသာမန်တို့သည် ပါဠိဘာသာကို သင်ကြားခွင့် မရတော့သဖြင့် မိမိတို့ နေ့စဉ်ရွတ်ဖတ်သီဆိုနေသော ဘာသာရေး ကျင့်ဝတ်များ၏ အဓိပ္ပာယ်ကို ပီပီပြင်ပြင် ရှင်းလင်း နားလည်ခြင်း မရှိကြတော့ချေ။ မိရိုးဖလာ ထုံးတမ်းစဉ်လာအရ လူကြီးမိဘတို့ထံမှ ဘာသာရေးကျင့်ဝတ်များကို ပါဠိဘာသာဖြင့် လက်ခံ ယူလိုက်သော်လည်း ထိုပါဠိဘာသာ၏ အဓိပ္ပာယ်



အပြည့်အစုံကိုကား သိယူမှတ်သားခြင်း မပြုလုပ်နိုင်ခဲ့ကြပေ။

ယခုခေတ် သိပ္ပံပညာ ထွန်းကားရာ၌ အရာရာကို ဆန်းစစ်လက်ခံလိုမှုများ ထွန်းကားလာသောအခါ အချို့သော ဘာသာရေးကျင့်ဝတ်များကို ဝေဖန်ဆန်းစစ်လာကြသည်။ ထိုသို့ ဆန်းစစ်ရာ၌ ထိုဘာသာရေး ကျင့်ဝတ်များကို စီစဉ်ထားသော မြန်မာဘိုးဘေးတို့၏ ရည်ရွယ်ချက်ကို မသိသဖြင့် အဓိပ္ပာယ်မရှိသကဲ့သို့ ထင်မြင်မှတ်ယူ ဝေဖန်ကြကုန်သည်။ မိမိကိုယ်တိုင် မှတ်ယူထားရုံမျှက ဤဘာသာရေး ကျင့်ဝတ်များ မည်သို့မှားသည် စသည်ဖြင့် မိမိကိုယ်ကို ပညာတတ်ကြီးထင်အောင် ပြောဟောကြသည်။

ထိုသို့ ပြောဟောသူက ဗုဒ္ဓိုလ် ကာလဒေသကို ကြည့်၍ ဟောထားသော သုတ္တန်ပါဠိကို တရားသေ စွဲမှတ်ချက်ဆိုကာ ယုတ္တိယုတ္တာမရှိ ပြောဟောသောအခါမှသာ ဘာအဓိပ္ပာယ်မှ မသိဘဲ ဘယ်လိုရည်ရွယ်ချက်နှင့် ရှေးမြန်မာတို့ ဤသို့ စီစဉ်ခဲ့သည်ကို မသိဘဲ ပါဠိဘာသာဆိုရိုးကိုသာ ရွတ်တတ်၍ အသိဉာဏ်နှင့် မယှဉ်သည့် မိရိုးဖလာ ဗုဒ္ဓဘာသာတို့သည် အဟုတ်ထင်ကုန်ကြသည်။ ထိုဆရာမျိုးကိုပင် ဆရာတစ်ဆူအဖြစ် ကိုးကွယ်ဆည်းကပ်ကြသည်။ မှန်ကန်သော ဘာသာတရားပေါ်၌ သံသယတွေ ဖြစ်လာကြသည်။

ဗုဒ္ဓဘာသာဝင်မှန်သမျှ မိမိပြုလုပ်နေသော ရွတ်ဆိုနေသော ဘာသာရေးဆိုင်ရာ လုပ်ဆောင်ချက်များကို အဓိပ္ပာယ် သိထားသင့်သည်။ ရည်ရွယ်ချက်ကို သိထားသင့်သည်။ ဤသို့ ပြုလုပ်ခြင်းဖြင့် မည်သည့် အကျိုးအာနိသင်များ ခံစားရသည်

ကို ကိုယ်တိုင် သိထားသင့်သည်။ ထိုသို့ အခြေခံကျကျ သိထားပါက တတ်ယောင်ကား အဖျက်သမားတို့ မည်သို့ ပြောသော စကားမှ မိမိကျင့်ကြံ လုပ်ဆောင်မှုအပေါ်၌ သံသယစော ဝင်ကာတော့မည် မဟုတ်၊ ထိုတတ်ယောင်ကား စိတ်ကူးယဉ် သမားများကိုပင် အမြင်မှန်ရအောင် ရှင်းပြနိုင်ပေလိမ့်မည်။

မိရိုးဖလာ ဗုဒ္ဓဘာသာအဆင့်မှ အသိနှင့်ယှဉ်သော ဗုဒ္ဓဘာသာအဆင့်သို့ရောက်၍ ဘုရားရှင်၏ တရားတော်များကို လက်တွေ့ကျင့်ကြံနိုင်ပြီး ပစ္စုပ္ပန် တမလွန် နှစ်တန်သော အကျိုးကို ခံစားနိုင်ကြစေရန် ရေးသားအပ်သော မိရိုးဖလာလွန် ဗုဒ္ဓဘာသာစာအုပ်သည် ၁၃၁၇-ခု၊ ဝါခေါင်လဆန်း ၆-ရက်၊ အင်္ဂါနေ့တွင် ပြီးဆုံးအောင်မြင်ပါသတည်း။

သောင်းထွင်

ရန်ကုန်၊ ၁၂-၈-၅၅

